# PRAYER BOOK

## IN BURMESE

BY A CATHOLIC MISSIONARY.



ဗရင်ကျိရဟန်းတပါးကစီရင်ရေထားသော
ဆုတောင်းမေတ္တာစာ။

*3rd. Edition.*



BASSEIN:
CATHOLIC MISSION PRESS.

1868 (2000)

## ဆုတောင်းမေတ္တာတို့၏အချုပ်။

——oo——

# နှစ်တိုင်းနေ့ရက်မမြဲပြောင်းလဲ

| နှစ် | ဧပက်ထ | သဲပ်တွာဂေ ဇီမား | ပြာကိုခံရာနေ့ |
|---|---|---|---|
| ၁၈၆၈ | ၆ | ၉ ဖေဖြွာရီ | ၂၆ ဖေဖြွာရီ |
| ၁၈၆၉ | ၁၇ | ၂၄ ဇာနွာရီ | ၁၀ ...... |
| ၁၈၇၀ | ၂၈ | ၁၃ ဖေဖြွာရီ | ၂ မာစ |
| ၁၈၇၁ | ၁၉ | ၅ ...... | ၂၂ ဖေဖြွာရီ |
| ၁၈၇၂ | ၂၀ | ၂၈ ဇာနွာရီ | ၁၄ ...... |
| ၁၈၇၃ | ၁ | ၉ ဖေဖြွာရီ | ၂၆ ...... |
| ၁၈၇၄ | ၁၂ | ၁ ...... | ၁၈ ...... |
| ၁၈၇၅ | ၂၃ | ၂၄ ဇာနွာရီ | ၁၀ ...... |
| ၁၈၇၆ | ၄ | ၁၃ ဖေဖြွာရီ | ၁ မာစ |
| ၁၈၇၇ | ၁၅ | ၂၈ ဇာနွာရီ | ၁၄ ဖေဖြွာရီ |
| ၁၈၇၈ | ၂၆ | ၁၇ ဖေဖြွာရီ | ၆ မာစ |
| ၁၈၇၉ | ၇ | ၉ ...... | ၂၆ ဖေဖြွာရီ |
| ၁၈၈၀ | ၁၈ | ၂၅ ဇာနွာရီ | ၁၁ ...... |
| ၁၈၈၁ | * | ၁၃ ဖေဖြွာရီ | ၂ မာစ |
| ၁၈၈၂ | ၁၁ | ၅ ...... | ၂၂ ဖေဖြွာရီ |
| ၁၈၈၃ | ၂၂ | ၂၁ ဇာနွာရီ | ၇ ...... |
| ၁၈၈၄ | ၃ | ၁၀ ဖေဖြွာရီ | ၂၇ ...... |
| ၁၈၈၅ | ၁၄ | ၁ ...... | ၁၈ ...... |
| ၁၈၈၆ | ၂၅ | ၂၁ ...... | ၁၀ မာစ |
| ၁၈၈၇ | ၆ | ၆ ...... | ၂၃ ဖေဖြွာရီ |

## တတ်သောပွဲတော်တို့၏စာရင်း။

| ပါသျှကူး ပွဲနေ့ | သပိရိကူးသိတ္တူ ပွဲနေ့ | အာဒဗင်တူ ပဌမ တနင်္ဂနွေနေ့ |
|---|---|---|
| ၁၂ ဧပြီလ | ၃၁ မေ | ၂၉ နိုဝင်ဘာ |
| ၂၈ မာစ | ၁၆ ...... | ၂၈ ...... |
| ၁၇ ဧပြီလ | ၅ ဇွန် | ၂၇ ...... |
| ၉ ...... | ၂၈ မေ | ၃ ဒီဇင်ဘာ |
| ၃၁ မာစ | ၁၉ ...... | ၁ ...... |
| ၁၃ ဧပြီလ | ၁ ဇွန် | ၃၀ နိုဝင်ဘာ |
| ၅ ...... | ၂၄ မေ | ၂၉ ...... |
| ၂၈ မာစ | ၁၆ ...... | ၂၈ ...... |
| ၁၆ ဧပြီလ | ၄ ဇွန် | ၃ ဒီဇင်ဘာ |
| ၁ ...... | ၂၀ မေ | ၂ ...... |
| ၂၁ ...... | ၉ ဇွန် | ၁ ...... |
| ၁၃ ...... | ၁ ...... | ၃၀ နိုဝင်ဘာ |
| ၂၈ မာစ | ၁၆ မေ | ၂၈ ...... |
| ၁၇ ...... | ၅ ဇွန် | ၂၇ ...... |
| ၉ ဧပြီလ | ၂၈ မေ | ၃ ဒီဇင်ဘာ |
| ၂၅ မာစ | ၁၃ ...... | ၂ ...... |
| ၁၃ ဧပြီလ | ၁ ဇွန် | ၃၀ နိုဝင်ဘာ |
| ၅ ...... | ၂၄ မေ | ၂၉ ...... |
| ၂၅ ...... | ၁၃ ဇွန် | ၂၈ ...... |
| ၁၀ ...... | ၂၉ မေ | ၂၇ ...... |

# နိဒါန်း။

ကရိသျှတောင်တို့၏ ထူးခြားသောဝတ်တရားတို့တွင်။ ဆုတောင်းခြင်းအမှုတော်သည်ကြီးလေးစွာသောဝတ်တရားဖြစ်ပါသည်။ ထိုဝတ်တရာကိုကောင်းမွန်စွာဖြေရသောလမ်းကိုပြအောင် ဤဆုတောင်းမေတ္တာစာကိုငါသည်စီရင်ရေးထားပါပြီး။

ဆုတောင်းပဌာနာကို အစည်မပြတ်ပြုအောင် အမိန့်တော်ဖြင့်၎င် အကျင့်တော်ဖြင့်၎င်သခင်ယေရှုသည် အကျွန်ုပ်တို့ကိုကိုက် တွန်းနှိုးဆော်တော်မူလေ၏။ အောဝါဒစာတို့ကိုရေထားကုံပြီးသောတပြည့်တော်ကြီးတို့သည် ထိုမြတ်သောအမှုတော်၌ကျိုးစားမြဲအောင် အသင်းတော်သို့ဝင်ပြီးသောတပြည့်တော်တို့ကိုမှာထားကြလေပြီး။

ထူးဆန်းသောအကျိုးတို့ကို ဆုတောင်းပဌာနာသည်ပေးတတ်ပါ၏။ဘုရားသခင်နှင့်လူတို့ကိုတလုံးတဝတည်းကောင်းမွန်စွာဖြစ်စေတတ်၏။ ကောင်းကင်နိုင်ငံတော်၏ရွှေတံခါးကို ဖွင့်သောရွှေသော့တော်ဖြစ်၏။ ဘုရားသခင်၏ဂုဏ်ကျေးဇူးတော်ကိုချီးမွမ်းတတ်၏။ လူတို့အပြစ်အမှားကြောင့်ထွက်သောအမျက်တော်ကိုဖြေတတ်၏။ ဘုရားသခင်၏ကျေးဇူးတော်တို့ကို၊ သိမှတ်တင်ဆပ်တတ်၏။ ကောင်းကင့်ဘုံမှလူဘုံသို့၊ အထူးထူသောကျေးဇူး

တော်တို့ကို၊ ရောက်စေကတတ်၏။ ပူဆွေးပူလောင်ခြင်းရှိသောသူတို့အား၊ သာယာချမ်းသာခြင်းကို၊ ပေးတတ်၏။ ကိုးကွယ်မဲ့ရှိသောသူတို့အား၊ မြဲမြန်စွာသောကိုးကွယ်မှီခိုရာဖြစ်၏။

သို့သောကြောင့်၊ ကရိသျှတောင်တို့သည်ဆုတောင်းခြင်းအမှုတော်ကို အလွန်လေးမြတ်ပြုရအပ်သည်၊ ဖြစ်၍အထူးသဖြင်းကြီးသောသတိဝိရိယနှင့်ကျိုးစားရအပ်သည်။ ရွှေနန်းတော်သို့ရောက်ထိုက်သောဆုတောင်းပဌနာကို ပြုလိုကြသောသူတို့သည်၊နောက်ပါသောအချက်လေးပါးတို့ကိုမှတ်၍နှစ်လုံးသွင်းရအပ်သည်။

ပထမကား။ အရပ်ရပ်၌နေတော်မူထသော၊ခပ်သိမ်းသောအရာတို့ကိုသိမြင်တော်မူထသော၊ ဘုရားသခင်မျက်မှောက်တော်၌ ရှိနေသည်ဟုအမှတ်နှင့်၊ ကြီးစွာသောသတိနှင့်ဆုတောင်းရအပ်သည်။ မေတ္တာကိုပြုစသောအခါ၊ ပရောဖက်တပါးမိန့်တော်မူသည်အတိုင်း၊ငါ၏စိတ်အလို၊ ငါ၏ဉာဏ်ပညာ၊ငါ၏ဝိညည်လာလေကုံလော့။ အထူးသဖြင့်မြင့်တော်မူသောဘုရားကိုချီးမွမ်းကြလော့။ ဟူ၍ကိုယ်စိတ်နှစ်ပါးကို နှိုးဆော်ခေါ်လျှက် အားရှိလေမျှဖြင့်၊ ဆုတောင်းအပ်သည်။

ဒုတိယအချက်ကား။စိတ်သဘောဖြင့်၊မြဲမြန်စွာသောယုံကြည်လေးမြတ်ခြင်း ဆုတောင်းခြင်းအမှုကိုပြုရအပ်သည်။အကြောင်းမူကား။ဘုရားသခင်

သည့် အကျွန်ုပ်တို့၏ ချစ်ဖွယ်လှသော အဖဖြစ်တော်မူသည်နှင့်အညီ။ အကျွန်ုပ်တို့ကိုအတိုင်းမသိချစ်သနားတော်မူ၏။ ၎င်ပြင်၊ ဆုတောင်းသောသူတို့၏အသံကို၊ နားခံတော်မူမည်ဟုအခါများစွာဗျာဒိတ်တော်ထားတော်မူလေ၏။

တတိယအချက်ကား။ အားမပေါ့မလျော့မတုံ့မလှုပ်ဘဲ၊ မြန်စွာသောသဘောဖြင့် ဆုတောင်းရအပ်သည်။ အကြောင်းမူကား။ တော်သင့်သောအချိန်ကာလ၌လျောက်ရော့သို့ ဘုရားသခင်ပေးတော်မူမည်ဟုကေန်အမှန်ဖြစ်သည်။

စတုတ္ထအချက်ကား။ လူတို့၏အာမခံဖြစ်တော်မူသော၊ သခင်ယေရှုကိုအမှီပြု၍၊ ယုံကြည်ခြင်းနှင့်ဆုတောင်းရအပ်သည်။ ငါ၏နာမတော်ကိုတောက်၍ငါ၏ခမည်းတော်အား၊ တစုံတခုကိုတောင်းလျှောက်လျှင်တောင်းလျှောက်သမျှကို သင်တို့အား၊ သနားတော်မူလိမ့်မည်ဟုကျမ်းဂံမှာအထွက်တည်း။

ဤအချက်လေးပါးတို့ကို၊ သတိနှင့်၊ မှတ်ထား၍နှစ်လုံးထဲ၌သွင်းလျှက် မြတ်စွာသောဆုတောင်းခြင်းအမှုတော်ကို၊ အတော်အတန်ပြုအောင်အလွန်ကျိုးစားကြကုံလော သခင်ယေရှု၏တပြည့်တော်အဖြစ်သို့ရောက်ပြီးသောကြောင့်သျှတောင်တို့။

—— oo ——

ဆုတောင်းမေတ္တာတို့ကို၊ ရေးစမပြုခင်၊ အမြဲယုံရာ၊
သတိနှင့်မှတ်ရာအချက်များကို၊
လက်ဦးစီရင်ပေအံ့။

ကမ္ဘာမိုဃ်းမြေတို့ကို ဖန်ဆင်းတော်မူသော ဘုရားတဆူသာရှိတော်မူ၏။

ခမည်းတော်၊သားတော်။ သန့်ရှင်းသောဝိညာဉ်တော်ဘည်းဟူသောပုဂ္ဂိုလ်သုံးပါးတို့သည် ဘုရားတဆူ၌ဖြစ်တော်မူ၏။

ခမည်းတော်ကားဘုရား။ သားတော်ကားဘုရား။ ဝိညာဉ်တော်ကားဘုရား။ ဟူ၍ပုဂ္ဂိုလ်တပါးစီဘုရားအမှန်အကန်ဖြစ်တော်မူ၏။ ဤသုံးပါး၌ဖြစ်တော်မူသော။ ဘုရားတဆူကိုသာမှတ်ရအပ်သည်။

ဤသုံးပါးတို့တွင်၊အကြီးအငယ်အနိမ့်အမြင့်မရှိ။ အလုံးစုံနှင့်အတူတူတရှည်တပြိုင်တည်း၊ ပြည့်စုံတော်မူတုန်၏။

ရတနာသုံးပါးအနက်က၊ဒုတိယပုဂ္ဂိုလ်တည်းဟူသောသားတော်ဘုရားသည်၊ဝိညာဉ်တော်၏တန်ခိုးတော်အားဖြင့်၊ မာရိယာနာမည်ရှိသောသတို့သမီးကညာဝမ်းခေါင်း၌၊ ငါတို့ကိုယ်အသက်နှင့်တူသောကိုယ်အသက်နှစ်ပါးကိုယူဆောင်၍ လူစင်စစ်ဖြစ်တော်မူ၏။

အနောင်သာသံသိတင်းပွဲကိုခံရသော။ မရိသူလ ၂၅ရက်မြောက်သောနေ့တွင်၊ထိုအံ့ဖွယ်သောတန်ခိုးတော်၏အစွဲအမှတ်ကို၊ ထင်ရှားစွာကရိသျှတောင်တို့သည်ပြုကြသည်။

ဒေသင်ဗရူလ၂၅ရက်မြောက်သောနေ့၊သန်းခေါင်ရံလျှင်။ ထိုသခင်မြတ်သည်ကူလိုင်းအထဲ၌ဖွားမြင်တော်မူ၏။ နတ္တာလုပွဲနေ့လျှင်။ ဤအရာအချက်ကိုရည်မှတ်၍ပွဲတော်ကိုခံရအပ်သည်။

ရှစ်ရက်နေ့က်။ ဘာသာ၏အမှတ်ကိုခံတော်မူလျှက်။ ကယ်တင်သောသခင်၊ ဟုဆိုလိုအပ်သော၊ ယေရှုးနာမတော်ဖြင့်၊ မှည့်ကြလေ၏။

ဘုရားဇာတိ၊လူဇာတိနှင့်တကွဖြစ်တော်မူ၍၊အနှယ်တော် ၃၃ နှစ်တိုင်အောင်၊ ဤလောက၌အထင်အရှားနေတော်မူ၏။

ငါတို့အပြစ်များကိုဖြေအလို့ငှါ၊တံကျင်၌အသေကိုခံတော်မူ၏။

သောကြာကြီးနေ့လျှင်၊ ဤအချင်းအရာကိုသတိအမှတ်ရှိစေခြင်းငှါ၊ မသာပွဲတော်ကို ခံလေ့ရှိကြသည်။

အသေခံတော်မူပြီးမှ၊ ကယ်ချွတ်သောသခင်ကိုစောင့်ငံ့သောသူတော်သူမြတ်ကိုချွတ်ချင်ငှါ၊ နိမ့်ရာအရပ်သို့ဆင်းကြွတော်မူ၏။ အလောင်းတော်ကိုကား၊ သင်းချိုင်းတွင်း၌ချထားကြလေ၏။

သုံးရက်တိုင်လျှင်၊ သေသည်အဖြစ်ကရှင်သည်အ

ဖြစ်သို့ပြန်တော်မူ၍၊ သင်းချိုင်းတွင်းမှထွက်တော်မူလေ၏။ ဤအကြောင်းကိုရည်မှတ်လျက်။ ဘာသာတူတို့၊ ပါသျှာကူပွဲတော်ကိုခံကြသည်။ အရက်လေးဆယ်တိုင်လျှင်၊ အသင်းသံနေ၌၊ ကောင်းကင်သို့တက်တော်မူ၏။

ဆယ်ရက်လွန်သောအခါ။ ပင်တေခေါ်သျှတနေ့၌၊ ကမ္ဘာကုန်မည့်တိုင်အောင်။ အသင်းတော်ကိုအုပ်ချုပ်စီရင်တော်မူရသောဝိညာဉ်တော်မြတ်ကို။ စေလွှတ်တော်မူလေ၏။

မကွဲမပြားတလုံးတဝတည်းဖြစ်သော သန့်ရှင်းသောတပည့်တော်ကြီးတို့မှ အစဉ်အဆက်မပြတ်ဘဲဖြစ်လာသော။ ခတောလိကာရှိသောဟူ၍၊ ဤအမှတ်လက္ခဏာ ၄ပါးနှင့်ပြည့်စုံသောအသင်းတော်အပေါင်းအဘျက်ဘရားသို့ရောက်နိုင်ဖွယ်မရှိ။

ကမ္ဘာဆုံးသောအခါ။ ကိုယ်ပကတိနှင့်ငါတို့သည် ရှင်ပြန်ရမည်ဖြစ်၍၊ ငါတို့ကိုအသီးအသီးသခင်ယေရှုးလျှောက်စာစစ်ကြောစီရင်တော်မူမည်။ ကောင်းသောသူတို့အားမြတ်သောစည်းစိမ်ချမ်းသာ၊ သူဆိုးသူယုတ်တို့အား၊ ငရဲ၌မီးဒါဏ်လျှံဒါဏ်ကိုဆုံးဖြတ်တော်မူမည်။

ဤလောက၌၊ အထင်အရှားရှိတော်မူစဉ်တွင်။ သားတော်ဘုရားသည် ငါတို့တို့ ၇ ပါးသောသက္ကာရမင်တူးတို့ကို၊ စီရင်ထားတော်မူ၏။ ထိုသက္ကာရမင်တူး ၇ ပါးဟူသော်ကား။ ဘာသာသွင်းတတ်သောဆေး

ကြောခြင်း။ ၁။ ကရိသမားအားပေးခြင်း။ ၂။ ကိုယ်တော်မြတ်။၃။အာပါတ်ဖြေခြင်း။၄။ပရိတ်ဆီတော်ဖြင့်အနာစွဲသောသူတို့ကိုလူးမှတ်ခြင်း။ ၅။ ရဟန်းပြုခြင်း။ ၆။ လက်ထပ်ခြင်း။ ၇။ ပေါင်း၇ပါးတည်း။

ဘာသာသွင်းတတ်သော ဆေးကြောခြင်းမင်္ဂလာကား။အပြစ်ရင်းကိုဖြေ၍ဘာသာတူလူစုသို့ဝင်စေလျက်၊ ဘုရားရှင်၏တပည့်တော်အဖြစ်အရာသို့မြှောက်တတ်သည်။အားပေးခြင်းသက္ကရမင်တူးကား။ကရိသျှတောင်တို့ကို စုံလင်စွာသောအဖြစ်ရောက်စေ၍သခင်ယေဇူးနာမတော်ကို ။ နှုတ်အဘျင့်ဖြင့်လူတို့ရှေ့။ရဲရဲချီးမွမ်းဝန်ခံရသောအားတန်ခိုးပေးတတ်သည်။

ကိုယ်တော်မြတ်သက္ကရမင်တူးကား ပေါင်မုန့်စပျစ်ရည်အရောင်အဟန်အဆင်းသဏ္ဍာဏ်အောက်။လူအဖြစ်၊ဘုရားအဖြစ်နှင့်တကွသခင်ယေဇူးကိုယ်တော်မြတ်ဖြစ်သည်၊ ဖြစ်၍ငါတို့အသက်ဝိညာဉ်ကို။အခံ့ဘွယ်သောနည်းဖြင့်ကျွေးမွေးတတ်၏။

အာပါတ်ဖြေခြင်းသက္ကရမင်တူးကားဆေးကြောခြင်းမင်္ဂလာခံပြီးနောက်။ ပြုမိသည့်အပြစ်များကိုလွတ်ဖြေလေ၏။

ပရိတ်တော်ဆီဖြင့်အနာစွဲသူတို့ကိုလူးမှတ်ခြင်းမင်္ဂလာကား။ ငရဲတို့၏အကျန်အကျွင်းကိုချေတတ်လျက်။ ကောင်းစွာသောသေခြင်းဖြင့်၊သေရအောင်မစလေ၏။

ရဟန်းပြုခြင်းသင်္ကြရမင်တူးကား။ ရဟန်းတို့၏ အကျင့်အမှုများကိုပြုရသောအခွင့်နှင့်စောင့်မခြင်း ကိုပေးတတ်၏။

လက်ထပ်ခြင်းဟူသော်ကား ။ လင်မယားနှစ်ယောက်တို့ အချင်းချင်းမေတ္တာစေတနာရှိစေခြင်း ငှါ၎င်။ သားသမီးတို့ကိုတရားတော်အတိုင်းကြည့်ရှုပြုစုဆုံးမသွန်သင်သမျှပြုခြင်းငှါ၎င်။ ကျေးဇူးစောင့်မခြင်းကိုပေးတတ်သည်။

ခုနှစ်ပါးသောသင်္ကြရမင်တူးတို့အနက်က။ ဗာသာသွင်းတတ်သောဆေးကြောခြင်း။ ကိုယ်တော်မြတ်။ အာပေါ်တ်ဖြေခြင်းတည်းဟူသောသင်္ကြရမင်တူးသုမ္မားတို့သည်၊သာ၍ကြီးမြတ်သောသင်္ကြရမင်တူးတည်း။

ကြီးလေးခက်ခဲရာအရေး။အမှု။အချိန်ပေါ်လျှင်၊ လူတိုင်းဗာသာသွင်းတတ်သောဆေးကြောခြင်မင်္ဂလာကိုပေးရသောအခွင့်ရှိသည်။ ဤအမှုကိုဆောင်အလို့ငှါ။ပကတိရေကိုခေါင်းပေါ်မှာလောင်းသည်အခိုက်ပင် ။ မရှေမနှောင်းဘဲ။ တပြိုင်နက်။ ခမည်းတော်၊သားတော်။သန့်ရှင်းသောဝိညာဉ်တော်၏နာမတော်ဖြင့် သင့်အားဆေးကြောခြင်းကိုငါပေးသည်ဟုမင်္ဂလာစကားရွတ်ရအပ်သည်။

အာပေါ်တ်ဖြေခြင်းအမှုကိုကောင်းမွန်စွာပြုခြင်းငှါ။ ဤအချက်ငါးပါးကိုမှတ်လော။ ထို ၅ ပါးဟူသော်ကား။မိမိစိတ်ကိုသတိနှင့်စစ်ကြောမေးမြန်းရ

မည်။ ၁။ ဘုရားရှေ့စိတ်တော်အလဲ့ပြုသောကြောင့်၊ ပြင်းစွာသောနာကြင်ခြင်းခံရအပ်သည်။ ၂။ အပြစ်များကိုနောင်၌ကြည်ရှောင်ကြောင်းကို အမြဲဝန်ခံရမည်။၃။ ရဟန်းအားမိမိအပြစ်တို့ကိုညွှတ်တွားခြင်းနှင့်၊ ကြားလျှောက်ရအပ်သည်။ ၄။ ဘုရားနှင့်လူနှင့်ဆိုင်သမျှတို့ကိုဖြေဘုန်အောင် ကျိုးစားရအပ်သည်။၅။

ကိုယ်တော်မြတ်ကိုကောင်းမွန်စွာပင့်ယူခြင်း၄ါ သန်းခေါင်အချိန်မှအစားအသောက်ကို၊ပြီပြီရှောင်ရအပ်သည်။ငရဲနှင့်တင်းရာစင်ကြယ်သောစိတ်ရှိရအပ်သည်။ ယုံကြည်ခြင်း။ မျှော်လင့်ခြင်း။ ချစ်လေးမြတ်ခြင်း။နှိမ့်ချခြင်း။နာကြင်ခြင်းအစရှိသောမြတ်သောတရားအကျင့်မေတ္တာ၌ လုလ္လပြုရအပ်သည်။ ကိုယ်တော်မြတ်ကိုယူပြီးမှ။ ဘုရားကိုကျေးဇူးသိမှတ်တင်ဆပ်တတ်သော စိတ်သဘောရှိရအပ်သည်ဟုကိုယ်စိတ်နှစ်ပါးကို၊ ရှေ့လက်တော်၌အပ်လိုက်ရမည်ဖြစ်၍၊ အလိုရှိအပ်သောကျေးဇူးများကိုတောင်းပန်ရမည်။

အကြင်ကရိသျှတောင်သည်။ အကျွတ်တရားသို့ရောက်လိုလျှင်။ ဤအချက်များကိုအချာစွာသိကျွမ်းလေ့ကျက်၍မြဲမြံစွာယုံခံရအပ်သည်။ ထိုမှမက။ဘုရားရှင်ထားတော်မူသဉ်ပညာတ်တော်ဆယ်ပါးနှင့် တပည့်ကြီးသဏ်ာတော်ဆုမ္ဗသွန်သင်ထားသောကျင့်ဝတ်ငါးပါး။ မိမိအရာနှင့်ဆိုင်သောဝတ်

တရားများကို။မပေါ့မလျော့ဘဲ။ ကြီးပွားသောလုလ္လဝိရိယနှင့်၊သိမှတ်ဆောင်ရကြောင်းကို၊ ဘာသာတူတို့အောင်းမေ့ကြပါလေလော့။



သန်တာကရူသူးမှတ်သားခြင်းဖြင့်၊ အကျွန်ုပ်တို့၌ဘေးရန်အပေါင်းတို့ကို အကျွန်ုပ်တို့၏သခင်ရှင်သောဘုရားဟန့်ထားတော်မူပါ။ ။ခမည်းတော်။ သားတော်။ သန့်ရှင်းသောဝိညာဉ်တော်၏နာမတော်မြတ်နှင့်။အာမင်။

နံနက်ဂေါစောအခါ၊အိပ်ရာမှထပြီးလျှင်နေ့တိုင်းရိုသေစွာဆိုရသည်ဆုတောင်းမေတ္တာများကို စီရင်ပေအံ့။

ကိုးကွယ်ခြင်းမေတ္တာ။ ။အထူးသန့်ရှင်း၍မြင့်မြတ်တော်မူလှသော ပုဂ္ဂိုလ်သုံးပါးဘုရားတဆူ။၏နေရာအရပ်၌အမှန်ရှိတော်မူကြောင်းကို ယုံကြည်ခြင်းရှိပါသည်၊ ကြောက်ရွံ့ရိုသေချင်သောစိတ်ကိုအစွဲပြု၍၊ အကျွန်ုပ်သည်ရွှေမျက်နှာတော်ကိုထောက်၍၊ကိုယ်တော်ကိုဦးချရှိခိုးပါသည်။ ရွှေဘုန်းတော်နှင့်ထိုက်တန်လေသော၊ရိုသေကိုးကွယ်သမျှကို၊အကျွန်ုပ်ပြုချင်ပါသည်။

ကျေးဇူးဆပ်ခြင်းဆက်ကပ်ပူဇော်ခြင်းမေတ္တာ။

အကျွန်ုပ်၏ဘုရားသခင်ကိုယ်တော်ကအကျွန်ုပ်အားပေးသနားတော်မူသမျှ ဆုအရာများကြောင့်ကျေးဇူးကြီးလှပါသည်။ မေတ္တာတော်ကြောင့်ဤနေ့ရက်ကိုအကျွန်ုပ်မြင်ရ၍စံစားနေပါသည်။ ထိုနေ့တွင်တရားတော်ကိုသာ၊ ရွက်ဆောင်ချင်ပါသည်။ စိတ်ဖြင့်ကြံအခွံသမျှ။ နှုပ်ဖြင့်ပြောအခွံသမျှ။ လက်ဖြင့်ပြုအခွံသမျှ။ တွေ့ကြုံရအခွံပင်ပန်းသမျှကို၊ကိုယ်တော်အား၊လက်ဦးတင်ပူဇော်ပါသည်။ထိုအမှုအရာများတို့ကို။ကိုယ်တော်ကိုချစ်တတ်သောသဘောနှင့်။ အကျွန်ုပ်ကျင့်ဆောင်ခံထမ်းအောင်။ ကောင်းကြီးပေးသနားတော်မူပါ။

---

## ဝန်ခံခြင်းမေတ္တာ။

အကျွတ်တရားတော်၏ လမ်းတော်ကိုဖွင့်၍ပြတော်မူထသော ။ ကိုးကွယ်ဖွယ်လှသောယေရှုမြတ်။ကိုယ်တော်နည်းတူ သိမ်မွေ့ခြင်း။နိမ့်ချခြင်း။စင်ကြယ်ခြင်း။ တရားတော်၌လုလ္လပြုခြင်း။သည်းခံခြင်း။စိတ်ရှည်ခြင်းသူတပါးကိုချစ်ခင်စောင်မခြင်းအစရှိသောပါရမီအကျင့်မြတ်တို့ကို ကျင့်အောင်။ အလိုကြီးစိတ်မြဲရှိပါသည်။ရှေးကပြုမိ၍ယခုရှုံ့ရှာပြစ်ပယ်သောအပြစ်တို့သို့ မရောံပြန်အောင်စောင့်မတော်မူခြင်းကိုအမှီပြု၍ယနေ့ပင်အားထုပ်ပါမည်ဟုဝန်ခံပါသည်။

---

## တောင်းလျှောက်ခြင်းမေတ္တာ။

အိုဘုရားသခင်။ အကျွန်ုပ်၏ညှိုးယုတ်သောစိတ်အဖြစ်ကိုကိုယ်တော်သည်သိမြင်တော်မူသည်။ကျေးဇူးတော်ကိုမရဘဲမည်သည်၊ကောင်းမှုကိုအကျွန်ုပ်မပြုနိုင်ပါသည်ကိုအထင်အရှားရှိပါသည်။ သို့ရာတွင်ကျေးဇူးတောင်မခြင်းကိုအလိုရှိသည်အတိုင်း၊ ပေးသနားတော်မူပါ။ မြစ်တားတော်မူသမျှကို၊ ရှောင်ခြင်းငှါ၎င်။မိန့်ထားတော်မူသမျှကို၊ကျင့်ဆောင်ခြင်းငှါ၎င်။အလိုတော်ရှိ၍အကျွန်ုပ်တွေ့ကြုံရအခွံဆင်းရဲပင်ပန်းခက်ခဲသမျှကိုသည်းခံခြင်းငှါ၎င်။ အားတန်ခိုးပေးသနားတော်မူပါ။ အာမင်။

## သခင်ယေရှုးစီရင်ထားတော်မူသောမေတ္တာ။

မိုဃ်းကောင်းကင်၌ရှိတော်မူသော၊အကျွန်ုပ်တို့အဘ။ ကိုယ်တော်၏နာမတော်အားရိုသေချီးမွမ်းခြင်းဖြစ်ပါစေသော။ ကိုယ်တော်၏နိုင်ငံတော်သည်ရောက်ပါစေသော။ကောင်းကင်ဘုံ၌ကဲ့သို့၊မြေကြီးပေါ်မှာ၊ကိုယ်တော်၏အလိုတော်ပြည့်စုံပါစေသော။ အကျွနုပ်တို့နေ့တိုင်းအလိုရှိအပ်သောမုန့်အစာကို ယနေ့၌ပင်၊ အကျွန်ုပ်တို့အား၊ ပေးတော်မူပါ။ အကျွန်ုပ်တို့ကို၊ ထိခိုက်သူတို့အား၊ အကျွန်ုပ်တို့သည်အခွင့်လွှတ်သကဲ့သို့၊ အကျွန်ုပ်တို့၏အပြစ်များကိုလည်းကရုဏာလွှတ်တော်မူပါ။ နှောင့်ရှက်ခြင်းသို့အကျွန်ုပ်တို့ကို၊

ရောဟ်ပေတော်မမူပါနှင့်။ မကောင်းမှုမှကား၊ အကျွန်ုပ်တို့ကိုချွတ်တော်မူပါ။ အာမင်။

အာဝေမာရိယားမေတ္တာ။

ကျေးဇူးတော်နှင့်ပြည့်စုံတော်မူသောမာရိယား၊ မင်္ဂလာဖြစ်စေသတည်း။ သခင်မနှင့်ဘုရားရှင်သည်ရှိတော်မူ၏။ မိန္မတကာတို့တွင်၊ သခင်မသည်မွန်မြတ်တော်မူ၏။ သခင်မဝမ်း၏အသီးတော်မြတ်တည်းဟူသောယေရှုလည်းမွန်မြတ်တော်မူ၏။

ဘုရား၏မယ်တော်၊ သန့်ရှင်းသောမာရိယား။ ယခုမှစ၍သေခါနီးတွင်၊ အပြစ်ရှိသောအကျွန်ုပ်တို့အဖို့ငှါဆုတောင်းတော်မူပါ။ အာမင်။

အာပေါ်သတိုလိုတို့၏သိမ်မိုလိုဟုခေါ်အပ်သော ယုံကြည်ခြင်းအချုပ်ကား။

အားလုံးစုံကိုထတ်နိုင်တော်မူထသော၊ မိုးမြေတို့ကိုဖန်ဆင်းတော်မူထသော၊ ခမည်းတော်ဘုရားကိုအကျွန်ုပ်သည်ယုံကြည်လေးမြတ်ခြင်းရှိပါ၏။ ၎င်ဖြင်ခမည်းတော်၏တပါးတည်းသော၊ သားတော်ယေရှုကရိသ္တုတူး၊ အကျွန်ုပ်တို့၏သခင်သည်၊ သန့်ရှင်းသောဝိညဉ်တော်အားဖြင့် ပဋိသန္ဓေယူတော်မူ၍မာရိယားကညာမှပေါက်ဖွားတော်မူ၏။ ပုံစီဦးဝိလာတုလက်ထက်၊ ဒုက္ခစရိယာကျင့်ခံတော်မူ၍၊ တံချင်၌သတ်ထားသဖြင့်၊ အသက်တော်ထွက်၍၊ အာ

လောင်းတော်ကိုသင်းဂျုတ်သည်။ အောင်နိမ့်သော နေရာသို့ဆင်းကြွတော်မူ၍၊ တတိယနေ့လျှင်၊ သေသည့်သူတို့အစုမှ၊ ထတော်မူ၏။ ကောင်းကင်ဘုံသို့ တက်တော်မူ၍အလုံးစုံကိုတတ်နိုင်တော်မူသော၊ ခမည်းတော်ဘုရားလက်ျာဘက်မှာ၊ ထိုင်နေတော်မူ၏။ ထိုမှရှင်သူသေသူတို့ကို စစ်ကြောစီရင်ရအောင်ကြွလာတော်မူမည်ဟု ယုံကြည်လေးမြတ်ခြင်းရှိပါ၏။ ငှင်ပြင်သန့်ရှင်းသောဝိညည်တော်ကို၊ သန့်ရှင်း၍ ခါတိုလိကားရှိသောအသင်းတော်၊ အကျိုးတူသိုလ်တော်တို့၌သူတော်သူမြတ်တို့၏ပါဝင်ခြင်း၊ အပြစ်တို့ကိုဖြေခြင်း၊အသား၏ထမြောက်ခြင်း၊ထာဝရအသက်ရှင်ခြင်းဟူ၍ ဤဆိုခဲ့ပြီးသောအချက်များတို့ကို၊ အကျွန်ုပ်သည်ယုံကြည်လေးမြတ်ခြင်းရှိပါ၏။

## ပညာတ်တော်ဆယ်ပါးတား။

၁။ ဘုရားတဆူပြင်၊ မည်သည့်အရာသတ္တဝါကို၊ ဘုရားအမှတ်နှင့်မကိုးကွယ်နှင့်။

၂။ ဘုရားသခင်၏နာမတော်မြတ်ကိုမရိုမသေသုံးဆောင်ခြင်းကိုမပြုလင့်။

၃။ ဘုရားရှင်ပွဲနေ့တို့ကိုစောင့်လော။

၄။ မိဘတို့အားရိုသေခြင်းကိုပြုလော။

၅။ သူအသက်ကိုမသတ်နှင့်။

၆။ ကာမဂုဏ်၌ကျူးလွန်ခြင်းကိုမပြုနှင့်။

၇။ သူ၏ဥစ္စာပစ္စည်းကိုခိုးယူခြင်းကိုမပြုနှင့်။

၈။ မှုသားမသုံးနှင့်။

၉။ သူသားသူမယားကိုတပ်စွန်းခြင်းမရှိစေလင့်။

၁၀။ သူဥစ္စာကိုလိုချင်သောလောဘစိတ် မရှိစေနှင့်။

## ကျင့်ဝတ်ငါးပါးတို့ကား။

၁။ တနင်္ဂနွေနေ့၊ ဘာသာသိတင်းပွဲနေ့တို့၌မိသာတရားတော်ကိုနာကုန်လော။

၂။ တနှစ်လျှင်အနည်းဆုံးတကျိမ်၊အာပတ်ဖြေကုန်လော။

၃။ သခင်ယေရှုးကရိသ္သုတူး ရှင်ပြန်ထမြောက်တော်မူသောပွဲနေ့တို့၌၊ ကိုယ်တော်မြတ်ကို၊ ယူပင့်ကုန်လော။

၄။ ဘာသာအလျောက် ဝါရှောင်ရမည်နေ့တို့ကိုဝါရှောင်ခြင်း၊ သောကြာစနေတို့၌လည်း၊ အမဲသားရှောင်ခြင်းကိုစောင့်ကုန်လော။

၅။ လက်ထပ်ထိမ်းမျှားခြင်းပွဲအမှုကို မပြုအပ်သည့်ကာလနေ့တို့၌၊ ရှောင်ကုန်လော။

## ကိုယ်စောင့်သိကြွားအားပြုရသည်မေတ္တာ။

ဘုရားရှင်အမိန့်တော်ရှိ၍၊အကျွန်ုပ်၌စောင့်သောသိကြွား။ အကျွန်ုပ်အားနေ့ညမပြတ်၊ ဆုမွန်သွန်သင်ကြည့်ရှုစောင်မသမျှကိုပြုတော်မူပါ။

အံ့ဖွယ်၊ မိုးသောက်၊ မွန်းတည့်၊ ညည့်ဦး၊ နေ့တိုင်း
သုံးကျိမ်ပြုအပ်သောမေတ္တာ။

ဘုရားသခင်ကစေလွှတ်တော်မူသော သိကြားသည်၊ မာရိယားအားအမိန့်တော်ကိုပြန်တော်မူပြီး။ သခင်မသည်လည်း၊ သန့်ရှင်းသောဝိညည်တော်၏တန်ခိုးတော်အားဖြင့်ပဋိသန္ဓေစွဲတော်မူပြီး။ ။အာဝေမာရိယား။

အကျွန်ုပ်ကားဘုရားသခင်၏ကျွန်မတည်း။ ကျွန်မ၌အမိန့်တော်အတိုင်းဖြစ်ပါစေသော။ ။အာဝေမာရိယား။

နှုတ်ကပါတ်တော်သည် လူပကတိအဖြစ်ကိုယူဆောင်တော်မူပြီး။ ငါတို့တွင်လည်း၊ထင်ရှားစွာအာရုဏ်ခံ၍နေတော်မူပြီး။ ။အာဝေမာရိယား။

အိုဘုရားသခင်၊ အကျွန်ုပ်တို့စိတ်အထဲ၌ကျေးဇူးတော်ကိုသွင်းထားတော်မူပါ။ ဖြစ်၍သိကြားကအမိန့်တော်ပြန်၍ သားတော်မြတ်လူပကတိအဖြစ်ကိုယူတော်မူပြီးသော၊ဝမ်းမြောက်သိတင်းကိုကြားသိကုန်သော၊ အကျွန်ုပ်တို့သည်ဒုက္ခစရိယာမှစ၍ကရုသူ၌အသေခံတော်မူခြင်းတန်ခိုးတော်အားဖြင့် ထမြောက်ခြင်း၏ဂုဏ်ကျေးဇူးတော်သို့ ရောက်ထိုက်ကြပါလေစေ၊ ဟူ၍သခင်ယေဇူးကိုအမှီပြု၍လျှောက်ဝန့်ပါသည်။

ညဦးရံအခါလျှင်၊နေ့တိုင်းဆိုရအပ်သည့်သုတောင်း
မေတ္တာကိုစီရင်ပေအံ့။

ကိုးကွယ်ခြင်းမေတ္တာ။ ရွှေမျက်နှာတော်၏ဘုန်းတော်ကိုအကျွန်ုပ်ထောက်၍သခင်ယေရှုးကိုအမှိုပြုလျှက်၊ကိုယ်တော်ကိုရှိသေစွာရှိခိုးပါသည်။မဖေါက်မပြန်သောသစ္စာတော်ကြောင့်၊ ကိုယ်တော်ကိုအမြဲယုံကြည်ခြင်းရှိပါသည်။ အတိုင်းအရှည်မရှိသောမေတ္တာတော်ကြောင့်၊ ကိုယ်တော်ကိုလုံလုံကိုးစားပါသည်။ အထူးသဖြင့်ချစ်ဖွယ်လှသော ရွှေစိတ်တော်ကြောင့်၊ ကိုယ်တော်ကိုစိတ်အားရှိသမျှနှင့်၊ ချစ်ခင်နိုးမြတ်ခြင်းရှိပါသည်။ သူများကိုလည်းကိုယ်နှင့်အမျှ၊ကိုယ်တော်ကြောင့်၊စုံမက်ခြင်းရှိပါသည်။

ကျေးဇူးဆပ်ခြင်းမေတ္တာ။

ရွှေလက်တော်မှခံယူပြီးသောဆုကျေးဇူးတော်တို့ကိုအဘယ်သို့သိမှတ်နိုင်ပါမည်နည်း။ အကျွန်ုပ်ကိုဖြစ်အောင်ဖန်ဆင်းတော်မူပြီးသော် ကိုယ်တော်သည်အပြစ်ရှိသူအကျွန်ုပ်ကိုသနားတော်မူ၍ အပြစ်ငရဲဆင်းရဲမှအကျွန်ုပ်ကိုချွတ်အောင်အသက်တော်ကိုစွန့်တော်မူပြီး။၎င်ပြင်အထူးထူးသောကျေးဇူးများကိုအကျွန်ုပ်အားနေ့တိုင်းမပြတ်ပေးတော်မူပါသည်။ အိုဘုရားသခင် ဤကျေးဇူးဆပ်အောင်အဘယ်သို့ပြုနိုင်ပါမည်နည်း။ အလွန်ဆိုး၍ကျေးဇူးမဲ့ရှိသော

အကျွန်ုပ်နှင့်ကြည်ညိုစွာပြုတော်မူသော ဘုရားရှင်ကို၊ အကျွန်ုပ်အတူတကွရဟန္တာအပေါင်းတို့၊ ချီးမြှောက်ကြတုန်လော။

မိမိအပြစ်သိအောင်၊ လျှောက်ခြင်းမေတ္တာ။

အလင်းတော်၏မူလအရင်းဖြစ်တော်မူသောသန့်ရှင်းသောဝိညာဉ်တော်။ အပြစ်ငရဲ၏ဆိုးညစ်သောအပြစ်သရုပ်ကို၊ အကျွန်ုပ်မျက်မှောက်၌၊ ဖုန်းလွှမ်းကွယ်သော၊ အတိအမှောင်းကိုဖယ်တော်မူပါ။ အပြစ်မင့်ကာင်းဟူသမျှကိုရွံရှာပြစ်ပယ်ကြောက်လန့်တတ်သောသဘောကို၊ အကျွန်ုပ်၌ဖန်ဆင်းတော်မူပါ။

အောက်ရေးထား၍ရှိသော အပြစ်တို့၏စာရင်းကိုကြည့်ဖတ်၍၊ နေ့တွင်မည်သည့်အပြစ်အမှားများသို့ရောက်မိပါသည်၊ ဟုသိအောင်၊ သတိဝိရိယနှင့်တကွစည်းစားဆင်ချင်၍အကြံအစည်၊ အပြောအဆို၊ အကျင့်အမူဟူသမျှကိုအောင်းမေ့လော။

ဘုရားသခင်ကိုပြစ်မှားသောမကောင်းမှုများကား။

တရားတော်၏ဝတ်မှုတို့၌ပေါ့လျော့ခြင်း။ စွန့်ပြစ်ခြင်း။ ကျောင်းတော်၌မရှိမသေပြုခြင်း။ မေတ္တာဆိုခြင်း၌စိတ်ပျံ့လွင့်ခြင်း။ အထဲ၌တိုက်တွန်းသောကျေးဇူးတော်ကိုမလိုက်ခြင်း။ ကျိန်ဆဲထိခိုက်သောစကားကိုပြောခြင်း။ ဘုရားကိုယုံစွဲခြင်း၌စိတ်ပေါ့

ခြင်း၊ပျက်ခြင်း။ အမိန့်တော်ဆန်လိုမည့်ကွန်းခြင်း။ ဤများတည်း။

သူတပါးကိုပြစ်မှားသောမကောင်းမှုများကား။

သူများပေါ်၌ကြီး၍ပေါ့ပေါ့အကြောင်းမဲ့ဆုံးဖြတ်ခြင်း။ မလေးမခန့်ပြုခြင်း။ အညှိုးထားခြင်း။ ညှုရှုခြင်း။ ရန်တုံ့အောင်ကြံခြင်း။ ရန်ရှာရန်တွေ့ခြင်း။ အမျက်ထွက်ခြင်း။ ဆဲရေးခြင်း။ကျိန်ဆဲခြင်း။စိတ်နာအောင်ပြုခြင်း၊ဆိုခြင်း။အပြစ်မကောင်းကိုပြဖွင့်ခြင်း၊ကဲ့ရဲ့ခြင်း။ သူများမပြောသည်အကြောင်းကိုတချားသူအားကြားခြင်း။ ပစ္စည်းဥစ္စာ အသရေနာမည် နည်းအောင်၊ ပျက်အောင်ပြုခြင်း၊ ဆိုခြင်း။ မကောင်းလမ်းကိုပြခြင်း။ အာဏာဆန်ခြင်း။ စကားနားမထောင်ခြင်း။ သူများ၏အပြစ်တို့ကိုကောင်းသောစိတ်ဖြင့်မခံခြင်း။ ကြည့်ရသည်၊ ပြုရသည်သူ၏အမှုကိစ္စ၌ ညန့်ညန့်လိမ်လိမ်ကောက်ကောက်ပြုခြင်း။ ဤများတည်း။

ကိုယ်ကိုပြစ်မှားသောမကောင်းမှုများကား။

စိတ်မြင့်ခြင်း။ဝါကြွားထောင်လွှားခြင်း။လူမျက်နှာကိုရှာခြင်း။ မှုသားသုံးခြင်း။ ဝင်ကြွယ်ခြင်းပါရမိနှင့်မညီ့အလွဲဖြစ်သော စိတ်အကြံအလိုအပြောအဆိုအပြုအကျင့်။ စိတ်ဆိုးခြင်း။ စိတ်တိုခြင်း။ အလကားအကျိုးမဲ့ဖြစ်သောအမှုအရာပြုခြင်း။ စကားပြောခြင်း။ ပျော်မွေ့ရွှင်လန်းခြင်း၌အားရခြင်း။ အ

စားအသောက်၌ကျူးလွန်ခြင်း။ မိမိအရာနှင့်ဆိုင်ရာဝတ်တရားတို့၌ပေါ့ခြင်း။ ပျင်းရိခြင်း။ ဤများတည်း။

## နာကြည်ခြင်းမေတ္တာ။

အိုဘုရားသခင်၊အထူးသဖြင့်ကောင်းမြတ်တော်မူလှသော၊ အထူးသဖြင့်ချစ်ဖွယ်လှသော၊ အထူးသဖြင့်အပြစ်အမှားကိုမုန်းထားတော်မူသော၊ ကိုယ်တော်ကို ပြစ်မှားကျူးလွန်သောကြောင့် ပြင်းစွာသောနာကြည်ခြင်းရှိပါသည်။ ထိုအပြစ်တို့ကိုပြစ်ပယ်၍အပြစ်သို့ပို့သောလမ်းမှရှောင်ရအံ့၊ အခန့်ကြုံလျှင်အမြန်လျှောက်အံ့၊ အပြစ်တို့၏ဒါဏ်မြီကိုဆပ်ဖြေအံ့ဟူ၍စောင်မတော်မူခြင်းကိုအမှီပြု၍ ဝန်ခံပါသည်။

## ရှေ့လက်တော်၌ကိုယ်စိတ်နှစ်ပါးအပ်လိုက်ခြင်းမေတ္တာ။

အကျွန်ုပ်၏ဘုရားသခင်၊အကျွန်ုပ်သေရကြောင်းကိုအမှန်သိပါသည်။ သေခြင်းအချိန်ကိုကား၊ အကျွန်ုပ်မရိတ်မိနိုင်ပါသည်။ သို့ရာတွင်၊ အကျွန်ုပ်မအိပ်ခင်၊ ကိုယ်စိတ်နှစ်ပါးတို့ကို၊ ရှေ့လက်တော်၌အပ်လိုက်ပါသည်။ အလိုတော်ချွန်းချက်တော်မူသည့်အချိန်၌အသက်ဆုံးခြင်းကိုခံချင်ပါသည်။ ထိုကြောက်ဖွယ်သောအချိန်ပေါ်သောအခါ၊ သခင်

ယောဒုန်း၏မျက်နှာတော်ကိုထောက်တော်မူ၍အပြစ်များကိုချမ်းသာပေးသနားတော်မူပါ။

(နံနက်စောစောနည်းတူ၊မိုယ်းကောင်းဆင်အစရှိသောမေတ္တာပုဒ်တို့ကိုဆိုဦး။)

---

နေ့တိုင်းမပြတ်ဆိုအပ်သည့်မြတ်သောမေတ္တာပုဒ်သုံးပါးတို့ကိုစီရင်ပေးအံ့။

ယုံကြည်ခြင်းမေတ္တာ။

မှားယွင်းခြင်းနှင့်အလျှင်းကင်း၍ဟုတ်မှန်သောဘုရား၏နှုတ်ကပါတ်တော်ကိုအကြွန်ုပ်အမှီပြု၍ဘုရားသခင်ကိုငင်၊ ဘုရားရှင်ခန့်ထားတော်မူသောတပည့်ကြီးသစ်တို့သည် ဆုံးမသွန်သင်ချက်ဟူသမျှကို၊ တည်မတ်စွာယုံကြည်ခြင်းရှိပါသည်။

မျှော်လင့်ခြင်းမေတ္တာ။

အားလုံးစုံကိုစွမ်းတတ်လျက်၊ သစ္စာ၌မြဲတော်မူသောဘုရားရှေ့မျက်နှာတော်ကိုထောက်၍၊ ကိုယ်တော်ကိုင်၍ဘဝ၌အလိုရှိအပ်သောကျေးဇူးတော်တို့နှင့်နောင်ဘဝ၌ချမ်းသာကိုငင်၊ ငါတို့သခင်ယေရှုအတွက်ကြောင့်၊ ရပါမည်ဟုမျှော်လင့်တောင်တခြင်းရှိပါသည်။

ချစ်လေးမြတ်ခြင်းမေတ္တာ။

ချစ်ဖွယ်သောအလွန်ကောင်းမြတ်တော်မူလှသောဘုရားကိုအကြွန်ုပ်ထောက်လျက်၊ ကိုယ်စိတ်နှစ်ပါး

အစွမ်းသတ္တိရှိသမျှနှင့် ကိုယ်တော်ကိုချစ်ခင်မြတ်နိုးခြင်းရှိပါသည်။ သူတပါးကိုလည်း၊ ကိုယ်တော်ကြောင့်၊ မေတ္တာစုံမက်ခြင်းရှိပါသည်။

ကယ်တင်တော်မူသော အရှင်သခင်ယေရှုးခရိ သျှတ္တုးကို၊ လူအမျိုးတကာတို့သည်၊ဆည်းကပ်ရှိသေ ကိုးကွယ်ရှိခိုးချစ်နိုးမြတ်ကြသည်ဖြစ်စေသတည်း။ အာမင်။

---

## ထမင်းမစားခင်ဆိုရသည့်မေတ္တာ။

အိုဘုရားသခင်။ အကျွန်ုပ်တို့အားငင်၊ ရွေလက်တော်သနားတော်မူသော အစားအစာတို့အားငင်။ ကောင်းကြီးပေးတော်မူ၍၊ ဤအစားကိုမကျူးမလွန်ဘဲကောင်းမွန်စွာသုံးဆောင်၊ အကျွန်ုပ်တို့ကို၊ကယ်မတော်မူပါ။

## ထမင်းစားပြီးမှကျေးဇူးတင်ရလော့။

တမ္ဘာအဆက်ဆက်တည်၍အားလုံးကိုစိုးပိုင်တော်မူသောထာဝရဘုရား။ ရွှေလက်တော်ဖြင့် စွန့်ကြဲတော်မူမိသောအစာဟူသမျှကြောင့်၊ ကျေးဇူးကြီးလှပါသည်။အာမင်။

---

ပရင်ကြီဘာသာဖြင့်မိသာဟုခေါ်အပ်သောကိုယ်
တော်မြတ်၏ပူဇော်ခြင်းအမှုတွင်၊ဖတ်ရွတ်
ရသောဆုတောင်းမေတ္တာများကို
စီရင်ပေအံ့။

မိသာအစဉ်ဆိုရသည့်မေတ္တာ။

လူအပေါင်းတို့ကိုးကွယ်ရာပုဂ္ဂိုလ်သုမ္မားဘုရား တဆူဖြစ်တော်မူကုန်သော၊ခမည်းတော်၊သားတော်၊ သန့်ရှင်းသောဝိညည်တော်ကိုအမှီပြု၍ ကြီးမြင့်မွန် မြတ်ဆုံးသောဘုရားသခင်တပါးတည်းခံထိုက်တော် မူသောရှိသေကိုးကွယ်ချီမွမ်းခြင်းကိုပြုလို၍၊ ကိုယ် တော်မြတ်ပူဇော်ခြင်းအမှုတော်၌၊ အကျွန်ုပ်တို့ သည်ပါဝင်ချင်ပါသည်။ များစွာသောအကျိုးတို့ကို ရလို၍ ထိုအမှုတော်ကိုအတော်အသင့်ကောင်းမွန် စွာဆောင်အလို့၄၊ ကိုယ်တော်မြတ်ကိုဘုရားစင် ပေါ်မှာတင်ပူဇော်ရအံ့သော၊ သခင်ယေဇူးကိုယ် စားရှိသော၊ဂုဟန်းနှင့်တစိတ်တည်းတလိုတည်းတ ကြိတည်းဖြစ်လိုပါ၏။ ကာလဝါရီတောင်ထိပ်ပေါ် မှာတံကျင်ရင်း၌ရပ်လျက်မတုန်မလှုပ်ဘဲချစ်ဖွယ်လှ သောယေဇူးကိုဖူးမြင်သောမယ်တော်၌ရင်၊ ချစ်နိုး ရာတပည့်တော်ဖွင်၌စွဲသောပူလောင်ပူဆွေးခြင်း၊ ရို သေကိုးကွယ်ခြင်း၊ ချစ်နိုးလေးမြတ် ခြင်း၊ ကြည်ညို သနားခြင်းစိတ်များတို့သည်၊ဘုရားစင်ပတ်လည်၌ဝပ် ပြတ်လျက်ရှိသောအကျွန်ုပ်၌ စွဲမြဲတည်ပါလေစေ။

အပြစ်တို့ကိုလျှောက်ရသောမေတ္တာ။

အိုဘုရားသခင်။ စိတ်နှုတ်အကျင့်ဖြင့်ပြစ်မှားကျူး လွန်သမျှကို၊ ကိုယ်တော်ရှေ့၊ သီလနှင့်ပြည့်စုံသော ကညာမာရိယား၊ ရဟန္တာတို့ပရိသတ်ရှေ့၊ ရှက် ကြောက်ညွတ်တွားခြင်းနှင့် အကျွန်ုပ်လျှောက်ပါ သည်။ ထိုအပြစ်တို့ကိုပေါ့ပေါ့သတိမဲ့မဟုတ်။ ဆိုး မိုက်သောစိတ်ဖြင့်ပြုပါပြီး။ အခွင့်ချမ်းသာကိုလည်း မခံထိုက်ပါသည်။ ဤသို့ဖြစ်သောကြောင့်၊ ရွှေမျက် နှာတော်ကိုရ၍ စံစားတော်မူသောမယ်တော်မှစ၍။ ရဟန္တာအပေါင်းတို့အမျက်တော်ပြေအောင်။ မ ထိုက်မတန်သူအကျွန်ုပ်အဖို့ငှါ ပန်တောင်းတော်မူ ကုန်လော့။

အိုသနားခြင်းရှိသောဘုရားသခင်။ ဆုတောင်း သောအကျွန်ုပ်၏အသံသည်။ ရွှေနားတော်သို့ဝင်စေ သတည်း။ နာကြင်ခြင်းနှိမ့်ချခြင်းရှိသောအကျွန်ုပ် စိတ်ကို၊ ပယ်ရှားတော်မမူပါနှင့်။ အပြစ်များတို့၏ အခွင့်ချမ်းသာကိုပေးသနားတော်မူပါ။

ခိရိယေ။ ရဟန်း၊ အကျွန်ုပ်တို့ကိုသနားတော်မူပါဟု လျှောက်ငြည်တွင်ဆိုရသည်မေတ္တာ။

အကျွန်ုပ်စိတ်ဝိညည်ကိုဖန်ဆင်းတော်မူပြီးသော ဘုရားရှင်တော်မြတ်၊ ရွှေလက်တော်ဖန်ဆင်းပြုပြင် ရာကို။ သနားခြင်းနှင့်ကြည့်ထောက်တော်မူပါ။ ဂရု ဏာမေတ္တာတော်နှင့်ပြည့်စုံတော်မူသော၊ အဖခမည်း

တော်။သားများတို့နှင့်ကြဉ်ညှိစွာပြုတော်မူပါ။ အာ
သေကိုခံတော်မူသဖြင့်၊လူတို့အားအကျွတ်တရား၏
လမ်းတော်ကိုဖွင့်တော်မူပြီးသော သားတော်မြတ်။
အသေခံတော်မူခြင်းမှ ထွက်လာသောအကျိုးကု
သိုလ်တော်တို့ကို အကျွန်ုပ်တို့အားရောက်စေတော်
မူပါ။

ဂလိုရိယားအစ်အေရှက်ယသီ။ ရဟာန်းချီးမြှောက်
သီချင်းကျူးသည့်တွင်ဆိုရသည့်မေတ္တာ။

ကောင်းကင်ဘုံအထက်၌စည်နေတော်မူသော။
ဘုရားသခင်အားဘုန်းကျက်သရေတော်။မြေကြီးဘုံ
၌ဖြောင့်မတ်ခြင်းဆိတ်ရှိသောသူတို့အား။ ချမ်းသာ
ငြိမ်သက်ခြင်းရှိပါစေသော။ အတုမရှိ၍အမြင့်ဆုံး
သောဟုတ်မှန်သောဘုရားရှင်ဘုန်းတော်ကို အကျွ
န်ုပ်တို့ထောက်၍ ကိုယ်တော်ကိုချီးမွမ်းချီးမြှောက်
ထောပနာပြုကြပါသည်။ ရှင်လက်တော်၏ဆုလဒ်
တို့ကိုသိမှတ်တောင်းဆပ်ပါသည်။ ခမည်းတော်၏တပါး
သောသားတော်ဖြစ်တော်မူထသော၊ ခပ်သိမ်းကုန်
သောအရာတို့ကိုအစိုးရတော်မူထသော၊လောကီအ
ပြစ်များကိုဖြေအလှိုငှါ၊ ကြွလာတော်မူရသောဘု
ရား၏သိုးငယ်ဖြစ်တော်မူထသော၊ လူတို့ဦးညွှတ်ချ
ရာသခင်ယေရှု။ကောင်းကင်ဘုံမှ၊ငါတို့ကိုဂရုဏာ
စေတနာနှင့်၊ အာရုံပြုတော်မူပါ။ ခမည်းတော်ဗိ
ညည်တော်နှင့်တကွ၊ ကိုးကွယ်ရာမြတ်စွာသခင်၊

ကိုယ်တော်တပါးတည်း ကယ်တင်ခြင်းကိုပေးနိုင်
ပိုင်တော်မူသည်နှင့်အညီ၊ ငါတို့ကိုချွတ်တော်မူပါ။

ဒေါမိနူ ဝေါဘိသ်ကုမ်။

အိုသခင်၊ ကျေးဇူးတော်အားဖြင့် အကျွန်ုပ်တို့၌
ကျိန်းဝပ်တော်မူ၍ အကျွန်ုပ်တို့ဝိညာဉ်အထဲ၌ငြိမ်
သက်ခြင်းကိုသွင်းတော်မူပါ။

အောရေမူ။

အိုထာဝရဘုရား။ ကောင်းကင်ဘုံ၌ရှိသောအသင်း
တော်။ လူ့ဘုံ၌ရှိသောအသင်းတော်။ ဟူ၍အသင်း
တော်၂ပါးတို့တညီတညွတ်တည်းပြုကြသည့် ဆု
တောင်းပဌနာကိုကြည်ညိုစွာနားခံတော်မူပါ။ သခင်
ယေရှုအကျိုးစက်ကိုထောက်တော်မူ၍အကျွန်ုပ်တို့၊
သူများတို့အကျွတ်တရားသို့ရောက်အောင်၊ အလိုရှိ
သောကျေးဇူးစောင်မခြင်းကိုပေးသနားတော်မူပါ။
ငရဲငယ်၌ခံသူတို့ကိုလည်း၊ ငြိမ်သက်ချမ်းမြေ့ရာ
ကမ်းဆိပ်သို့ပို့ဆောင်ထော်မူပါဟု အကျွန်ုပ်တို့ရ
ဟန်းနှင့်တကွရှိသောစွာလျှောက်ဝံ့ကြပါသည်။

ပေါ်သတိုလာ။ ရဟန်းသြဝါဒကျမ်းစါကိုဖတ်စည့်
တွင်ဆိုရသည့်မေတ္တာ။

အိုဘုရားသခင်။ တရားတော်ကိုမကြားမသိ။ နား
မလည်သောလူမျိုးများကို။ ရွေးချယ်တော်မမူဘဲ။
ထိုသိဒ်မွေ့လျော်သောတရားတော်ကိုသိအောင်။ မ

ထိုက်မတန်သူ။ အကျွန်ုပ်ကိုရွေးချယ်ခေါ်တော်မူသောကြောင့်။ကျေးဇူးကြီးလှပါသည်။ ထိုကျေးဇူးတော်ကိုအကျွန်ုပ်သည်အလွန်နှစ်သက်လေးမြတ်ပါသည်။ ကိုယ်တော်၏တရားအယူဝါဒကို၊ နှစ်လုံး၌ဝိုက်သိမ်းဆည်းထားပါသည်။ ရှေးပေါ်ထွန်းကုန်သောပရောဖက်သူတော်သူမြတ်တို့ ဟောကြားသည့်ဗျာဒိတ်တော်များကို ရိုသေစွာနားခံနှစ်လုံးသွင်းပါသည်။ ထိုဗျာဒိတ်တော်ပြည့်စုံကြောင်းကိုအကျွန်ုပ်သည်သိမြင်သော်၊ အလွန်ဝမ်းမြောက်ဝမ်းသာခြင်းရှိပါသည်။ရှေးရဟန္တာတို့ကဲ့သို့၊ အကျွန်ုပ်စိတ်နှစ်လုံးသည်မပေါ့မလျော့ မြဲစွာသောမျှော်လင့်တောင့်တခြင်းနှင့်ပြည့်စုံပါစေ။ ကိုယ်တော်ကိုယုံစွဲကိုးကွယ်သောပရောဖက်တို့၏စိတ်သည်၎င်း။ကိုယ်တော်ကိုချစ်ခင်မြတ်နိုးသောတပည့်တော်ကြီးတို့၏စိတ်သည်၎င်း ။ အကျွန်ုပ်၌အစည်မပြတ်မြဲစွဲပါလေစေသော။

ဧဝံဂေလိ။ ရဟန်းဧဝံဂေလိကျမ်းစာကိုရွတ်စဉ်တွင်ဆိုရသည့်မေတ္တာ။

အကျွန်ုပ်တို့ရပ်နေလျက်ပရောဖက်တတို့မဟုတ် တပည့်တော်ကြီးတို့မဟုတ် သားတော်မြတ်ကိုယ်တိုင်သွန်သင်ဟောတော်မူသော၊ သိမ်မွေ့ရာအဆုံးအမနှုတ်ကပါတ်တော်ကိုရိုသေစွာနားခံယူပါသည်၊ ကိုယ်တော်၏တပည့်တော်အကျွန်ုပ်ဖြစ်ပါသည်။သို့သော်လည်းတရားတော်ကိုအကျွန်ုပ်သည်နားကြား

၍၊ တရားတော်အလျောက် မကျင့်မဆောင်ဘဲရှိလျှင်၊ အဘယ်အကျိုးရှိပါမည်နည်း။ စစ်ကြောစီရင်ခြင်းခံရအံ့သော၄ါ။ ကိုယ်တော်ထံသို့ပေါ်ရောက်သောအခါ။ အကျွန်ုပ်သည်ယုံရာချက်များကိုယုံ၍ကောင်းကျိုးကောင်းမှုဥ္စလုလ္လပေါ့လျော့၍ မရွက်မဆောင်ဘဲရှိမိသော်။ အဘယ်ကျေးဇူးဖြစ်ရအံ့မည်နည်း။အကျွန်ုပ်ယုံညားသော်လည်း၊မယုံသူကဲ့သို့ရင်။ တရားတော်နှင့်မညီ။ ကွဲပြားသောတရားကိုယုံသူနည်းတူရင်။ အကျွန်ုပ်မိုက်စွာအလွဲကျင့်ပါပြီး။ ယခုပင်ကား။အကျွန်ုပ်ငကံအမှန်မြဲမြန်စွာယုံမှတ်ပါသှ်။ ယုံသမျှကိုမတိမ်းမယိမ်းမမေ့မလျော့ဘဲ၊ ခံထမ်းရွက်ဆောင်ရအောင်၊ အားတန်ခိုးပေးသနားတော်မူပါ။ဤသို့အကျွန်ုပ်နှင့်တကွ။လူခပ်သိမ်းတို့သည်နာမတော်။ ဂုဏ်တော်၊ကျေးဇူးတော်ကိုချီးမွမ်းထောမနာပြုရအံ့ကုန်လိမ့်မည်။

ခရေတော။ ရဟန်းယုံကြည်ခြင်းအချုပ်ကိုရွတ်သည့်တွင်၊ဆိုရသည့်မေတ္တာ။

ကမ္ဘာမိုးယံမြေနှင့်ထင်ရှားရာမထင်ရှားရာဟူသမျှကို။ဖန်ဆင်းတော်မူသောဘုရားတဆူဖြစ်တော်မူသောခမည်းတော်ကိုယုံကြည်ခြင်းရှိပါ၏။ရင်ပြင်ကမ္ဘာမပေါ်မှီ။ အဖခမည်းတော်မှ၊ ဖြစ်လာသော၊တပါးတည်းသော။ သားတော်ဘုရားသည်ဘုရားမှဘုရား။အလင်းတော်မှအလင်းတော်။ ဘုရားပင်စစ်

မှာဘုရားစင်စစ်။ ဖြစ်တော်မူလျက်၊ ဖြစ်အောင်ဖန်ဆင်းခြင်းကိုမခံဘဲ။ ဇာတိအဖြစ်တော်မခြားမနားအတူတူရှိလျက်။ ခမည်းတော်မှဖွားတော်မူလျက်။ သက်ရှိသက်မဲ့သတ္တဝါအားလုံးတို့ကိုဖန်ဆင်းတော်မူ၏။အကျွတ်တရား၏ရွှေလမ်းတော်ကိုဖွင့်အံ့သောငှါ။ အထက်ဘုံမှ၊သက်ရောက်လာတော်မူလျက်ဝိညည်တော်၏တန်ခိုးတော်အားဖြင့်၊ကညာမာရိယာဝမ်း၌ပဋိသန္ဓေယူတော်မူလျှက် လူစင်စစ်ဖြစ်တော်မူ၏။

ပုံစိအုးပီလာတုမင်းလက်ထက်။အသေခံတော်မူ၍အလောင်းတော်ကိုသင်းဂြိုဟ်သည်။ တတိယနေ့လျှင်။ကျွမ်းမှထွက်သည်အတိုင်း၊ ရှင်းပြန်လျက်ထမြောက်တော်မူသည်။ ကောင်းကင်ဘုံသို့တက်တော်မူလျက်။ခမည်းတော်ဘုရားလက်ျာဘက်မှာ။ ထိုင်နေတော်မူသည်။ ကမ္ဘာကုန်သောအခါလည်း။အသေအရှင်လူအပေါင်းတို့ကိုခေါ်၍စစ်ကြောစီရင်တော်မူလျက်။နိုင်ငံတော်သည်အဆွန်းမဲ့။အစဉ်တည်နေမည်အကြောင်းကိုယုံကြည်ခြင်းရှိပါသည်။ ဝိညဉ်တော်ဘုရားရှိကြောင်း။ ခမည်းတော်သားတော်အတူတကွကိုးကွယ်ခြင်းကိုခံထိုက်တော်မူကြောင်း၊ ပရောဖက်တို့အားဖြင့်ဗျာဒိတ်တော်ကိုဟောထားတော်မူကြောင်းကိုအယူရှိပါ၏။ဧင်ပြင်အသင်းတော်သည်မကွဲမပြားတလုံးတဝတည်းရှိသည်။ သန့်ရှင်သည်၊ခါတိုလိကာရှိသည်။ တပည့်ကြီးတို့မှအဆက်မပြတ်ဆင်း

လာကြောင်း။ အပြစ်များကိုဖြေခြင်းငှါဆေးကြော ခြင်းမင်္ဂလာရှိကြောင်း။ လူအပေါင်းတို့။ ကိုယ်ပကတိရှင်ပြန်၍ကောင်းသောသူတို့ကောင်းသောနေရာ မကောင်းသောသူတို့ ဆင်းရဲရာအရပ်သို့သွားရမည် ဟူ၍အကြောင်းတို့ကိုယုံကြည်ခြင်းရှိပါ၏။

အောဗရဲတောရီ။ ရဟာန်းမုန့်စပျစ်ရည်ကိုပူဇော် စည်တွင်၊ဆိုရသည့်မေတ္တာ။

အလုံးစုံကိုစွန်းတတ်တော်မူထသော။ ဘုရားသခင် ပြိုင်ဘက်နှင့်အလျှင်ကင်းတော်မူထသော။ သန့်ရှင်းစင်ကြယ်စွာရှိတော်မူသော။ အစအဆုံးမဲ့ထာဝရဘုရားခမည်းတော်မြတ်၊ အကျွန်ုပ်မထိုက်မတန်ရှုပ်ညစ်နွံသူဖြစ်သော်လည်း၊ ရဟာန်းနှင့်တကွ။ ကိုယ်တော်မြတ်ကို။ကိုယ်တော်အားတင်ပူဇော်ပဲ့ပါသည်။ သခင်ယေရှုအတွက်ကြောင့်၊ဤပူဇော်သကာသည် ရွှေစိတ်တော်အား နှစ်သက်ဖွယ်ရာဖြစ်ပါအံ့ဟု မျှော်လင့်ခြင်းရှိပါသည်။ သက်ရှိသက်မဲ့သတ္တဝါအပေါင်းတို့ကို။ ကိုယ်တော်သည်အုပ်ချုပ်အစိုးရတော်မူသည်ဟု။ထင်ရှားသောသက်သေအမှတ်ပြုခြင်းငှါရင်ကျေးဇူးတော်ကိုတင်ဆပ်ခြင်းငှါရင် ။ အကျွန်ုပ်အပြစ်များ၏အခွင့်ချမ်းသာကိုခံခြင်းငှါင်၊ အကျွန်ုပ်၏ပေါက်ဖေါ်ဆွေမျိုးတို့။ ကျေးဇူးပြုသူတို့။ရန်ရှာရန်ပြု။ ရန်ညိုးဖွဲ့သူတို့။ အလိုရှိအပ်သောဆုကျေးဇူးတော်ကိုခံထိုက်ခြင်းငှါရင်ဟူ၍အကြောင်း

လေးပါးကိုထောက်၍ကိုယ်တော်မြတ်ကိုပူဇော်ပါ
သည်။
ရှင်ပြင်ပူဇော်ခြင်းအမှုမြတ်ကိုဆောင်သည့်တွင် ။
အရပ်ရပ်၌တည်သောအသင်းတော်ကို အုပ်ချုပ်
တော်မူသော၊ အကြီးဆုံးသောရဟန်း။ ငါတို့ဂိုဏ်
အုပ်။ ရဟန်းကြီးရဟန်းငယ်အပေါင်းတို့။ ခရိသျ
တောင်အားလုံးတို့ကိုရည် မှတ်၍ လျှောက်ဝံ့ပါ
သည်။အပြစ်ငယ်စွဲသောသူတို့ကို။ အောင်းမေ့တော်
မူ၍သားတော်မြတ်၏ကုသိုလ်တော်ကြောင့်။ ငြိမ်း
ချမ်းသာရာနေနေရာသို့ရောက်တော်မူပါ။ ဘာသာမဲ့
သူတို့။ဘာသာကွဲသူတို့။ တရားအလွဲကျင့်သူတို့ကို ။
သနားတော်မူ၍ထူးမြတ်သောကောင်းကြီး ပေးသ
နားတော်မူပါ။

ဖရေဖာသျို။ ရဟန်းလက်ချီ၍ကျယ်သောအသံနှင့်
ဆုတောင်းသည့်တွင်ဆိုရသည့်မေတ္တာ။

လူသိကြွားတို့၏အရှင်တော်မြတ်သည်၊ယခုပင်ပေါ်
ရောက်တော်မူအံ့။အိုသခင်။အကျွန်ုပ်၏စိတ်နှစ်လုံး
သည်လောကီအရာကိုယခု၌ပင်ရွှန်ရှာစွန့်ပြစ်သော်
ကိုယ်တော်ကိုသာဖူးမြင်ထော်မှတ်ပါလေစေ။ အ
ထက်ကောင်းကင်မှစ၍၊ ဤမြေကြီးကိုဖန်ဆင်းပြု
ပြင်လျက်အုပ်ချုပ်စီရင်တော်မူသောသခင်းတော်ဘု
ရားကိုယ်တော်ကို၊ လူအမျိုးတကာတို့အရပ်ရပ်၌
ကာလအစည့်မပြတ်၊ ချီးမွမ်းထောမနာပြုရအပ်သည်။

သခင်ယေရှုးနာမတော်မြတ်ကိုအမှီပြု၍၊ ထိုရှိသော ကိုးကွယ်ခြင်းကိုပြုတောင်းမြတ်လှပေ၏။ ကောင်း ကင်သိကြားရဟန္တာအပေါင်းတို့သည် ဤနာမတော် ကိုထောက်၍၊ ရွှေဘုန်းတော်ကိုတပြိုင်နက်ရှိသော မြှောက်စားကြပါသို့။ အကျွန်ုပ်သည်လည်း၊ ကောင်း ကင်သားတို့၏အစုပဒါသတ်နှင့်တကွ။ အောင်သိ ခြင်းမင်္ဂလာကျူးကို၊ ဝမ်းမြောက်ဝမ်းသာစွာမြွက် ဆိုကျေးကြော်ပါသည်ဟူ၍။

သံတူ။ ရဟန်းကသိကြားတို့၏မင်္ဂလာကျူးမြွက် သည့်တွင်ဆိုရသည်မေတ္တာ။

ဗိုလ်ခြေအပေါင်းတို့ကိုအုပ်ချုပ်တော်မူသောဘု ရားသည့်မွန်မြတ်တော်မူ၏။ မွန်မြတ်တော်မူ၏။ မွန် မြတ်တော်မူ၏။ တမ္ဘာတရှောက်လုံး၌ရွှေဘုန်းတန် ခိုးတော်ထင်ရှားတော်မူ၏။ ကောင်းကင်သတ္တဝါတို့ သည်အထက်ဘုံ၌ ကိုယ်တော်ကိုချီးမြှောက်ကြလေ စေ။ ဘုရားရှင်၏နာမတော်နှင့်လူဘုံသို့သက်ရောက် တော်မူပြီးသော။ ကိုယ်တော်အားကောင်းကြီးမင်္ဂ လာရှိပါစေသော။

တာနေခင်။ ရဟန်းလူအပေါင်းတို့တို့ဆုတောင်းသည့် ဟွင်၊ဆိုရသည်မေတ္တာ။

ကြည်ညိုကွယ်လှသောအဖခမည်းတော်။ ကိုယ် တော်၏သားတော်ရှိလျက်။ ငါတို့၏သခင်လည်းတ ချက်တည်းဖြစ်တော်မူသောယေရှုး၏နာမတော်ကို

အမှိုပြု၍၊ အကျွန်ုပ်တို့တင်ပူဇော်ကြသည့်ပူဇော်သာကာမြတ်ကို၊ စေတနာ နှင့်အာရုံပြု၍ ကြည်ညိုစွာခံယူတော်မူပါ။ အရပ်ရပ်၌တည်မြဲသောအသင်းတော်မှစ၍အကြီးဆုံးသောရဟန်း၊ ဂိုဏ်အုပ်တို့ကာ၊ တရိသျှတောင်အစုကိုကြည့်ရှုပြုစုထိမ်းစောင့်တော်မူပါဟု၊ အကျွန်ုပ်တို့လျှောက်ကြပါသည်။ (ငါတို့အားကျေးဇူးပြုသသူတို့ကို။ ပေါက်ဖေါ်ဆွေမျိုးဖြစ်သသူကို၊ ငါတို့ဆုတောင်းရအပ်သောသူတို့ကို။ ချစ်သူတစုံတယောက်ဘို့ဆုတောင်းရသောအလိုရှိလျှင်။ ယခုပင်သူ၏အမည်ကိုထုပ်လော့)။ ရှေးဦးစွာအောင်းမေ့တော်မူ၍၊ ကျေးဇူးတော်၏အစီးအပွားကိုချပေးတော်မူပါ။ ရွှေစိတ်တော်နှင့်သာ၍တွေ့လွယ်အလိုငှါ။ အကျွန်ုပ်နှင့်တဆုတပါးသောအသင်းတော်ဖြစ်ကုန်သော၊ မယ်တော်မှစ၍၊ တပည့်ကြီးတို့။ရဟန္တာအပေါင်းတို့နှင့်တကွအကျွန်ုပ်သည်အရိုအသေအကိုးအကွယ်ကိုကျိုးစား၍ပြုမြဲရှိကြသည်။ ရှေးပေါ်ထွန်းကဲ့ပြီးသောသူတော်သူမြတ်တို့၌။ ကယ်ချွတ်သောသခင်ကိုယုံကြည်မျှော်လင့်သော စိတ်စွဲသကဲ့သို့အကျွန်ုပ်၌လည်း ဤနည်းတူမြဲမြံစွာရှိပါလေစေ။ ပျက်စီးရာကိုပြုပြင်နိုင်တော်မူသောချစ်မွယ်ရာသခင်ယေရှုး၊ ကြွတော်မူ၍ဂုဏ်တန်ခိုးတော်အပေါင်းတို့၏အချုပ်အချာရှိသော ဂုဏ်တန်ခိုးတပါးကိုမျက်မှောက်ပြု၍ပြတော်မူပါ။ လောကီသားတို့၏အပြစ်များကိုဖြေပိုင်တော်မူသောဘုရား၏သိုး

ငယ်တော်သည်၊ ယခုဥ္စပင်၌ဘုရားစင်ထက်မှာ၊ သက်ရောက်တည်တော်မူရှုအံ့မည်။

ဧအလေဝါသျှို။ ရဟာန်းကိုယ်တော်အသွေးတော် ကိုပင့်မြှောက်သည်တွင်ဆိုရသည်မေတ္တာ။

လူ့အဖြစ်ကိုယူတော်မူ၍လူစင်စစ်ဘုရားစင်စစ် တချက်တည်းဖြစ်တော်မူသောယေရှုးမြတ်သည်၍ နေရာအရပ်၌တည်တော်မူကြောင်းကို အကျွန်ုပ်သည် ယုံကြည်လျှက်ညွတ်ဟွားစွာနှင့်ရိုးကွယ်ဦးချပါ၍၊ စိတ်အားသတ္တိရှိသမျှနှင့်လည်း ချစ်ခင်လေးမြတ် ခြင်းရှိပါသည်။

လူ့အပေါင်းတို့တို့၊ ကိုယ်တော်မှ ထွက်စီးရှိ ပေါက်သောအသွေးတော်ကို၊ အကျွန်ုပ်ရှိနိုးပါသည် ထိုအသွေးတော်၏ အကျိုးတော်ကို အကျွန်ုပ်၌ ရောက်စေတော်မူပါ။ ချစ်ဖွယ်သောသခင်ယေရှုး ။ အကျွန်ုပ်တို့အသွေးတော်ကို ငဲ့ကွက်မဲ့ရှိစေတော်မူ သကဲ့သို့။ အကျွန်ုပ်သည်လည်းမိမိအသွေးကိုတွေ့၍ ကိုယ်တော်အားလှူတန်းပူဇော်ပါသည်။

ရဟာန်းတိတ်ဆိတ်လျှောက်သည်တွင်ဆိုရသည် မေတ္တာ။

ယခုဖြစ်ဆဲသော။ အရာတန်ခိုးကိုဖူးမြင်ပြီးမှ၊ အကျွန်ုပ်သည်အလဲ့ကျင့်ပုံပြန်ရအံ့လျှင်။ အဘယ်မျှ လောက်ယုတ်မာကျေးဇူးမဲ့ဖြစ်ပါသည်နည်း။ ကာလ

ဝါရိတောင်ထိပ်ပေါ်မှာ ဖြစ်ဘူးသောကိုယ်တော်မြတ်ပူဇော်ခြင်း။ ဤဘုရားစင်ပေါ်မှာဖြစ်သောပူဇော်ခြင်း။ ဟူ၍ဤပူဇော်ခြင်းနှစ်ပါးတို့မချွားမနား အတူတူဖြစ်ကြောင်းကိုအကျွန်ုပ်ယုံကြည်ပါ၏။ ဒုက္ခစရိယာမှစ၍အသေခံခြင်း။ ဘုန်းတန်ခိုးနှင့်သင်္ချိုင်းမှထမြောက်ခြင်း။ ကောင်းကင်အထက်သို့တက်ကြွခြင်းကို သတိအမှတ်အောင်းမေ့ဘို့ရာဖြစ်ပါ၏။လူတို့ဘို့လျှူတန်တော်မူပြီးသော။ အညစ်အကြေးနှင့်ကင်း၍ စင်ကြယ်စွာဖြစ်တော်မူသော ။ ယဇ်ပူဇော်သကာတည်းဟူသော ကိုယ်တော်မြတ်ကို။အကျွန်ုပ်တို့သည်ရှေ့ဘုန်းတော်အား၊ ယခုပင်၊ တင်ပူဇော်ကြပါသည်။ ထိုပူဇော်သကာကား။ တခြားမဟုတ်။ ကိုယ်တော်အလွန်နှစ်သက်တော်မူရာသားတော်မြတ်သခင်ယေရှုးတည်း၊ အာဗေလား ။ အာဗြဟမ်။ မေလကိဇေဒက်အမည်ရှိသောသူတော်သူမြတ်တို့ ရှေးတင်ကြသည့်ပူဇော်ခြင်းများထက်၊သာ၍မြတ်လျက်။ ရှေ့ဘုန်းတော်နှင့်အလွန်တော်သင့်ရာ တပါးတည်းပူဇော်ခြင်းမြတ်ဖြစ်သတည်း။ကိုယ်ဖြင့်ဖြစ်စေ။စိတ်အလိုဖြင့်ဖြစ်စေ။ ထိုအမှုတော်ပါဝင်ခြင်းရှိသောသူတို့သည်၊ ကောင်းကြီးဆုကျေးဇူးအပေါင်းတို့နှင့်ပြည့်စုံကြလေစေ။ ထိုကောင်းကြီးအဖို့ကို။ငရဲငယ်၌ခံသူတို့အား။( ချစ်သူဟစုံတယောက်၏နာမကိုထုတ်လော့)။ ရောက်စေတော်မူ၍ဆင်းရဲဝေဒနာခံရသူတို့ကိုကယ်ထုတ်သွတ်

တော်မူပါ၊ ချစ်ဖွယ်သောအဖ။ ဤနည်းတူ။ကျေးဇူး
တော်ကို၊ အကျွန်ုပ်တို့အားတနေ့သဉ်၊ ပေးသနား
တော်မူ၍ကိုယ်တော်အား သူတော်သူမြတ်တို့၏အ
စုပရိသတ်ထဲသို့အကျွန်ုပ်တို့ကိုဝင်စေတော်မူပါ။

ပတရ်။ ရဟန်းမိုယ်းကောင်းကင်မေတ္တာရွတ်သည့်
တွင်ဆိုရသည့်မေတ္တာ။

အိုဘုရားသခင်။ကိုယ်တော်သည့်အကျွန်ုပ်၏အ
ဖဖြစ်တော်မူကြောင်းငှင်။ ကိုယ်တော်စံနေတော်မူ
ရာကောင်းကင်ဘုံသည့် အကျွန်ုပ်နေရာအရပ်တနေ့
သဉ်ဖြစ်ရအံ့အကြောင်းကိုအောင်းမေ့လျှင်။ အ
တိုင်းမသိဝမ်းသာခြင်းရှိပါသည်။တမ္ဘာတရှောက်
လုံး၌နာမတော်မြတ်ကို အရိုအသေအံ့ချီးအမွမ်း
ဖြစ်ပါစေ။လူတို့၏စိတ်အလိုကို။ အကြွင်းမဲ့အစိုးအ
ပိုင်ရတော်မူပါစေ။ ကိုယ်စိတ်အလိုရှိအပ်သောအ
ရာတို့ကိုပေးသနားတော်မူပါ။ ရန်တိုက်ရန်ရှာသူတို့
အားအကျွန်ုပ်တို့သည့် စိတ်ဖြင့်အခွင့်လွှတ်ကြပါ
သည်။ အကျွန်ုပ်တို့၏အပြစ်များကိုလည်းချမ်းသာ
ပေးတော်မူပါ။ အနှောင့်အရှက်ဆင်းရဲဝေတနာ
ပေါ်သော်။ ကယ်မတော်မူ၍၊အပြစ်အမှားထဲသို့မ
ရောက်ရအောင်ဟန့်တားတော်မူပါ။

အင်္ဂနဒေဒအိ။ ရဟန်းဆုတောင်း၍ရင်ကိုခတ်
သည့်တွင်။ဆိုရသည့်မေတ္တာ။

အကျွန်ုပ်တို့အတွက်အသေခံတော်မူပြီးသောဘုရား၏သိုးငယ်တော်။ အကျွန်ုပ်တို့ကိုကြည်ညိုစွာသနားတော်မူပါ။ အကျွတ်တရားပေးပိုင်တော်မူသောသခင်အကျွန်ုပ်တို့ကိုကယ်ချွတ်တော်မူပါ။ အဖခမည်းတော်၏ထံတော်၌ ရပ်လျက်လျှောက်တော်မူသောသခင်ယေရှု။ ငြိမ်သက်ခြင်းကိုပေးသနားတော်မူပါ။

ကောမူနိအော။ ရဟန်းဩဘ်စတိယားကိုကိုင်၍ရင်
ကိုခတ်သည့်တွင်။ဆိုရသည့်မေတ္တာ။

တချားကရိသျှတောင်များနည်းတူ။အကျွန်ုပ်သည်စားပွဲတော်သို့ချဉ်းကပ်လျက်။ ကိုယ်တော်မြတ်ကိုယနေ့ခံယူထိုက်သည့်ရှိလျှင် အဘယ်မျှလောက်စိတ်အလိုပြည့်စုံ၍ဝမ်းသာပါမည်နည်း။ ဤကျေးဇူးကိုမစံစားရအံ့ ဟန့်တားရှိရှိသမျှကိုပြစ်ပယ်ရအောင်ကယ်မမစတော်မူ၍မကြာမမြင်ဘဲ။ကိုယ်တော်မြတ်ကိုခံထိုက်ရအံ့။ စင်ကြယ်စွာသောအနေအဖြစ်သို့။အကျွန်ုပ်ကိုရောက်စေတော်မူပါ။ ထိုမြတ်သောနေ့ရက်စေ့ရအံ့သည့်ကိုအကျွန်ုပ်မျှော်လင့်သည့်တွင်။ရဟန်းပူဇော်သည့် ကိုယ်တော်မြတ်၏အကျိုးတပုံတခုကိုပေးတော်မူ၍၊ယုံချင်၌မတိုမတွန့်မပေါ့မလျော့

တတ်သောစိတ်နိုင်မာခြင်း။ မျှော်လင့်ရာ၌စိတ်မြဲခြင်း။ ကိုယ်တော်ကို၊ အားလုံးထက်၊ နှစ်သက်တောင့်တလေးမြတ်ရာ၌ တိုးပွားခြင်းဟူ၍ မြတ်သောအကျင့်ပါရမီတို့၏အရင်းအမြစ်ကိုစိတ်၌စိုက်ပျိုးတော်မူပါ။

အောရေမူ။ ရဟန်းစာအုပ်ကိုဖတ်ရွတ်သည့်တွင်ဆိုရသည့်မေတ္တာ။

ယခု၌ပင်၊ အကျွန်ုပ်အတွက်မိမိကိုယ်တော်ကိုလှူတင်တော်မူဖြီးသောယေရှုးမြတ်။ ရွှေဘုန်းကြက်သရေတော်ကိုထင်ရှားစေခြင်းငှါ။ ကိုယ်စိတ်နှစ်ပါးကိုကိုယ်တော်အား၊ အကျွန်ုပ်လှူတန်မှုဇော်ဖြန်ပါသည်။ ရွှေစိတ်အလိုတော်ရှိ၍အကျွန်ုပ်၌ရောက်ရအံ့ဆင်းရဲဝေဒနာများကိုယခုမှစ၍၊သေသည့်တိုင်အောင်။လျှစ်လျူးသောစိတ်နှင့် သည်းခံပါမည်။အကျွန်ုပ်၌စွဲညှိသောအကုသိုလ်တရားတို့ကိုဝိရိယနှင့်နှိပ်ကွပ်ဖွန့်ဖယ်ပါမည်။ ဧဝံဂေလိတရားတော်နှင့်လျှော်စွာကျင့်ဆောင်ပါမည်။ ထိုတရားတော်ကိုအလွဲမပြုအံ့ထက် အထူးထူးသောဆင်းရဲပင်ပန်းရာကိုခံထမ်းပါဦးမည်ဟူ၍ဂန်ခံပါသည်။

ဘေနေဒိတ်သျို။ ရဟန်းဘင်သောင်မင်္ဂလာပေးသည့်တွင်ဆိုရသည့်မေတ္တာ။

အိုဘုရားသခင်အကျွန်ုပ်ဝန်ခံသမျှချက်တို့ကိုကြည့်

မှတ်တော်မူလျက်။ ရဟန်းအားဖြင့်ကောင်းကြီးပေး တော်မူပါ။ ဤကောင်းကြီး၏ အကျိုးကား။ ခမည်း တော်။ သားတော်။ သန့်ရှင်းသောဝိညာဉ်တော်၏နာ မတော်ဖြင့်။ အကျွန်ုပ်၌အစည်အဆက်။ မြဲမြန်စွာ တည်ပါလေစေ။

## ဝေံဂေလိ။ ရဟန်းအဆုံး၌ဝေံဂေလိကျမ်းကိုဖတ် သည့်တွင်ဆိုရသည်မေတ္တာ

လွန်မြတ်ရာထာဝရာသို့မိုသောရွှေလမ်းတော်ကို ပြအလိုငှါ။ ကောင်းကင်ဘုံအထက်ကမြေကြီးဘုံ အောက်သို့၊ ဆင်းကြွတော်မူထသော။ လောကီအ လင်းတော်ဖြစ်တော်မူထသော။ ဘုရား၏နှုတ်ကပတ် တည်းဟူသောသားတော်သခင်ယေရှု။ ကိုယ်တော် ကိုငြင်းပယ်လျက်။ ဘုရား၏တပည့်တော်အဖြစ် ဘွဲ့မြတ်ကိုမလေးမမှတ်မခံမယူဘဲ၊ နတ်ဆိုး၏ကျွန် ဟူ၍ဘွဲ့ယုတ်ချစ်ကြိုက်ယူဆောင်ပြီးသော ဂျူဒေဦး လူမျိုးနည်းတူ။ မပြုမကျင့်ရအောင်၊ အကျွန်ုပ်ကို ကယ်မတော်မူပါ။ လူအဖြစ်သဏ္ဍာန်ကိုဆောင်ယူ တော်မူပြီးသောယေရှုမြတ်။ ကိုယ်တော်ကိုရှိသေ စွာဦးချကိုးကွယ်ပါ၏။ မြဲစွာသောယုံကြည်လေး မြတ်ခြင်းဖြင့်၊ အမှီပြုပါ၏။ ငံပြင်၊ လူသတ္တဝါကိုသာ ချွတ်အံ့လို၍ှါ။ လူစင်စစ်ဖြစ်တော်မူသောကြောင့်။ ဤဘဝ၌စင်ကြယ်ရာအဖြစ်သို့ရောက်အောင်။ နောင် ဘဝရွှေမျက်နှာတော်ကို အစည်အဆက်ဖူးမြင်

ထိုက်အောင်။ ကျေးဇူးစောင့်မခြင်းကိုအကျွန်ုပ်အား၊ ပေးတော်မူရအံ့ဟူ၍မျှော်လင့်တောင်းတခြင်းရှိပါသည်။

---

အာပတ်ဖြေခြင်းအမှုတော်ကို ကောင်းမွန်သေချာစွာပြုအောင်၊ငရဲတို့၏စာရင်းနှင့်။မေတ္တာများကိုစီရင်ပေအံ့။

ကိုယ်အပြစ်တို့ကိုမအောင်းမေ့ခင်၊ပြုရသည့်မေတ္တာ

ကမ္ဘာမိုဃ်းမြေနှင့်သတ္တဝါရှိလေသမျှတို့ကိုဖန်ဆင်းစီရင်စိုးပိုင်တော်မူထသော။ ရှေ့ပုံသဏ္ဍာန်တော်အတိုင်း၊ အကျွန်ုပ်ကိုထုလုပ်၍အသွေးတော်အားနှင့်ဆင်းရဲဝဲမှ ရွေးဆယ်ကယ်တင်တော်မူသော၊မြတ်စွာဘုရားသခင်။ကိုယ်တော်၏နာမတော်ကိုမခေါ်ဝံ့။ ရှေ့မြတ်နာတော်ကိုလည်းမဖူးမမြင်ထိုက်သောသူအကျွန်ုပ်ဖြစ်ပါသည်။ အထူးသဖြင့်ဆိုးညစ်ယုတ်ညံ့သောသူအကျွန်ုပ်ကိုအာရုံစေတနာနှင့်ကြည့်တော်မူပါ။

မာရိယားမာဒါလင်နားနှင့်ကာနာနေအမျိုးထဲကမိန္မတဦးကို၊ သနားတော်မူသကဲ့သို့၊ အကျွန်ုပ်ကိုလည်းသနားတော်မူပါ။ အခွန်ခံသူနှင့်၊ တံကျင်၌ချွကပ်၍အသေခံရသောသူခိုးတဦးနှင့်၊ ကြင်နာစွာပြုတော်မူသကဲ့သို့။ အကျွန်ုပ်နှင့်လည်းကြည်ညိုစွာပြုတော်မူပါ။ အလွဲအမှားမကောင်းကိုတပ်စွန်းသောစိတ်တို့ကိုလိုက်သောကြောင့်၊ အကျွန်ုပ်သည်မရေ

မတွေ့ဘဲ်နိုင်အောင်၊ အခါများစွာပြစ်မှားကျူးလွန်ခြင်းသို့၊ရောက်ပါပြီး။ထိုအပြစ်များကိုမထိမ်မဖုံးမနည်းမလျှော့ဘဲ၊ရှုက်ခြင်းနှင့်၊ အထံတော်၌အထင်အရှားဖွင့်ပြပါမည်။ အကျွန်ုပ်ကိုကယ်ချွတ်ရအောင်ကြောင်းကြောင်းမှ ဆင်းသက်တော်မူသော၊ သနားခြင်းရှိတော်မူသောသခင်မြတ် ကိုယ်တော်ကိုပြစ်မယ်ပြီးသောတပည့်တော်ပေတရုကို၊အခွင့်ကညလွှတ်တော်မူသည်နည်းတူ၊ အကျွန်ုပ်ပြုမိသောမကောင်းသမျှကို၊ အောင်းမေ့၍အထံတော်မှပယ်တော်မူပါ။အိုချစ်ဖွယ်လှသောသခင်ယေရှု။ ကိုယ်တော်တပါးတည်း။ အကျွန်ုပ်၏မြို့နိုမျှော်လင့်ကယ်တင်ရာဖြစ်တော်မူသည်။

အကျွန်ုပ်စိတ်စွဲသောအနာရောဂါအထိအရှတို့ကို၊ ကျေးဇူးတော်အားဖြင့်၊ ငြိမ်စေတော်မူ၍ချမ်းသာပေးသနားတော်မူပါ။

အကျွန်ုပ်ကိုဖယ်တော်မမူပါနှင့်။ ကိုယ်တော်ရှေ့ရင်းတော်သို့၊ အကျွန်ုပ်သည်မလာရအံ့လျှင်၊ အအဘယ်သူထံသို့သွားရပါမည်နည်း။အကျွန်ုပ်ကိုပယ်တော်မူရအံ့လျှင်၊အဘယ်သူသည်လက်ခံပါမည်နည်းမျှော်မျက်နှာတော်ကိုလွှဲတော်မူလျှင်၊ အဘယ်သူသည်ကြည့်ရှုပြုစုပါမည်နည်း။ စိတ်နှစ်လုံးကျေကွဲသောသူကို၊ ညင်းဖယ်တော်မမူသောအဖခမည်းတော်၊ အကျွန်ုပ်ယုတ်ညံ့ခြင်းအဖြစ်ကိုမှတ်တော်မမူဘဲ။ ရွှေလက်တော်ပြုပြင်ရာအကျွန်ုပ်ဖြစ်သည်ကို အောင်း

မေ့တော်မူ၍အကျွန်ုပ်ပေါ်၌အမျက်တော်နှင့်ဒါဏ်
ကိုရခံစေတော်မမူပါနှင့်၊ ထိုသန့်ရှင်းသောဝိညာဉ်
တော်ဘုရား။ အပြစ်များတို့ကိုမြင်အောင်၊အကျွန်ုပ်
အထဲ၌၊ အလင်းတော်ကိုလင်းစေတော်မူ၍အဆိုး
အညစ်ရှုံ့ရှာတတ်သောအကောင်းအမြွတ်ကို၊ အ
ကျွန်ုပ်၌ဖန်ဆင်းတော်မူပါ။

ခြေဘ်သနားခြင်းရှိသောမြတ်စွာယေရှု။မေတ္တာ
ဂရုဏာနှင့်ပြည့်စုံလှသော ရွှေစိတ်တော်ကိုသာ
ထောက်တော်မူ၍အပြစ်အားလုံးတို့ကို လင်းလင်း
သိမြင်အောင်၎င်း၊ ထိုမကောင်းသမျှကိုဖြင်းစွာသော
နာကြင်ခြင်းဖြင့်၊ရှုံ့ရှာဖယ်အောင်၎င်း၊ကျူးလွန်သမျှ
ကိုမတိုးမလျော့မထိမ်မဝှက်ဘဲ၊ မှန်မှန်တည့်တည့်
လျှောက်ရအောင်၎င်း။ အပြစ်တို့၏ဒါဏ်မြီးကိုဆပ်
ဖြေအောင်၎င်နေဘ်နောင်ကာလ၌အပြစ်ဒုစရိုက်များ
ကိုစေ့စေ့သတိနှင့် ကြည်ရှောင်ရသောအမြဲအမြန်
ဝန်ခံခြင်းကိုပြုအောင်၎င်း။ ကျေးဇူးစောင့်မခြင်းကို
ပေးသနားတော်မူပါ။အရှင်ဘုရား။

ဤမေတ္တာကိုဆိုပြီးနောက်ပြုမိသည်အပြစ်တို့ကို
ကြီးစွာသောဝိရိယနှင့်အောင်းမေ့ရှာဖွေကျိုးစားရ
အပ်သည်။

ရင်ပြင်ပြုမိသည်အပြစ်တို့ကိုအလွယ်တကူတွေ့
မှတ်အောင်စီရင်ရေးထား၍ရှိသောအပြစ်တို့၏စာ
ရင်းကိုသတိနှင့်ကြည့်ဖတ်ရအပ်သည်။

ပညာတတ်တော်ဆယ်ပါးကို ဆန့်လွန်သောမကောင်း
မှုများကိုစီရင်ပေအံ့။

၁။ ပဌမပညာတတ်တော်နှင့်အလွဲဖြစ်သော ငရဲ
တို့ကား။ ယုံရာချက်တို့ကိုငင်၊ပညာတတ်တော်တို့ကို
ငင်။ မိမိအရာနှင့်ဆိုင်သောဝတ်တရားတို့ကိုငင်၊မ
တတ်ဘဲနေပြီးလော။ ဤအပြစ်၌တာရှည်နေပြီး
လော။ ယုံရာချက်တပါးပါးကိုစကားဖြင့်အကျင့်
ဖြင့်ညင်းနုံဖြစ်ပယ်ပြီးလော။တွေးတောသံသယ်ခြင်း
ရှိပြီးလော။ယုံကြည်ခြင်းကိုပျက်တတ်သောစာများ
ကိုဖတ်ခြင်း။ဘာသာကွဲသူတို့ကျောင်းသို့၊တရားနာ
အောင်၊ဝင်ခြင်းကိုပြုပြီးလော။ ဘယ်နှစ်ခါနည်း။
ဘုရားကိုဆုတောင်းကိုးကွယ်ခြင်းအမှုကို စွန့်မိသ
လော။ထိုအမှု၌ပေါ့မိသလော။ ပြင်းမိသလော။ ယုံ
ကြည်ခြင်း။ မျှော်လင့်ခြင်း၊ ချစ်လေးမြတ်ခြင်းမေ
တ္တာ ၃ပါးစီးပြန်းခြင်း၌ပေါ့မိသလော။ ပြင်းမိသ
လော။ဤကားဘယ်မျှလောက်ကြာပြီးနည်း။ အကျွတ်
တရားအမှု၌စိတ်ပျက်ပြီးလော။ အကျွတ်တရားကို
ငင်။အပြစ်ဖြေခြင်းကိုငင်။ အလွယ်မကျိုးစားဘဲရ
အံ့ဟုထင်မှတ်ပြီးလော။ အိုအခါသေကာနီးအခါ။
နောင်တရမည်ဟုအလွဲထင်ပြီးလော။ ဇင်တိအုန်းတို့
၏ဘာသာအမှုတပါးပါးသို့ဝင်ပါမိသလော။ဘုရား
နှင့်သားတော်သင့်သောအကိုးအကွယ်အရိုအသေ
ကိုတခြားသောအရာသတ္တဝါအားပြုပြီးလော။ ဘု
ရားကာလဗေဒင်တတ်သူတို့ကိုခေါ်၍မေးမြန်းခြင်း၊

ဝဒါလဘ်ဖြခြင်း၊ လက်ဖွဲ့မန်းသောရေဆီ ချဉ် ဆေး အစရှိသောအရာကိုသုံးခြင်း၊ နတ်ပွဲဇင်တီအရှုးတို့ ဘာသာပွဲကိုကြည့်ခြင်း၊ နတ်ဆိုးနှင့်ပါဝင်ဆက်ဆံခြင်း၊ အိပ်မွှာဘ်ဗတ်ခြင်းယုံခြင်း၊ စစ်ဆေဖုတ်ဖြိတ်တို့ကိုကြောက်ခြင်း၊ ဤမကောင်းမှုများတွင်တခုတခု ပြုဝင်ပြီးလော။ ပြုအောင်အားအကြံပေးပြီးလော။ ဘယ်နှစ်ခါနည်း။

၂။ ဒုတိယပညတ်တော်နှင့် အလွဲဖြစ်သောငရဲတို့ကား။ ဘုရားရဟန္တာတို့သန့်ရှင်းသောအရာတို့၌ မရိုမသေထိခိုက်စကားကိုသုံးပြီးလော။ မဟုတ်မမှန်အမှု၌ဂုဏ်မကောင်းမတရားသောအမှု၌ဂုဏ်၊ ပေါ့ပေါ့ရှိသောအမှု၌ဂုဏ်၊ မလင်း၍ဇဝက်တွေးတောခြင်းရှိသောအမှု၌ငုံ၊ကျိန်ဆိုခြင်းကိုပြုပြီးလော။ဘုရား၏နာမတော်ဖြင့် မိမိအသက်အစရှိသောအရာတို့ဖြင့်၊ကျိန်ဆိုပြီးလော။အကျင့်ပါသလော။တရားသောကျိန်ဆိုခြင်းကို ဖြက်ပြီးလော။ ဘယ်နှစ်ခါနည်း။ သူကိုငင်ကိုယ်ကိုငင်၊ဖြစ်သောအရာတို့ကိုငင်၊ကျိန်ဆဲပြီးလော။ သူများ၏ဆဲရေးခြင်းသို့ဝင်ပြီးလော။ ဘုရားရှေ့ပြုမိသောသစ္စာကိုဖြက်ပြီးလော။ ဘယ်နှစ်ခါနည်း။

၃။ တတိယပညတ်တော်နှင့် အလွဲဖြစ်သောမကောင်းမှုတို့ကား။ တနင်္ဂနွေ၊ စောင့်ရသောသီတင်းပွဲနေ့တို့လျှင် မိသာကိုသတိနှင့်နာခံပြီးလော။ မိမိသားမြေးကျွန်များတို့အား မိသာနာခံအောင်သတိ

ပေးပြီးလော။ကောင်းမှုတို့ကိုမဆောင်ဘဲအလကား
မျှင်းရှိခြင်းနှင့်နေပြီးလော။ အရေးကြီးမရှိဘဲအလုပ်
အကိုင်ကိုလုပ်ကိုင်ပြီးလော။ တောလယ်လည်ခြင်း
တစားခြင်းအမှုကိုပြုပြီးလော။ ဘယ်နှစ်ခါနည်း။

၄။ စတုတ္ထပညတ်တော်နှင့် အလွဲဖြစ်သောမ
ကောင်းမှုတို့ကား။ မိဘတို့အားချစ်ခြင်းလက္ခဏာရှိ
သေခြင်းလက္ခဏာကိုမြမြပြုပြီးသလော။ သူတို့၏
အမိန့်အမှာတို့ကိုမခံပြီးလော။အာနာဆန်ခြင်းမျက်
စောင်းထိုးခြင်းအစရှိသောမလေးမခန့်ခြင်း အပြအ
ပြင်ပြုပြီးသလော။ စိတ်အတွင်းကြံပြီးလော။ သူတို့
အမျက်ထွက်အောင်လမ်းဖွင့်ပြီးလော။မိဘတို့ဥစ္စာ
ကိုခိုးခြင်းပြက်ခြင်းကိုပြုပြီးလော။ဘယ်နှစ်ခါနည်း။
ငယ်သောသားသမီးများတို့အား၊ မိဘတို့က တရား
တော်၏အကြောင်းအဓိပ္ပာယ်ကိုင်၊ ဘုရားကိုကြောက်
ရွံ့ချစ်နိုးမြတ်ခြင်းကိုရင်းသင်ပေးပြီးလော။ ဝါသင်
ရာတို့သွားခြင်း၊ ဆိုးသောအပေါင်းအဖေါ်မှရှောင်
ခြင်း၊ ငရဲလမ်းမှလွှဲခြင်း၊ ကောင်းဘျင့်ဓလေ့ကိုပယ်
ခြင်းအစရှိသော ဝတ်ရင်းများကို သားမြေးတို့သိ
အောင်ဝိရိယနှင့်ဆုမ္ဘသတိပေးပြီးလော။ သူတို့စိတ်
အလိုကိုအလွဲလိုက်ပြီးသလော။ လက်နှုတ်ဖြင့်မ
ကောင်းသောလမ်းကို သူတို့အား ပြုပြီးသလော။
ဘယ်နှစ်ခါနည်း။

၅။ ပဉ္စမပညတ်တော်နှင့် အလွဲဖြစ်သောမ
ကောင်းမှုတို့ကား။ ကိုယ်သေအောင်၊ သူ့ကိုးသေ

အောင်၊ပြုပြီးလော။ ကြံပြီးလော။ ရန်တုံ့လက်နှုတ်ဖြင့်ပြုပြီးလော။စိတ်ဖြင့်ကြံပြီးလော။ရန်တွေ့ရန်ရှာခြင်း၊ ပုတ်ခတ်ရိုက်ခြင်း၊ စကားများခြင်းရန်ဖြစ်အောင်၊ ပွဆာခြင်းကိုပြုပြီးလော။ အကြံပေးပြီးလော။ စိတ်အထဲအညှိုးထားမကောင်းကြံ၍စိတ်မပြေဘဲနေပြီးလော။ သူများငရဲသို့ရောက်အောင်၊ တိုက်တွန်းခြင်း၊လမ်းပြခြင်း၊အကြံပေးခြင်း၊လက်နှုတ်ဖြင့်ပြုပြီးလော။ ဘယ်နှစ်ခါနည်း။ ဤအမှုကောင်းသည်မကောင်းသည်ဟုသင်္ကါခြင်းရှိ၍ ထိုအမှုကိုပြုပြီးလော။ ဘယ်နှစ်ခါနည်း။

၆ ။—၉ ။ ဆဌမ ။—နဝမပညတ်တော်တို့နှင့်အလွဲဖြစ်သောမတောင်းမှုတို့ကား။ မစင်ကြယ်ဆိုးညစ်ရာအမှုကို၊ အောင်းမေ့ပြီးလော။ အောင်းမေ့ခြင်းနှ၌စိတ်ပါပြီးလော။ မြဲပြီးလော။ တပ်မက်သောအလိုဆန္ဒရှိပြီးလော။ ဆိုးညစ်မလျော်ပတ်စကားသီခြင်းတို့ကို၊ ပြောဆိုနာခံပြီးလော။ ကိုယ်နှင့်သူများနှင့်မလျော်ပတ်ရာကိုပြုပြီးလော။ မမြင်ရအပ်သည်ကို၊ ကြည့်အောင်၊ အာရုံမျက်စိကိုချုပ်ပြီးလော။ မတရားမေထုန်မှုကိုပြုပြီးလော။ လွတ်လပ်သူတို့နှင့်၊ မလွတ်မလပ်လက်ထပ်သူတို့နှင့်၊ ထိုအမှုကိုပြုပြီးလော။ တချားသူအားဆိုးညစ်အပြစ်၏လမ်းကိုပြပြီးလော။ ဘယ်နှစ်ခါနည်း။

၇ ။—၁၀။ သတ္တမ။—ဒသမပညတ်တော်တို့နှင့်အလွဲဖြစ်သောမကောင်းမှုများတို့ကား။ သူများ၏

ဥစ္စာကိုလိုချင်သောလောဘစိတ်ရှိပြီးလော။ ခိုးယူအောင်စိတ်အလိုပါပြီးလော။ ကိုယ်အကျိုးဖြစ်ပွားစေခြင်းငှါ၊ သူများ၏ဥစ္စာကိုပျက်အောင်စိတ်အလိုရှိပြီးလော။ ဘယ်နှစ်ခါနည်း။ သူများ၏ဥစ္စာကိုခိုးယူပြီးလော။ အရောင်းအဝယ်အဖေါက်အကားနှင့်၊ လှည့်စားခြင်းကိုပြုပြီးလော။ သူများခိုးခြင်း၊ လှည့်စားခြင်းအမှုသို့ပါဝင်ပြီးလော။ ခိုးယူသည်ဥစ္စာကိုထား၍ပြန်မပေးပြီးလော။ မဆပ်လိုအံ့၊ မဆပ်နိုင်အံ့ကြွေးများကိုပြုပြီးလော။ ကြွေးကိုဖြေအောင်တတ်သမျှဖြင့်ကျိုးစားပြီးလော။ ဆပ်နိုင်သောကြွေးများကို၊ မဖြေဘဲနေပြီးလော။ ဘယ်နှစ်ခါနည်း။ ငွေချေးငှါး၍လွန်သောအတိုးယူပြီးလော။ လိုအပ်သောအတတ်ပညာကိုမရဘဲအမှုအစုံတခုကိုပြုလျက် သူတပါးအပေါ်၌၊ အရှုံးရောက်ပြီးလော။ အမှုတခုကိုဆောင်အောင်အခရ၍ ထိုအမှုကိုပေါ့ပေါ့ညံ့ညံ့ဝိရိယမဲ့ပြုပြီးလော။ ဘယ်နှစ်ခါနည်း။

၈ ။အဌမပညတ်တော်နှင့်အလွှဲဖြစ်သောငရဲတို့ကား။ ကြီးငယ်မှု၌ဖြစ်စေ၊ ရယ်ရွှင်ကစားခြင်းမှု၌ဖြစ်စေ၊ မှုသာသုံးပြီးလော။ ဘယ်နှစ်ခါနည်း။ သူများ၌အကြောင်းမဲ့၊ မကောင်းကိုထင်ခြင်း၊ သူများ၏အကြံစိတ်အကျင့်စကားတို့ကို၊ အကြောင်းမဲ့ဆုံးဖြတ်ခြင်းကိုပြုပြီးလော။သူများအပြစ်ကိုဖွင့်သဖြင့်၎င်း၊ သူများမပြုသောအပြစ်ကိုသူများအပေါ်တင်သဖြင့်၎င်း၊ သူများနာမည်အသရေအရှက်ကိုနည်း

အောင်ပြက်အောင်ပြောဆိုမိသလော။ ဤစကားမျိုးကိုကြားပြီးလော။ ဤစကားကြောင့်သူများ၌မရောက်ရအံ့သောအရှုံးကို ထုပ်ဖေါ်အောင်၊ ကျိုးစားပြီးလော။ ဤစကားမျိုးကိုပြောအောင်၊တားမိုင်သောအခါတားပြီးလော။ရန်ဖြစ်အောင်ပွားအောင်တဦး၏စကားကို၊ တဦးအားပြန်ပြောပြီးလော။ ဘယ်နှစ်ခါနည်း။

တျင့်ဝတ်ငါးပါးတို့နှင့်အလွဲဖြစ်သောမကောင်းမှုတို့ကား။

တနင်္ဂနွေ၊စောင့်ရသောဘိတင်းပွဲနေ့တို့တွင်၊ မိဿကိုအစုံသတိနှင့်နားခံပြီးလော။ အကြောင်းမဲ့၊ ဝါရှောင်ခြင်း၊ အမဲသားရှောင်ခြင်းကို ဖြက်သလော။အသားရှောင်ခြင်းအစားရှောင်ခြင်းအမှုကို၊ ပြက်အောင်သူများကိုတိုက်တွန်းပြီးလော။ ဘယ်နှစ်ခါနည်း။ တနှစ်လျှင်တခါအာပတ်ဖြေခြင်း၊ပသျှကူကာလ၌ ကိုယ်တော်မြတ်ကိုယူခြင်းဟု သတ္တရမင်တူးနှစ်ပါးတို့ကို၊ မခံဘဲနေပြီးလော။ အပြစ်တစုံတခုကိုမချောက်ဘဲ ငင်စိတ်ထဲ၌မှန်းသောနာကြင်ခြင်းမရဘဲငင်၊ မိမိအပြစ်များကိုအတော်အတန်မအောင်းမေ့မရှာဘဲငင်၊ ဤသတ္တရမင်တူးနှစ်ပါးတို့ကိုမရိုမသေခံယူပြီးလော။ဘယ်နှစ်ခါနည်း။အပြစ်သို့ရောက်ပြီးသော်၊နောင်တမရဘဲ၊ဘုရားကိုအခွင့်မတောင်းဘဲ၊တာရှည်နေပြီးလော။ဘယ်နှစ်ခါနည်း။

## အပြစ်တို့၏အမြစ်ရင်းဖြစ်သောခုနှစ်ပါးသော မကောင်းမှုတို့ကား။

စိတ်မြင့်ခြင်း၊ကိုယ်ကိုကိုယ်ချီးမြှောက်ခြင်း၊သူတပါးကိုရှုပ်ချခြင်း၊လူတို့၏အချီးအမွမ်းကိုရှာခြင်း အပြစ်သို့ရောက်ပြီးလော။ ဘယ်နှစ်ခါနည်း။ လောကီအရာဥစ္စာကိုအလွန်စိတ်စွဲပြီးလော။ ဘယ်နှစ်ခါနည်း။ အစားအသောက်၌ကျူးလွန်ခြင်းသို့ရောက်ပြီးလော။ ထိုအပြစ်၌အကျင့်ပါ၏လော။ ခေါင်းမူး၍သတိပျောက်တိုင်အောင်၊ အရက်သောက်ပြီးလော။ သူများကိုသောက်အောင်၊ ပူစာတိုက်တွန်းပြီးလော။ ဘယ်နှစ်ခါနည်း။ ကိုယ်မကောင်းမှု၊ သူများ၏မကောင်းမှုကို သူတပါးရှေ့မြှောက်ခြင်းဝါကြွားခြင်းပြုပြီးလော။ သူများ၌ပင်ပန်းရှုံးခြင်းဖြစ်သောကြောင့်၊ စိတ်ထဲ၌ဝမ်းသာခြင်းရှိပြီးလော။ ဘယ်နှစ်ခါနည်း။မိမိအရာနှင့်ဆိုင်သောဝတ်မှုများကို၊ ပေါ့ပေါ့ညံ့ညံ့ပြုပြီးလော။ ပျင်းရိခြင်းကြောင့်၊ စွန့်ပြီးလော။ ဘယ်နှစ်ခါနည်း။

## မိမိအပြစ်တို့ကိုတွေ့သိမှတ်ပြီးနောက်၊နာကြင်ခြင်း မေတ္တာကိုဆိုဦး။

အကျွန်ုပ်မျက်မှောက်၌၊ အကျွန်ုပ်၏အပြစ်တို့၏အစုအပုံရှိပါသည်။ထိုမကောင်းသမျှကို၊ လင်းလင်းမြင်ပါသည်။ထိုရွံဖွယ်သောအရာတို့ကို၊အဘယ်သို့ခံနိုင်ပါမည်နည်း။ ချစ်ဖွယ်သောအဖခမည်းတော်၊

ကိုယ်တော်၏အသနားတော်ကိုဆန်ပါပြီ။ အလိုတော်ကိုမလိုက်၍ငြင်းပယ်မိပါပြီ။ တရားတော်ကို၊ အကြိမ်ကြိမ်ကျူးလွန်ပါပြီ။ ရွေ့ပြည့်တော်၏အမွေကိုရှုံး၍ ငရဲ၏မီးလျှံမီးတောက်ဒါဏ်ကို ခံထိုက်ပါသည်။ ထိုအဖ၊ မခံနိုင်အောင်အရှက်ရပါသည်။ အကျွန်ုပ်၏အပြစ်တို့ကိုထောက်၍ အကျွန်ုပ်ကိုစီရင်တော်မူပါမဟုတ်၊ ရွေ့စိတ်တော်၏ဂရုဏာတော်ကိုအောင်းမေ့တော်မူ၍၊ အကျွန်ုပ်ကိုသနားတော်မူပါ။ ငရဲဒါဏ်ကိုသာကြောက်လို့ အခွင့်ကိုလျှောက်ပါသည်မဟုတ်၊ ချစ်ဖွယ်သောအဖကိုကျူးလွန်သောကြောင့်ဖြင်းစွာသောနာကြင်ခြင်းရှိပါသည်။ အကျွန်ုပ်၏အသမခံဖြစ်တော်မူသောသခင်ယေရှု၏အကျိုးတော်ကုသိုလ်တော်တို့ကိုကြည့်တော်မူ၍၊ ချမ်းသာပေးတော်မူပါ။ ထိုအပြစ်များတို့ကိုအမိန့်တော်ရှိသည်အတိုင်း၊ ယခုဖွင့်ပင်၊ ကြားလျှောက်ပေအံ့။ ယနေ့မှစ၍သေသည်တိုင်အောင်၊ ရွံရှာဖြစ်ပယ်ပါမည်။ အပြစ်သို့ရောက်စေတတ်သမျှကိုရှောင်ပါမည်။ အကျွန်ုပ်စိတ်၌စွဲကပ်သောမကောင်းကျင့်ဒလေ့တို့ကို၊ နုတ်ထုတ်ဖြစ်ပယ်ပါမည်။ ဟူ၍စောင်မတော်မူခြင်းကိုအမြဲပြုလျက်မြဲမြန်စွာဝန်ခံပါသည်။

ထိုနေ့တ်၊ နာကြင်ခြင်းစိတ်နှင့်ရဟန်းထံ၊ အပြစ်ငရဲတို့ကိုလျှောက်ကြား၍ပြီးလျှင်၊ ရဟန်းပေးမိသည့်အဆုမ်းအမကို နှစ်လုံးထဲသွင်းရအပ်သည့်ဖြစ်၍ အောက်ရေးထား၍ရှိသောကျေးဇူးထင်ရာမေတ္တာကိုဆိုဦး။

ခြေခ်ာဘုရားသခင်၊အတိုင်းအရှည့်မရှိသောဂရုဏာမေတ္တာအသနားတော်ကို၊ဝေနေယျသတ္တဝါတို့တွင်၊အဘယ်သူသည် အတော်အတန်ချီးမွမ်းနိုင်ပါမည့်နည်း။ ယခုမှာ၊အကျွန်ုပ်ခံစားရသည်ကျေးဇူးတော်ကို၊ လောကတ်တန်အောင်၊ မသိမဆပ်မလေးမမြတ်တတ်ပါသည်။ ယခုအကျွန်ုပ်၏အနေဖြစ်သည်အရင်အနေအဖြစ်နှင့်၊မတူအတိုင်းမသိခြားနား၍လွန်သာရှိပါသည်။ အရင်က၊ အကျွန်ုပ်သည်ဘုရားသခင်နှင့်ရန်ဘ ်ပြုသောသူဖြစ်ပါပြီး။ အထူးသဖြင့်မြတ်သောကျေးဇူးတော်ကိုပျောက်ပျက်ပါပြီး။ရွှေပြည်တော်သို့ပို့သောလမ်းတော်သည် ပိတ်ဆို့၍ရှိပါပြီး။ ငရဲအိုး၌မီးလျှံမီးတောက်ဒါဏ်ကို၊အစည့်အဆက်ခံထိုက်သောသူအကျွန်ုပ်ဖြစ်ပါပြီး။ ယခုမူကား၊မျက်စိတမှိပ်အတွင်း၊မကြံနိုင်သည့်ထက်၊အံ့ဖွယ်သောကျေးဇူးတော်ကိုအကျွန်ုပ်၌ ထာဝရဘုရားပြုတော်မူသည်။ ပျောက်မိသည့်ကျေးဇူးမြတ်နှင့်၊အကျွန်ုပ်ပြည့်စုံပြန်ပါသည်။ ရွှေမျက်နှာတော်ကိုရပြန်ပါသည်။ဘုရားရှင်ထပည့်တော်၏သိမ်မွေ့မြတ်လှသောကွဲတော်ကိုရပြန်၍ နိုင်ငံတော်၏အမွေကို၊

တဒန်ခံထိုက်သူဖြစ်ပါသည်။ အလွန်ချစ်လှသောသခင်ယေရှုးသည်မိမိအသွေးတော်ဖြင့်၊ အကျွန်ုပ်၏စိတ်ဝိညာဉ်ကိုဆေးကြော၍ သန့်ရှင်းဖြူစင်ခြင်းအဖြစ်သို့ရောက်စေတော်မူပြီး။

အိုယေရှုးအရှင်မြတ်၊ အကျွန်ုပ်ဌိပြုတော်မူပြီးသောကျေးရှုးတော်များကို၊အဘယ်သို့ဆပ်ရပါမည်နည်း။ အကျွန်ုပ်သည်ကိုယ်တော်ကို၊ခပ်သိမ်းသောအရေထက်၊အကြွင်းမဲ့ချစ်ပါသည်။ တရားတော်ကိုမှီဝဲသဖြင့်၊ ကောင်းမြတ်ဖြောင့်မတ်သောအရာသုဝရိုက်ကို ကျင့်ဆောင်ရွက်ထမ်းပါမည်။ မှားလွဲမကောင်းသမျှကို၊ အသက်ဆုံးတိုင်အောင်၊ ကြည်ရှောင်ပြစ်ပယ်ပါမည်။ အပြစ်၏အမြဲအရင်းကိုစိတ်ထဲကနှုတ်ထုပ်၍ မကောင်းသောအကျင့်ဒလေ့များကို၊အကုံအဝင်ပြစ်ပယ်ပါမည်။ ဤသို့ဖြင့်ကျေးရှုးတော်ကိုသိမှတ်တင်ဆပ်အောင်၊ တသက်ပတ်လုံးတွင်ကျိုးစားပါမည်သခင်ဘုရား။

---

ကိုယ်တော်မြတ်ကို၊ ကောင်းမွန်စွာပင့်ယူအောင်၊ ဆိုရသည့်ပေဌ္ဌာများကိုစီရင်ပေအံ့။

ကိုယ်တော်မြတ်ကိုမပင့်မယူခင်ဆိုအပ်သောပေဌ္ဌာ။

ကြွင်နာလိုင်ရွှေနှုးညွှံခြင်းနှင့်၊ အတိုင်းမသိ၊ပြည့်

စုံတော်မူလှသောသခင်ယေရှုး။ အကျွန်ုပ်သည်မိမိ ကောင်းကျင့်ကောင်းကျိုးများကိုမဟုတ်။ ကျေးဇူး ပြုတတ်သောရွှေစိတ်တော်ကိုသာ အမှီပြုပါသည်။ ပြုညားသော်လည်း၊ ကိုယ်တော်အထံတော်သို့ချဉ်း ကပ်၍စားပွဲတော်မှာထိုင်လာရလျှင်၊ ထိပ်လန့် ကြောက်ရွံ့ခြင်းကြီးလှပါသည်။ အကြောင်းမူကား၊ ကိုယ်စိတ်နှစ်ပါးတို့၌၊ များစွာသောအပြစ်နှင့်၊ အ ထူးထူးသောအဆိုးအညစ်၏ မူလအရင်းစွဲကပ်ပါ သည်။ဤသို့ဖြစ်သော်လည်း။ကိုယ်တော်မှ၊ အကျွ န်ုပ်သည်ဆုတ်ခွာရပါမည်နည်း။ အထံတော်သို့မဝင် ဘဲနေရပါမည်နည်း။ ဩော်မဟုတ်ပါဘုရား။ငါ၏ အသားကိုမစား၊ ငါ၏အသွေးကိုမသောက်ဘဲနေ သောသူသည်၊ထာဝရအသက်ကိုမရှင်မစံစားဟူ၍ ရှေ့နှုတ်တော်ကထွက် သောအမိန့်တော်မြွက်ကို ထောက်သော်၊ အကျွန်ုပ်အားရပါသည်ဖြစ်၍၊ခြေ ရင်းတော်သို့၊ရှိသေရှက်ခြင်းနှင့်ရောက်ဝံ့ပါသည်။

အကျွန်ုပ်သည်ဆင်းရဲဒုက္ခဝဲအလယ်၌ မြုတ်နေ သောသူဖြစ်ပါသည်၊ကိုယ်တော်သည်ကား။ဆင်းရဲ သူတို့နှင့်အတူထိုင်နေအောင်၊ သည်းခံတော်မူပြီး သော၊သိမ်မွေ့လှသောအရှင်တော် ဖြစ်တော်မူသည် အကျွန်ုပ်သို့မျက်စိတို့ကို၊စေတနာနှင့်၊ လှည့်လည် တော်မူပါ။ ပွဲတော်သို့ဝင်ထိုင်ရသောတပည့်တော် တို့၏ခြေတို့ကိုဆေးသုတ်တော်မူသော ချစ်ဖွယ်လှ သောသခင်ယေရှုး၊ အကျွန်ုပ်စိတ်နှလုံးကိုကျေး

ရူးတော်ဖြင့်ဆေးကြော၍အလွှန်ပင်ကြယ်သောအဖြစ်နှင့်ကိုယ်တော်စေးပွဲတော်အပေါ်းသို့၊ ဝင်ထိုက်အောင်၊ကယ်မ မစတော်မူပါ။ တောထဲမှာကိုယ်တော်နေခက်တော်သို့ လိုက်ပါသောပရိသတ်တို့အား၊တန်ခိုးတော်ပြ၍လောက်အောင် ကျွေးမွေးသနားတော်မူသော အိုသနားခြင်းရှိသောခရစ်သွတူးသခင်။ ထာဝရအသက်ကိုပေးတတ်သောကိုယ်တော်မြတ်စင်စစ်ဖြစ်သောမုံ့တော်ဖြင့်၊ ကိုယ်တော်ကိုမျှော်၍တောင်းတတ်သောအကျွန်ုပ်တို့၊ ကောင်းမွန်စွာကျွေးမွေးတော်မူပါ။

လက်ဝါးကပ်တိုင်၌ခွဲပြီးသောကိုယ်တော်မြတ်ကိုအကျွန်ုပ်ရိုသေစွာရှိခိုးပူဇော်ပါသည်။ ခြေတော်လက်တော်နံ့ဘေးတော်မှထွက်ပါးရုံသော၊ အထူးသဖြင့်အဖိုးထိုက်သောအသွေးတော်ဖြင့်၊ လောက်အပြစ်တို့ကို ဆေးကြောတော်မူပြီးသောအရှင်တော်မြတ်ကိုအကျွန်ုပ်ဦးချကန်တော့ပါ၏။ အပြစ်နှင့်စပ်ဆိုင်သမျှကို၊ အကျွန်ုပ်ထဲကနှုတ်ထုတ်၍အဖြောင့်အမတ်အကောင်းအမြတ်ဟူ၍ ကောင်းသမျှကို၊အကျွန်ုပ်၌ပြုံးစိုက်သွင်းထားတော်မူပါ။သို့လျှင်အကျွန်ုပ်သည်ကြောက်ရွံ့ထိပ်လန့်ခြင်းမဲ့၊ ဝမ်းသာဝမ်းမြောက်ခြင်းစိတ်နှင့်၊ ပွဲတော်သို့ချည်းကပ်၍ကိုယ်တော်မြတ်ကိုပင့်ယူဝံ့ပါမည် အရှင်သခင်။

## ကိုယ်တော်မြတ်ကိုပင့်ယူနိုးလျှင်၊ဆိုအပ်သည့် မေတ္တာ။

### ယုံကြည်ခြင်းမေတ္တာ။

အာရုံငါးပါးပေးတက်သောသက်သေအမှတ်ကို။မထင်မမှတ်ဘဲ။ထောင်လွှားသောစိတ်ပညာကိုမလိုက်မယူဘဲ။သည်အရာ၊ငါ၏ကိုယ်တော်တည်း၊ငါ၏အသွေးတော်တည်းဟူ၍ တပည့်တော်တကျိပ်နှစ်ပါးတို့အား၊မြွက်တော်မူထသော။အမှားအရှင်း၊အတိမ်းအယိမ်းနှင့်အလျှင်းကင်းသောနှုတ်ကပါတ်တော်ကိုသာ၊ အကျွန်ုပ်ယောက်၍ဘုရားစင်ပေါ်တွင် ဗြေဒ်သတိယဦ်ဘုရားအဖြစ်။ လူအဖြစ်။အဖြစ်နှစ်ပါးဖြင့် သခင်ယေရှုးစင်စစ်ကျိန်းဝပ်တော်မူသည်ဖြစ်၍သင်္ကြရမင်ဘူး၌အကျွန်ုပ်ပင့်ယူရသည့်အရာလည်း၊အခြားမဟုတ်၊ သခင်၏ကိုယ်တော်မြတ်အသွေးအသားတော် စင်စစ်ပင့်ယူရမည်အကြောင်းကိုမြဲမြံစွာသောယုံကြည်ခြင်းရှိပါသည်။

### မျှော်လင့်ခြင်းမေတ္တာ။

ကိုယ်တော်ကဆင်းရဲခံ၍လေးသောဝန်ကိုထမ်းသောသူတို့ငါဆီသို့လာလေကုန်သင်တို့အား၊သာရာချမ်းသာကို၊ ငါပေးလေအံ့ဟု၊ မြတ်သောခေါ်ဗိတ်ခြင်းကို၊မြွက်ဆိုတော်မူသည်နှင့်အညီ။အကျွန်ုပ်သည်

မဖေါက်မပြန်မပြောင်းမလဲမတုံမလှုပ်တတ်၍၊ မြဲမြဲ စွာသောစိတ်နှင့်ကိုယ်တော်ဆီသို့ချည်းကပ်၍မရေ မတွက်နိုင်အောင်၊ များမြတ်သောအကျိုးကျေးဇူး တို့ကိုခံစားရပါမည်ဟူ၍မျှော်လင့်ခြင်းရှိပါသည်။

ချစ်လေးမြတ်ခြင်းမေတ္တာ။

လူတို့၏ဝိညာဉ်တို့ကို၊အခွံ့ဖွယ်လှသောနည်းဖြင့် ကျွေးမွေးအောင်၊အထူးသဖြင့်ကြီးမြတ်လှသော၅၊ သတ္တရမင်တူးတော်ကို စီရင်ထားသောယေရှုအ ရှင်သခင်။ ကိုယ်တော်အားရိုသေလေးမြတ်ချစ်ခင် စုံမက်သမျှကို စိတ်ညာဏ်ပညာအစွမ်းရှိသမျှဖြင့် ပြုပါသည်။

တောင့်တခြင်းမေတ္တာ။

သမင်ဒရယ်သည်စမ်းရေကိုတောင့်တ၍ဖွေသ ကဲ့သို့၊ အကျွန်ုပ်ဝိညာဉ်လည်းကိုယ်တော်ကိုကြီးစွာ သောအလိုဆန္ဒဖြင့်၊ တောင့်တလှပါသည်။ရေမရ သောပန်းပင်မျက်ပင်တို့သည်၊ ညှိုးနွမ်းတတ်သကဲ့ သို့၊အကျွန်ုပ်ဝိညာဉ်သည်လည်း၊ သခင်မှခွာ၍နေ လျှင်၊ အားနည်းလှ၍မခံနိုင်ပါသည်။ ယခုပင်၊အ ကျွန်ုပ်စိတ်၏အဝတံခါးကို ဖွင့်၍အကျွန်ုပ်အရှင်ကို မျှော်နေပါသည်။ အိုချစ်ဖွယ်လှသောယေရှု၊မကြာ မမြင့်ဘဲ၊အလျှင်အမြန်၊ ကြွလာတော်မူ၍အကျွန်ုပ် ၏စိတ်အထဲသို့ဝင်၍အစိုးအပိုင်ယူတော်မူပါ။

(ကိုယ်တော်မြတ်ကိုပင့်ယူရသောအချိန်ရောက်လျှင်လက်ဖြင့်ကိုင်သောပုတီးစာအုပ်ကိုလွှတ်ထား၍မိမိနေရာမှထ၍စားပွဲတော်သို့ ရှုမြှော်နှင့်ကပ်ရအပ်သည်။ မိအာထောက်သောရှင်ကလေးတို့ကငရဲလျှောက်သောမေတ္တာကိုဆိုသည့်တွင်။ အိုသခင်အကျွန်ုပ်စိတ်ထဲသို့ ဆင်းဝင်ရသောကျေးဇူးတော်ကိုအကျွန်ုပ်မခံထိုက်ပါ။ တခွန်းတပါးသာမိန့်တော်မူ၍အကျွန်ုပ်သည်ချမ်းသာပါမည်ဟူ၍ ရိုသေစွာဆိုဦး။

ဩဝါဒ်သတိယကိုပင့်ယူ၍မြိုပြီးမှ အကျွန်ုပ်တောင့်တချစ်လှသောသခင်ကိုတွေ့မိ၍အမြဲစွဲပါသည့်ဟူ၍ဝမ်းသာစွာလျှောက်ဦး။

စားပွဲတော်မှထွက်ယူ၍မိမိနေရာသို့ပြန်လျှင်။သခင်ယေရှုး၏ကျေးဇူးတော်ကို ချီးမြှောက်ခြင်းမေတ္တာ။ ဆက်ကပ်ပူဇော်ခြင်းမေတ္တာ။ တောင်းလျှောက်ခြင်းမေတ္တာ။သတိနှင့်ရှိသေစွာဆိုဦး။)

လူရဟန္တာတို့ကိုးကွယ်ရာဘုရားအရှင်မြတ်သည်အကျွန်ုပ်စိတ်၌အမှန်နေတော်မူသည်ကို မြဲမြံစွာယုံကြည်ခြင်းရှိပါသည်။မာရိယမာဒါလေနားနည်းတူခြေတော်ကိုကိုင်ဖက်ကျောက် ကိုယ်တော်ကိုဦးချရှိခိုးခစားသမျှကိုပြု၍နေပါသည်။

ရှင်ဘုရင်အပေါင်းတို့ထက်ကြီးမြင့်မြတ်တော်မူလှသောမိုးမြေ၏မဟာသခင်ကို ပင့်ယူပြီးသောအကျွန်ုပ်ကား၊ ဘယ်သူနည်း။အလျှင်ယုတ်ညံ့သော

သူတည်း။သို့ဖြစ်သော်လည်း။ ဤသခင်မြတ်အကျွန်ုပ်
ကိုချစ်သနားတော်မူ၍၊ အံ့ဖွယ်သောကျေးဇူးကိုပြု
တော်မူပါပြီး။ ထိုကျေးဇူးမြတ်ကိုအဘယ်သို့သိ
မှတ်ဆပ်နိုင်ပါမည်နည်း။ ကိုယ်တော်ကိုစိတ်အစွမ်း
အားနှင့်အကြွင်းမဲ့အကျွန်ုပ်ချစ်ခင်ပါသည်။

အထူးသဖြင့်ကြီးများလှသောကျေးဇူးတော်တို့
နှင့်ပြည့်စုံသောအကျွန်ုပ်ဝိညည်။ ဘုရားသခင်ကို
ချီးမွမ်းပါလော။ အကျွန်ုပ်စိတ်နှစ်လုံးလည်း၊ ဘုရား
ရှင်၌ပြော်မွေ့ရွှင်လန်းခြင်းရှိပါလော။ အကြောင်း
မူကား။ အကျွန်ုပ်၏နှိမ့်ချယုတ်မာသောအဖြစ်ကို
ထောက်ရှု၍မကြံနိုင်အောင် အံ့ဖွယ်သောကျေးဇူး
ကိုပြုတော်မူပြီး။ ဝတ်မွတ်လှသောသူအကျွန်ုပ်ကို၊
ကောင်းမွန်ငွာကျွေးမွေးတော်မူပြီး။

အခြားမဟုတ်အကျွန်ုပ်စိတ်ကို၊ အစိုးအပိုင်ရ
ခြင်းငှါ၊ ကောင်းကင်ဘုံမှဤဆင်းရဲရာအရပ်သို့ချစ်
ဖွယ်လှသောယေရှုးဆင်းသက်ကြွလာတော်မူသည့်
အမှန်ဖြစ်ပါသည့်။ သို့ရာတွင်၊အကျွန်ုပ်ကိုယ်စိတ်
နှစ်ပါးကို၊ ချစ်ဖွယ်လှသောသခင်အားလှူတန်ပူ
ဇော်၍၊ရွှေလက်တော်၌အကြွင်းမဲ့အပ်လိုက်ပါသည်။
အိုယေရှုး၊ အကျွန်ုပ်၏သခင်အရှင်ဖြစ်တော်မူပါ။
အကျွန်ုပ်သည်ယခုမှစ၍၊ ခန္ဓာပြောင်းမည်တိုင်အောင်
ကိုယ်တော်၏တပြည့်တော်အမှန်၊ ဖြစ်ပါမည်။တရား
တော်၏အမှုတော်မြတ်ကို၊ ဝမ်းမြောက်ခြင်းစိတ်
ဖြင့်၊ခံတမ်းပါမည်၊သိမ်မွေ့လှသောသခင်။

ပြောင်မြတ်သောသခင်။ အကျွန်ုပ်ဆင်းရဲခြင်းကို ကြည့်တော်မူ၍ အလိုရှိသောအကျိုးကျေးဇူးများကို ပေးကမ်းတော်မူပါ။ ယုံကြည်ခြင်း၊ စောင့်ရှောက်ခြင်း။ ချစ်လေးမြတ်ခြင်းအစရှိသောပါရမီမြတ်တို့ အတိုးအပွါးကိုပေးတော်မူပါ။ အကျွန်ုပ်ဆိုးညစ် စိတ်ကိုဖယ်ရှားတော်မူ၍ကိုယ်တော်၏သာ ချစ်ခြင်း တတ်သောဖြူစင်သောစိတ်နှစ်သုံးအသစ်ကို ဖန် ဆင်းတော်မူပါ။ အကျွန်ုပ်ပေါက်ဖေါ်ဆွေမျိုးညာ တကာများကိုလည်း၊ အောင်းမေ့တော်မူ၍ထိုသူတို့ ၌အလိုရှိသောကျေးဇူးစောင့်မခြင်းများကို ပေး တော်မူပါ။ အကျွန်ုပ်ကိုအညှိုးထား၊ ရန်လိုရန်ရှာ သောသူတို့၏အပြစ်ကိုမှတ်တော်မမူပါနှင့်။ သေ ခြင်း၏အရိပ်ထဲ၌ထိုင်နေသော၊ ဇင်တိဦးများကို အောင်းမေ့တော်မူ၍၊ ထိုသူတို့အား၊ အကျွတ်တရား လမ်းတော်ကိုဖွင့်တော်မူပါ။ သေမင်းနှင့်နတ်ဆိုးတို့ ကိုအောင်မြင်တော်မူသောမဟာသခင်။ ကိုယ်တော် ကရွေးဆယ်တော်မူသောသူအပေါင်းတို့ကို၊ နတ် ဆိုးလက်မှနှုတ်တော်မူ၍၊ ဘုရားထံပဥ္စတော်အဖြစ် တော်သို့ရောက်စေတော်မူပါ။

အိုဘုရားသခင်။ ပြင်သက်စွာသွားရသောအခွင့် တော်ကို၊ အကျွန်ုပ်အားယခုပင်ပေးသနားတော်မူပါ၊ အကြောင်းမူကား၊ ကယ်တင်တော်မူသောသခင်ကို၊ မိမိစိတ်၌အကျွန်ုပ်စံစားပါပြီ။

လူအမျိုးတကာတို့၊ ဘုရားကိုချီးမွမ်းကြကုန်လော။

| | |
|---|---|
| Virgo prudentissima, *ora.* | အမြော်အမြင် ပညာရှိသော သီလသည်၊ ကျွန်ုပ်။ |
| Virgo veneranda, *ora.* | ရှိသေခြင်း ခံထိုက်သောသီလ သည်၊ ကျွန်ုပ်။ |
| Virgo prædicanda *ora.* | ချီးမြှောက်ထိုက်သော သီလ သည်၊ ကျွန်ုပ်။ |
| Virgo potens, *ora.* | တန်ခိုးအားနှင့် ပြည့်စုံသောသီ လသည်၊ ကျွန်ုပ်။ |
| Virgo clemens, *ora.* | သနားတတ်သော သီလသည်၊ ကျွန်ုပ်။ |
| Virgo fidelis, *ora.* | ယုံကြည်လောက်သော သီလ သည်၊ ကျွပ်နုပ်။ |
| Speculum justitiæ, *ora.* | မျဉ်းတံကဲ့သို့ဖြောင့်မတ်သော သခင်မ၊ ကျွန်ုပ်။ |
| Sedes sapientiæ, *ora.* | ပညာတော်ကျိန်းဝပ်ရာသခင်မ၊ ကျွန်ုပ်။ |
| Causa nostræ lætitiæ, *ora.* | ဝမ်းမြောက်ရာအစ ဖြစ်သော သခင်မ၊ ကျွန်ုပ်။ |
| Vas spirituale, *ora.* | သပိရစ်သံတူး ကျိန်းဝပ်ရာဌာန ဖြစ်သောသခင်မ၊ ကျွန်ုပ်။ |
| Vas honorabile, *ora.* | ရှိသေခြင်းမျိုးကို ခံထိုက်သော သခင်မ၊ ကျွန်ုပ်။ |
| Vas insigne devotionis, *ora.* | သဒ္ဓါကြည်ညိုခြင်း ရှိလေသော သခင်မ၊ ကျွန်ုပ်။ |

| | |
|---|---|
| Rosa mystica *ora,* | နှင်းဆီပွင့်သဏ္ဌာန်နှင့် တူသောသခင်မ၊ ကျွန်ုပ်။ |
| Turris Davidica, *ora.* | ဒါဝိဒ်အနွယ်မှ။ ဘုန်းကြက်သရေကိုခံသောသခင်မ၊ ကျွန်ုပ်။ |
| Turris eburnea, *ora.* | ဆင်ဆွယ်တိုင်အဆင်းနှင့် တူသောသခင်မ၊ ကျွန်ုပ်။ |
| Domus aurea, *ora.* | ရွှေတိုက်သဏ္ဌာန် တူသောသခင်မ၊ ကျွန်ုပ်။ |
| Fœderis arca, *ora.* | သဒ္ဒါပွဲရာ သစ်တဲ့နှင့်တူသောသခင်မ၊ ကျွန်ုပ်။ |
| Janua cœli, *ora.* | ကောင်းကင်တံခါး ရှိသောသခင်မ၊ ကျွန်ုပ်။ |
| Stella matutina, *ora.* | မိုဃ်းသောက်ကျယ်နီနှင့် တူသောသခင်မ၊ ကျွန်ုပ်။ |
| Salus infirmorum, *ora.* | ဝေဒနာရှိသောသူတို့၏ ကိုးကွယ်ရာသခင်မ၊ ကျွန်ုပ်။ |
| Refugium peccatorum *ora.* | အပြစ်မကင်းသူတို့မှီခိုရာသခင်မ၊ ကျွန်ုပ်။ |
| Consolatrix afflictorum, *ora.* | နှမ်းရိညှိုးငယ်သောသူတို့ စိတ်ပြေရာသခင်မ၊ ကျွန်ုပ်။ |
| Auxilium Christianorum, *ora.* | ကရိသျှတောင်တို့အားမိုင်းမရာသခင်မ၊ ကျွန်ုပ်။ |
| Regina Angelorum, *ora.* | သိ[illegible]တို့၏သခင်မ၊ ကျွန်ုပ်။ |

| | |
|---|---|
| Regina Patriarcharum *ora.* | [illegible]တော်များဖြစ်သည်တို့၏ သခင်မ၊ ကျွန်ုပ်။ |
| Regina Prophetarum, *ora.* | အာဂုဏ်ရသော ပရောဖက်တ အပေါင်းတို့၏သခင်မ၊ကျွန်ုပ်။ |
| Regina Apostolorum, *ora.* | တပည့်တော်ကြီးတို့၏ သခင်မ၊ ကျွန်ုပ်။ |
| Regina Martyrum, *ora.* | ဘာသာတရားကြောင့်အသက် ကိုအသေခံသောသူတို့၏ သ ခင်မ၊ ကျွန်ုပ်။ |
| Regina Confessorum, *ora.* | တရားတော်ကိုဝန်ခံသောသူတို့ ၏သခင်မ၊ ကျွန်ုပ်။ |
| Regina Virginum *ora.* | သီလသည့်အပေါင်းတို့၏သခင် မ၊ ကျွန်ုပ်။ |
| Regina Sanctorum omnium, *ora.* | ရဟန္တာအပေါင်းတို့၏သခင်မ၊ ကျွန်ုပ်။ |
| Regina sine labe concepta, *ora.* | အပြစ်မဲ့ သန္ဓေဖြစ်သောမယ် တော်၊ ကျွန်ုပ်။ |
| Agnus Dei, qui tollis peccata mundi, *Parce nobis, Domine.* | ဤလောကအပြစ်ကိုချွတ်သော ဘုရား၏သိုးငယ်တော်၊အကျွ နုပ်တို့အား၊ ကယ်မသနား တော်မူပါ။ |
| Agnus Dei, qui tollis peccata mundi, *Ex-* | ဤလောကအပြစ်ကိုချွတ်သော ဘုရား၏သိုးငယ်တော်၊အကျွ နုပ်ကို ဘောင်းလျှောက်သည့် |

*audi nos, Domine.*

ဆုကိုဖြည့်တော်မူပါ။

Agnus Dei, qui tollis peccata mundi, *Miserere nobis.*

ဤလောကအပြစ်ကိုချွတ်သော ဘုရား၏သိုးငယ် တော်အကျွနုပ်တို့အား ကယ်မသနား တော်မူပါ။

—— ၀၀ ——

## မိသေရေရေ။ အပြစ်သို့ရောက်၍သံဝေဂရသော ဒါဝိဒ်မင်းကြီးကရေးထားသောမေတ္တာ။

Miserere mei Deus: * secundum magnam misericordiam tuam.

အိုဘုရားသခင်။ ကြီးသော အသနားတော်အတိုင်း၊ အကျွနုပ်ကိုသနားတော်မူပါ။

Et secundum multitudinem miserationum tuarum: * dele iniquitatem meam.

များစွာသောဂရုဏာမေတ္တာ တော်နှင့်အညီ။ အကျွနုပ်၏အပြစ်ကိုပယ်ရှားတော်မူပါ။

Amplius lava me ab iniquitate mea: * et a peccato meo munda me.

အကျွနုပ်၏အမှားအယွင်းမှ အကျွနုပ်ကို အကုန်အစင်ဆေးကြောတော်မူ၍၊ အပြစ်ဒုစရိုက်မှ၊ အကျွနုပ်ကို၊ သန့်ရှင်းစေတော်မူပါ။

Quoniam iniquitatem meam ego cognosco: * et peccatum meum contra me est sempe

မိမိကျူးလွန်ခြင်းကိုလည်း၊ အကျွနုပ်သည်သိမြင်ပါ၏။ ကျွနုပ်၏အပြစ်သည် အကျွနုပ်နှင့် တခါနတဖက်အစည်တည်ပါ၏။

Tibi soli peccavi, et malum coram te feci : * ut justificeris in sermonibus tuis, et vincas cum judicaris.

ကိုယ်တော်ကိုသာပြစ်မှားမိပါပြီ။ မျက်မှောက်တော်၌ဒုစရိုက်ကိုပြုပါပြီ။ ထိုဖြစ်၍မိန့်တော်မူချက်တို့သည်မှန်ကန်စွာတည်မည် ဓိရင်တော်မူချက်တို့သည်တရားမှန်လျာပြမည်။

Ecce enim in iniquitatibus conceptus sum : * et in peccatis concepit me mater mea.

အပြစ်အလယ်၌ လူအဖြစ်သဏ္ဌာန်ကိုအကျွန်ုပ်ရပြီ။ အပြစ်၌အကျွန်ုပ်အမိသည်ပဋိသန္ဓေစွဲယူပါလေပြီ။

Ecce enim veritatem dilexisti : * incerta, et occulta sapientiæ tuæ manifestasti mihi.

ကိုယ်တော်သား။ အဟုတ်အဖြောင့်ကို နှစ်သက်တော်မူ၏။ ပညာတော်၏ နက်နဲရာကို၊ အကျွန်ုပ်အား၊ ဖွင့်လှစ်တော်မူပါပြီ။

Asperges me hyssopo, et mundabor : * lavabis me, et super nivem dealbabor.

အကျွန်ုပ်ကို၊ ဈုသပ်မိဖြင့်၊ ရေဖြန်းတော်မူပါအံ့။ အကျွန်ုပ်လည်းစင်ကြယ်ခြင်းသို့ရောက်ပေအံ့။ အကျွန်ုပ်ကိုဆေးကြောတော်မူအံ့အကျွန်ုပ်လည်းနှင်း၊ ထက်သာ၍ဖြူပါလေအံ့။

Auditui meo dabis gaudium et lætitiam :

အကျွန်ုပ်စိတ်အား၊ သာယာဝမ်းမြောက်ရာကို မိန့်မြွက်တော်မူပါအံ့။သံဝေဂဖြင့်ကြိုးပွဲသော

* et exultabunt ossa humiliata.

အကျွန်ုပ်၏ ရိုးတို့သည်လည်း ရွှင်လန်းခြင်းရှိကြလိမ့်မည်။

Averte faciem tuam a peccatis meis: * et omnes iniquitates meas dele.

အကျွန်ုပ်၏အပြစ်တို့မှ၊ ရှေ့မျက်နှာတော်ကိုလွှဲတော်မူပါ။ မကောင်းမှုအပေါင်းတို့ကို ချေဖျက်တော်မူပါ။

Cor mundum crea in me Deus: * et spiritum rectum innova in visceribus meis.

အကျွန်ုပ်၌သန့်ရှင်းသောစိတ်ကိုဖန်ဆင်းတော်မူပါ။ ကျွန်ုပ်အထဲ၌ ဖြောင့်မတ်သောသဘောအသစ်ကိုပြုပြင်တော်မူပါ။

Ne projicias me a facie tua: * et spiritum sanctum tuum ne auferas a me.

ရှေ့မျက်နှာတော်မှအကျွန်ုပ်ကို ပယ်ရှားတော်မမူပါနှင့်။ သန့်ရှင်းသော ဝိညာဉ်တော်ကို အကျွန်ုပ်အထဲမှ၊ ထုတ်သိမ်းတော်မမူပါနှင့်။

Redde mihi lætitiam salutaris tui: * et spiritu principali confirma me.

သန့်ရှင်းသော ဝမ်းမြောက်ခြင်းကိုပြန်၍ပေးတော်မူပါ။ ရဲမြဲသောသဘောဖြင့် အကျွန်ုပ်ကိုထောက်မတော်မူပါ။

Docebo iniquos vias tuas: * et impii ad te convertentur.

ဆိုးသောသူတို့အား တရားတော်၏လမ်းတော်ကိုအကျွန်ုပ်သည်ပြသသွန်သင်ပါမည်။ မတရားသောသူတို့သည် ကိုယ်တော်ဘက်သို့ပြန်[illegible]လိမ့်မည်။

Libera me de sanguinibus Deus, Deus salutis meæ: * et exaltabit lingua mea justitiam tuam.

အကျွန်ုပ်၏ ကယ်တင်ရာမြစ်
တော်မူသောဘုရားသခင်။ လူ
အသက်ကို သတ်ခြင်းအပြစ်မှ၊
အကျွန်ုပ်ကိုကင်းစေတော်မူပါ။
အကျွန်ုပ်၏လျှာသည် ဂရုဏာ
မေတ္တာတော်ကို ချီးမွမ်းလိမ့်မည်။

Domine, labia mea aperies: * et os meum annuntiabit laudem tuam.

အိုဘုရားသခင်။ အကျွန်ုပ်
နှုတ်ခမ်းကို ဖွင့်တော်မူ၍ အ
ကျွန်ုပ်သည် အချီးအမွမ်းကိုအ
ထင်တရှားပြောဆိုပေအံ့။

Quoniam si voluisses sacrificium, dedissem utique: * holocaustis non delectaberis.

ယဇ်ပူဇော်ခြင်းကို အလို
တော်ရှိလျှင်။ အကျွန်ုပ်သည်ပူ
ဇော်ရအံ့။ ကိုယ်ယောက်ဘားမီး
ရှို့၍ပူဇော်ရာကို နှစ်သက်
တော်မမူပါ၏။

Sacrificium Deo spiritus contribulatus: * cor contritum, et humiliatum, Deus, non despicies.

ဘုရားသခင်အား ပူဇော်ရာ
ကား။ ပူလောင်ခြင်းစိတ်တည်း။
အိုဘုရားသခင်။ ကြေကွဲနှိမ့်ချ
ခြင်း စိတ်နှစ်လုံးကို ပယ်တော်
မမူပါနှင့်။

Benigne fac, Domine, in bona voluntate tua Sion: * ut ædificentur muri Jerusalem.

အိုသခင်။ ဇိအုံနှင့်ကြည်ညို
ဘွယ်ပြုတော်မူ၍ ယေရုသလင်မြို့
ရိုးတို့သည် တည်ဆောက်၍ရှိ
ပါလိမ့်မည်။

Tunc acceptabis sacrificium justitiæ, oblationes et holocausta: * tunc imponent super altare tuum vitulos.

ထိုအခါ သန့်ရှင်းသောပူဇော်ခြင်း။ လှူဒါန်ခြင်း။ ပူဇော်၍မီးရှို့ခြင်းတို့၌ မွေ့လျော်တော်မူပါအံ့။ ထိုအခါကိုယ်တော်၏ပလ္လင်တော်ပေါ်၌ နွားကလေးတို့ကိုသတ်၍တင်ကြလိမ့်မည်။

---

ကရိသျှတောင်ဘာသာတူတို့အရေးအခွင့်ရှိရာ ရွတ်သရဇ္ဈာယ်အပ်သောဆုတောင်းမေတ္တာရှ။

---

ဝါတွင်းရွတ်သရဇ္ဈာယ်ရမည့်ပရိတ်မေတ္တာ။

လောကအသားလုံးစုံကိုပြုပြင်ဖန်ဆင်းတော်မူသော မြတ်စွာသခင်၊ သနားတော်မူခြင်းဂရုဏာရှိတော်မူသည့်နှင့်အညီ၊ အကျွန်ုပ်တို့သည်ဥပုသ်ဆောက်တည်အပ်သောအရက်လေးဆယ် ဝါလခေတ်အတွင်း၊မျက်ရည်ရှိကြငိုကြွေးလျှက်၊ အသနားတော်လျှောက်တောင်းပန်ကြသောအသံကို၊ ရွှေနားတော်သွင်းတော်မူပါ။

လူတို့၏မနောစိတ်တွဲ၌၊ဖွေ့ဒုစိတ်စိတ်သိမြင်တော်မူသောသခင်မြတ်စွာ၊ အကျွန်ုပ်တို့တရားတော်ရှိရာပေါင့်စည်းကျင့်ဆောက်တည်ခြင်း၌၊ စေတနာအားလျော့ညှိုးသည်ကိုလည်းသိတော်မူသည်ဖြစ်၍၊ အကျွန်ုပ်တို့ယုံပေးစိတ်ဖြင့်၊ အသံပေါ်မြင်သို့ဖြန်

လည်ဆည်းကပ်လာသည်နှင့်အညီ၊ ကိုယ်၌ရှိသည့် အပြစ်မကောင်းမှုများကို၊ ကယ်ချွတ်ချမ်းသာခြင်း ကျေးဇူးတော်ကယ်မသနားတော်မူပါ။

အကျွန်ုပ်တို့၌ရှိသည့် အပြစ်မကောင်းမှုလည်း၊ အနည်းငယ်မဟုတ်ပါ၊ အထွေထွေများပြားလှပါသည်။ များပြားညားသော်လည်း၊ အကျွန်ုပ်တို့မ ထိမ်မဝှက်ဟုတ်မှန်တိုင်း၊ ထိုမကောင်းမှုအပြစ်တို့ ကိုပင်ရှေ့တော်၌နှိမ့်ချစွာထုပ်ဖေါ်လျှောက်ထားပါ သည့်ကိုထောက်တော်မူ၍၊ ကြည်အခွင့်လွှတ်တော်မူ ပါ။ သခင်မြတ်စွာနာမတော်မြတ်၊ ဂုဏ်တော်၊ ကျေး ဇူးအာနုဘော်တော် သာလွန်၍ ထင်ရှားထွန်းပ အောင်ကိုလည်း၊ အကျွန်ုပ်တို့၌စွဲကပ်သည့် အကု သိုလ်ဟူသောအနာရောဂါကို၊ တန်ခိုးတော်ဖြင့်ကုမ တော်မူပါ။

ထိုမှတပါး၊ အကျွန်ုပ်စိတ်နှစ်လုံးသည်ဒုစရိုက်မ ကောင်းမှု အဖန်တလဲလဲပွားရာနေ့ခင့်ရှက်ခြင်းအ မြစ်မူလရင်းနှင့်ကင်းလွှတ်အံ့သော၌၊ ဤဝါတွင်း အစာအဟာရရှောင်ကြဉ်သောအားဖြင့်၊ ဤကိုယ် ခန္ဓာ၌တည်နေသည်ကာမဂုဏ်ငါးပါး၊ မကောင်းမှု လခေါင်းပါးမည်အကြောင်းစောင့်မတော်မူပါ။

အမြတ်သုမွှားပြားလျက်၊ ငကေဟူသောတဆူ တည်းသာဖြစ်တော်မူသောမြတ်စွာဘုရား။ မြတ်စွာ ဘုရားသခင်ကိုးကွယ်ပါသောတပည့်ဘာသာတူတို့ သည်၊ ဝါလခေတ္တအတွင်းပညတ်တော်နှင့်အညီ၊ ဉ

မှုသ်ဝါစေ၀င့်ဖြင်း ဝတ်တော်ကို ဆောင်ရွက်ကြ သည်။ အလိုရှိအပ်သမျှသော ပစ္စုပ္ပာန်သံသရာအ ကျိုးဆောင်ကျေးဇူးတော်များကိုတယ်မသနားတော် မူပါ။

—— ၀၀ ——

မိုးယံးခေါင်လေ့ရှားသည့်ကာလ၊ တောင်းလျှောက် အပ်သောဆုတောင်းမေတ္တာ။

ဘုရားမြတ်စွာသခင်အား ရှိသေစွာလျှောက်ပ ပါသ်။ ယခုလောကမျက်မှောက်၌အသုံးအဆောင် ကိုယ်အတွင်း အပအတောင်းအမှုန်ရှိသမျှကိုမဆို ထားဦး၊ ဤအသက်ခန္ဓာမသော၊ရှင်ရခြင်းသည်ပင် သော်လည်း၊ ကျေးဇူးတော်သာဖြစ်ပေသည့်မှန်၏။ ထိုကြောင့်၊ ယခုရောက်ဆဲသောအရေးနှင့်လျော် စွာ၊ချမ်းမြေ့သာရာသော မိုးယံးရွာခြင်းကျေးဇူး တော်မြတ်ကိုခံပါရလိုသည်။ယခုလိုအပ်သောလော ကကိစ္စပြည့်စုံကုံလုံပါလျှင်လည်း၊ မျက်မှောက်အမှု ကိစ္စကို၊ စိတ်နှစ်လုံးသည်အောင်းမေ့တောင်းက ခြင်းသောကဗျာဗာဒမရှိကင်းသည်ဖြစ်၍၊နောင်သံ သရာအရေးတော်မြတ်ကို၊ သာလွန်စွာအောင်းမေ့ တောင်းတအားပါစေခြင်းသည်။ အကျွန်ုပ်တို့လည်း ကျေးဇူးတော်မြတ်ကို မခံထိုက်သည့်မှန်ပါသော် လည်း၊ ကျေးဇူးတော်မခံထိုက်သောသူတို့အားပင်၊ သနားတော်မူပေသော လောကအဖမြတ်ဖြစ်တော်

ရှုသည့်နှင့်အညီ၊ ယခုအလိုရှိအပ်သောမိုဃ်းရွာ ခြင်းကျေးဇူးတော်ကိုသည်လည်း၊ မခံထိုက်ဘဲလျက် ပင်သနားတော်မူမည်အကြောင်း၊ ယုံမှတ်သဒ္ဓါ၊ ကြည်ဖြူသောစိတ်နှစ်လုံးနှင့် ရိုသေစွာရှိခိုးအသနား တော်မြတ်ကိုလျှောက်ဝံ့ပါသည်။ အာမင်။




### လုပ်ငန်းမြောက်ပြီးအောင်မိုဃ်းလွန်စွာရွာလျှင်၊ မိုဃ်း လင်းခြင်းကျေးဇူးတော်ခံရအောင်တောင်း လျှောက်အပ်သောဆုတောင်းမေတ္တာ။

ဘုရားသခင်အားရိုသေစွာလျှောက်ဝံ့ပါသည်။ ဤလောကအဖကောင်းတို့သည်၊ ချစ်သောသားအား ကောင်းစေလိုသောသဘောဖြင့်၊ အပြစ်ရှိကြိုက် ဆုံးမသည်နည်းတူ၊ ဘုရားမြတ်စွာသခင်သည်လည်း၊ အားလုံးလူတို့၏အဖမြတ်ဖြစ်တော်မူ၍၊ လူတို့အား ချစ်သနားတော်မူသောအားဖြင့်၊ တရားသဘောသံဝေ ဂရစေလိုသော ရွှေနှစ်လုံးတော်ထားရင်းနှင့်၊ အ ပြစ်မကောင်းမှုနှင့်လျော်စွာ ဆုံးမတော်မူပေသည့် တွင်၊ လောကအဖကောင်းတို့သည်၊ သားအားချစ် သည့်အဟုန်နှင့်ပင်ကျူးလွန်သည့်အပြစ်ကို၊ ကညာ ပေးတတ်သည်လည်းနည်းတူ၊ ဘုရားသခင်အဖမြတ် စွာတို့သည်လည်း၊ လူတို့အားသနားချစ်ကြည်တော် မူလှသောအဟုန်အားဖြင့်၊ ပြုသည့်အပြစ်ကောင်း

မှုချမ်းသာပေးတော်မူတတ်သည့် မှန်လှပေသည့်ဖြစ်၍၊ ယခု၊ အကျွန်ုပ်တို့အားချစ်ကြည်တော်မူသောအားဖြင့်၊ အပြစ်မကောင်းမှုလျော်စွာပိုလွန်သော မိုဃ်းရွာခြင်းဒါဏ်ကိုပေးတော်မူပေသည်။ နောက်၊ အကျွန်ုပ်တို့သံဝေဂစွဲလျက်ကျွေးကြော်၍၊ အသနားတော်မြတ်ကိုပန်လျှောက်သည့်အတိုင်း၊ တန်ခိုးတော်ဖြင့် အာပေါ်ခတ်တို့ကိုချိန့်မောင်းဆီးတားတော်မူ၍၊ ကြည်လင်သာယာသောလဟာကောင်းကင်မျက်နှာကိုပြတော်မူသဖြင့်၊ ချမ်းသာပေးတော်မူပါ။ လူတို့အားအပြစ်အလိုက်ဆုံမတော်မူသည်ဖြစ်စေ၊ ဂရုဏာဟူသောသနားခြင်းပဋ္ဌာနကချည်းဖြစ်ပါသော်လည်း၊ အပြစ် ချမ်းသာပေးတော်မူခြင်း၌၊ ချစ်သနားတော်မူသောလက္ခဏာသာလွန်၍ထွန်းပသိသာထင်ရှားသည်ဖြစ်၍၊ ယခု၊ အကျွန်ုပ်တို့တောင်းလျှောက်သော အခွင့်ဆုကျေးဇူးတော်မြတ်ကို၊ သားတော်ယေရှုဘုရားရှင်ရွှေမျက်နှာတော်တကြောင်းထောက်တော်မူ၍ သနားတော်မူပါ။ အာမင်။

—oo—

ကျွန်နွားကာလနာရှိလျှင်၊ တောင်းလျှောက်အပ်သော ဆုတောင်းမေတ္တာ။

ဘုရားသခင်အား ရှိသေစွာလျှောက်ပံ့ပါသည်။ ကမ္ဘာဦးကပဌမအာဒံအဖတို့အား၊ ရှေဦးထား၍ဗျာ

ဒိတ်တော်ရှိရင်းဝေါက်ငမ်းတော်မူသည်ကပင်၊ လူတို့သည်အပြစ်မကောင်းမှုကြောင့်၊ မြေသြဇာဒုပ်၍ပင်ပန်းစွာနမှုးဘ‌ခြေးထွက်သဖြင့်သာ၊ အသီးအနှံအဟာရကိုသုံးဆောင်စားသောက်ရမည်ဟု၊ လူကိုအားအမိန့်ဒါဏ်ကို ပေးတော်မူလျက်ပင်သနားတော်မူပြန်၍၊ လုပ်ဆောင်ပင်ပန်းခြင်း၌၊ပေါ့လျော့သက်သာစိန့်သောငှါ၊ အပတိတ်တိရိစ္ဆာန်သတ္တဝါတို့ဆိုသော်လည်း၊ လူတို့အားအထောက်အပန့်အစေအပါကဲ့သို့ဖြစ်စေတော်မူသည့်နှင့်အညီ၊ ယခုမှာထိုအပတိတ်သတ္တဝါမရှိဘဲ၊ လူတို့အသက်ကျွေးမွေးသဖြင့်၊ ရှည်အံ့သောကိစ္စမပြည့်စုံနိုင်သည့်ဖြစ်၍၊ အကျွန်ုပ်တို့စားသုံးဆောင်မြဲအတိုင်းစားသုံးဆောင်ရအောင်၊ ယခုနာ၍သေပျောက်ကြခြင်းရောက်ဆဲသော ဘေးဉီးပါတ်မှ ထွက်မြောက်၍၊ ချမ်းသာပေးတော်မူပါမည်အကြောင်း၊ ရှိကြားရှိုညွတ်တွားလျက်၊အသနားတော်မြတ်ကိုလျှောက်ပံ့ပါသည်။ အာမင်။

——00——

စပါး၊ ပဲ၊ ပြောင်းတို့ကို၊ ပိုးမွှားကိုက်စားဖျက်ဆီးလျှင် တောင်းလျှောက်ရမည်ဆုတောင်းမေတ္တာ။

အလိုတော်ရှိတိုင်းတန်ခိုးတော်ဖြင့်၊ ပြုပြင်ဖန်ဆင်းနိုင်တော်မူသောဘုရားမြတ်စွာသခင်။ လူတို့

အသားအပြစ်မကောင်းမှုဒါဏ်ကို ပေးတော်မူရင်းနှင့်အညီ၊ အကျွန်ုပ်တို့သည်၊ ယခုအတိုင်းထက်အလွန်ပင်ပန်းစွာကျိုးကုပ်လုပ်ဆောင်သဖြင့်၊ မျိုးဆွေမြေဦးနှံ့ပြီးလျှင်၊ အပင်အဖူးပေါက်ရောက်သည့်ဖြစ်၍၊ဆင်းရဲပင်ပန်းဘူးသည့်ကိုမေ့လျော့၍၊ခံရလတ္တံ့သောအကျိုးကိုသာ မျှော်ခေါ်သောအားဖြင့် ဝမ်းမြောက်ဝမ်းသာရှိကြသည့်အတွင်းတွင်၊ မိုးမွှားတို့က ကိုက်စားဖျက်ဆီးခြင်း ဘေးဥပါဒ်ရောက်ဖြန့်သည့်ကိုတွေ့သော်၊ အကျွန်ုပ်တို့အပြစ်မကောင်းမှုဝန်လေးလှသောကြောင့်၊ ပင်ပန်းစွာလုပ်ဆောင်ခြင်းဖြင့်၊ရသည့်အစားအဟာရကိုပင်မျှမသုံးစားထိုက်ရှိချေသည်။ ထို့ကြောင့်ယခုသံဝေဂတရားကိုစွဲလျက်နှင့်၊ နှစ်လုံးစိတ်ဖြင့်အထံတော်သို့ချည်းကပ်၍၊ ရှိသေကျိုးနွံစွာအသနားတော်မြတ်ကိုလျှောက်တောင်းပန်ကြသည်။ မြတ်စွာဘုရားသခင်သည်အကျွန်ုပ်တို့အား၊ မိမိကိုယ်အပြစ်ကိုသိမြင်ခြင်းသတိရတော်မူစေလို့သောကြောင့်၊ဤဒါဏ်ကိုပေးတော်မူသည်ဖြစ်၍၊ ယခု၊ အကျွန်ုပ်တို့ကလည်း၊အလိုတော်အတိုင်းသတိသံဝေဂနှစ်လုံးစိတ်ထဲ၌ စွဲကြသည်နှင့်အညီ၊ ချမ်းသာခြင်းကျေးဇူးတော်ကိုသနားတော်မူပါ။ လူတို့အား၊ဘောဇဉ်အာဟာရဓာတ်ဖြစ်စိမ့်သောငှါ၊ဤအပင်များကို၊တန်ခိုးတော်ဖြင့်ဖန်ဆင်းတော်မူသည်အတိုင်း၊ ထိုတန်ခိုးတော်နှင့်ပင်၊ ယခုပျက်ဆီးကြသောမိုးမွှားတိရိစ္ဆာန်တို့

ကိုလွှင့်ချော်တော်မူသဖြင့်၊ အသီးအနှံမျိုးစေ့ သိမ်းဆည်းသိုမှီးရသည့်တိုင်အောင်၊ ထိန်းသိမ်းတော်မူပါ။ အကျွန်ုပ်တို့လည်း၊ လိုအပ်သောအသုံးအဆောင် အစားအသောဟာရပြည့်စုံကြချောင်၊ စိတ်နှစ်လုံးသောက ဗျာပါဒမရှိကင်းသည်ဖြစ်၍၊ ချမ်းမြေ့သာယာရေးပတ်လာတိုင်း၊ အသာအလွန်စေတနာစိတ်နှင့်တကွ ဆောင်ရွက်နိုင်ပါလိမ့်မည်။ ယခု၊ အကျွန်ုပ်တို့ တောင်းလျှောက်ကြသော ဆုကျေးဇူးတော်မြတ်ကိုမခံထိုက်သည့်မှန်သော်လည်း၊ သားတော်ယေရှုးဘုရားရှင်ရွေးမျက်နှာတော်ကို ထောက်တော်မူ၍သနားတော်မူပါ။ အာမင်။



ငတ်မွတ်ခေါင်းပါးသည့်ကာလခေတ္တအတွင်း၊
ပဖြတ်တောင်းလျှောက်အပ်သော
ဆုတောင်းမေတ္တာ။

ဘုရားသခင်အား ရှိသေစွာလျှောက်ထံ့ပါသည်။ ကိုယ်တော်တပည့်ရင်းလူစုတို့သည်၊ ယခုငတ်မွတ်ရှားပါးခြင်းဒုက္ခဥပါတ်တွေ့ကျုံရပါ၍၊ ဘုရားကိုယ်တော်ကိုသာကိုးကွယ်မှီခိုရာဖြစ်ပါတော့သည်။ လူတို့၏အဖြစ်မကောင်းအလေ့အထများကို အလွန်ရှုရှာစက်ဆုတ်တော်မူ၍၊ နှစ်လုံးတော်သာချတော်မမူသည်နှင့်အညီ၊ ဤဒဏ်ကိုပေးတော်မူပေသည်ကို၊ အကျွန်ုပ်တို့ယခုသတိသံဝေဂရသောကြောင့်၊ ကျိုး

ကျိုးနွမ်းနွမ်းနှိမ့်နှိမ့်ချချနှစ်လုံးစိတ်ဖြင့်၊ကိုယ်တော်အထံချည်းကပ်၍တောင်းပန်ကြသည်အတိုင်း၊ အအသုံးအဆောင်အရသာဟူသမျှကို၊ သုံးမြဲတိုင်းလုံလုံလောက်လောက် သုံးဆောင်ရခြင်းကျေးဇူးတော်ကိုသနားတော်မူပါ။ ဤသို့ကိုယ်တော်စက်ဆုတ်တော်မူသောမကောင်းအကျင့်ကြောင့်၊ လူတို့အားဘေးဥပါတ်ရောက်ရသည်။ နှစ်သက်တော်မူသောကောင်းသောအကျင့်ကြောင့်လည်း၊ချမ်းသာခြင်းတွေ့ရသည်အကြောင်းအရာများကိုတပ်အပ်သိကြ၍၊အစည်အမြဲကျေးဇူးတော်မြတ်ကိုသုံးဆောင်သဖြင့်ချမ်းသာအောင်၊ အကျွန်ုပ်တို့သည်ဘုရားသခင်စက်ဆုတ်တော်မူသော ဒုစရိုက်မကောင်းအကျင့်ကိုမကျင့်ဝံ့ကြည်ရှောင်၍၊ နှစ်သက်တော်မူသောသုစရိုက်အကျင့်မြတ်ကိုသာ လေ့ကျက်ကျင့်ဆောင်တည်နိုင်ပါတော့အံ့။ နောင်ဘဝရွှေနိုင်ငံတော်သို့ရောက်စေတတ်သောကုသိုလ်ကောင်းမှုကို ရှာနိုးသောသူတို့လည်း၊ ယခုမျက်မှောက်အလိုရှိသောအသုံးအဆောင်တောင့်တခြင်းမရှိရ၊ လိုအပ်သမျှကိုပြည့်စုံကြလတ္တံ့ဟူသော အမိန့်ဂတိတော်ရှိတော်မူရင်းအတိုင်းကျေးဇူးတော်မြတ်ကို သုံးစွဲရအောင်အကျွန်ုပ်တို့စေတနာစိတ်နှင့်တကွကုသိုလ်ကောင်းမှု၌လေ့ကြက်မွေ့လျော်အံ့သောငှါ၊ ပညာမျက်စိအား၊ တရားတော်အရောင်အဝါကို ပြတော်မူပါ။ အာမင်။

——၀၀——

# ကာလနာအတွင်း၊ မပြတ်တောင်းလျှောက်အပ် သောဆုတောင်းမေတ္တာ။

အလိုတော်ရှိတိုင်းပြုပြင်ဖန်ဆင်းနိုင်သော၊ တန်ခိုးဗျာဒိတ်ဟာနှင့်ပြည့်စုံတော်မူသော၊ အဆုံးစမ်းမရနိုင်သော၊ သနားခြင်းကရုဏာစိတ်ရှိတော်မူထသောဘုရားမြတ်စွာသခင်။ ဒုစရိုက်မကောင်းအကျင့်တို့၌မွေ့လျော်ကျင့်နေသောသူတို့ကို၊ သေပျောက်စေလိုသောသဘောရှိတော်မမူ။ စိတ်နှစ်လုံး၌နာကြင်ခြင်းသံဝေဂတရားကိုစွဲသောအားဖြင့်၊ မူဟောင်းမူညစ်စွန့်ပြစ်ပယ်စွာ၍၊ မြတ်သောသုစရိုက်တရားကိုကျင့်ဆောက်တည်လျက်၊ သက်ရှည်ချမ်းသာစွာနေတော်မူစေလိုသော ကရုဏာရွှေစိတ်တော်သာရှိတော်မူသည်နှင့်အညီ၊ ယခု၊ သည်ကာလယည်နာအရပ်ဒေသ၌ဝင်သောကြောင့်၊ဘုရားမြတ်စွာသခင်အား ကိုးကွယ်သောတပည့်ဘာသာတူလူစုတို့သည်၊ သေပျောက်ကြခြင်းဘေးဥပါတ်ထိခိုက်တွေ့ကျုံကြရသည်ဖြစ်၍၊ တရားသတိသံဝေဂနှင့်ရှိသေကျိုးနွံမ်းစွာစိတ်နှစ်လုံးဖြင့် အထံတော်၌ချည်းကပ်မှီခိုကြသည်ကို၊ သာယာသောရွှေမျက်နှာတော်နှင့်ရှုရှုသနားတော်မူပါ။ အကျွန်ုပ်တို့အားတရားသတိရစိမ့်သောငှါအပြစ်ပေးတော်မူသည်။ ယခုအလိုတော်ရှိတိုင်းအကျွန်ုပ်တို့ကလည်း၊ မကောင်းသောအလေ့အထများကိုပြစ်ပယ်၍၊ တရားတော်

အာရုံစိတ်နှစ်လုံးထဲ၌စွဲမြဲပါသည်နှင့်အညီ၊ အရေး ယူတော်မူပါ။ ဤသို့အကျွန်ုပ်တို့ပန်လျှောက်သော ဆုကျေးဇူးတော်ကိုသနားတော်မူပါလျှင်၊ ခန္ဓာဤ ကိုယ်လည်းကာလဝိပ္ပတ္တိဘေးဥပါတ်မှချမ်းသာပါ ၏။ စိတ်နှစ်လုံးလည်း၊ ရောဂါဟူသောမကောင်းအ ကျင့်မှုလမှချမ်းသာပါ၏။ ကိုယ်စိတ်နှစ်ပါးလုံးပင် ချမ်းသာသည်ဖြစ်၍၊ အကျွန်ုပ်တို့သည်၊ အစဉ်တ စိုက်ဝမ်းမြောက်ဝမ်းသာချမ်းမြေ့လျက်၊ ကျေး ဇူးတော်မြတ်ကို ချီးမွမ်းမြှောက်စားကြရစေသော သည်။ အာမင်။။



## တောအရံသို့သွားသည်၊ တာရဝိတာပါးသို့သွားသည်၊ အိမ်ကမဆင်းခင်၊ တောင်းလျှောက်အပ် သောဆုတောင်းမေတ္တာ။

ဤလောကအားလုံးစုံကို စိုးပိုင်တော်မူသောဘု ရားမြတ်စွာသခင်။ အကျွန်ုပ်တို့သည်၊ ရိုသေစွာပန် လျှောက်သောဆုကျေးဇူးကို၊ သားတော်ယေရှုဘု ရားရှင်ခြေမျက်နှာတော်ထောက်၍ နားတော်သွင်း တော်မူပါ။ ဤတခဏသာဖြစ်သောအသက်လျှာ တွင်တစုံတခုမျှအမြဲမရှိ။ အနိမ့်၊ အမြင့်၊ အပူ၊ အအေး သုခ၊ ဒုက္ခ၊ ဝေရာဝွမျိုးများသည်တွင်၊ ကိုယ်တော် တန်ခိုးတော်ဖြင့်မပြတ်စောင်မတော်မူပါလျှင်၊ ပစ္စုပ္

ဗွာန်သံသရာဟူသောအရေးနှစ်ပါးနှင့်၊ မထိမ်းဖေ ယိမ်းစေ့စပ်အောင် ချောမောကောင်းမွန်စွာဆောင် ရွက်နိုင်ပါလိမ့်မည်။ အကျွန်ုပ်ယုံမှတ်မျှော်လင့်ခြင်း ရှိသည့်နှင့်အညီ၊ ယခု၊ ကိုယ်တော်တပည့်အစေအ ပါသည်သွားအံ့သောလမ်းခရီး၌လည်း၊ အတွင်း ရန်၊ ပြင်ရန်၊ အတွင်းဥပါဒ်အနှောင့်အရှက်ဟူသ မျှမထိမခိုက်မတွေ့မကျုံ့လွတ်ကင်းအောင် ဆီးကာ တော်မူပါလျှက်၊ ကိုယ်စိတ်နှစ်ပါးစုံပင်လုံချုံလျှ သောကိုယ်တော် ချမ်းသာခြင်းကျေးဇူးတော်မြတ် ကို၊ အိမ်သို့ပြန်သည်တိုင်အောင်မပြတ်ခံရအံ့သော ငှါစီရင်ထုံးဖွဲ့တော်မူပါ၊ အာမင်။

ခမည်းတော်။ သားတော်။ သမိရိတ္တူးသံတူးနာမ တော်မြတ်နှင့်။ အာမင်။ မေတ္တာရေဖြင့်ကိုယ်၌မှတ် သားရမည်။

——00——

ကမ္ဗုဒ္ဓာန်းစီးဖြန်းခြင်းမေတ္တာကလေး။

၁။ ကြသိမ်မွေ့နူးညံ့ခြင်းရှိလှသောယေရှုးဘုရား။ ကိုယ်တော်အရှင်လျှိုင်ခေါင်းအိမ်ထဲသို့ပေါက်ဖွား ပေါ်ထွန်းတော်မူသဖြင့်၊ စားခြင်း၌ကောက်ရိုးပေါ် မှာသိတ်ထားခြင်းခံတော်မူပေသည့်အကြောင်းကို ထောက်တော်မူ၍၊ အကျွန်ုပ်တို့အမှိုငှါကယ်မသ နားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော် မူပါ။

၂။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသောယေရှုးဘုရား။
ကိုယ်တော်အရှင်ပေါက်ဖွား ပေါ်ထွန်းတော်မူပြီး
မှ၊ အစည်သီလနှင့်ပြည့်စုံတော်မူသော မယ်တော်
မာရိယားက၊ကိုယ်တော်ကိုခမည်းတော်ဘုရားအား၊
ကျောင်းတော်၌ပူဇော်ခြင်းခံတော်မူပြီးလျှင်၊ တ
နေ့သ၌လည်း၊ တခဲတော်ကန့်လန့်ကြင်၌ဒုက္ခစရိယာ
ခံတော်မူသည်ကို၊ ရွှေနှစ်လုံးတော်ရှိပေသည်အ
ကြောင်းကိုထောက်တော်မူ၍၊ အကျွန်ုပ်တို့အမို့ငှါ
ကယ်မသနားတော်မူပါ။သနားတော်မူပါဘုရား။သ
နားတော်မူပါ။

၃။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသော ယေရှုးဘု
ရား။ကိုယ်တော်အရှင်ဟောရှုဒ်မင်က၊ အနည်းနည်း
အသွယ်သွယ် နှိပ်စက်ညှင်းဆဲခြင်းခံတော်မူသ
ဖြင့်၊အဲဂုတ္တုတိုင်းပြည်ကိုမလွဲလို့သာထွက်ပြေးကြွ
တော်မူပေသည်အကြောင်းကို ထောက်တော်မူ၍၊
အကျွန်ုပ်တို့အမို့ငှါကယ်မသနားတော်မူပါ။ သနား
တော်မူပါဘုရား။ သနားတော်မူပါ။

၄။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသောယေရှုးဘုရား။
ကိုယ်တော်အရှင်လွင့်ပြေးကြွတော်မူရာ အဲဂုတ္တု
တိုင်း ပြည်၌ဒုက္ခဆင်းရဲခြင်းခံတော်မူလျက်ရင်၊ မ
ထင်မရှားသီဘင်းသုံးနေတော်မူလျက်ရင်၊ သူ
ယုတ်သူညံ့ကဲ့သို့မထိမဲ့မြင်ခံတော်မူလျက်ရင်၊ခုနှစ်
နှစ်တိုင်တိုင် အာရုံခံတော်မူပေသည်အကြောင်းကို
ထောက်တော်မူ၍၊အကျွန်ုပ်တို့အမို့ငှါကယ်မသနား

တော်မူပါဘုရား။ သနားတော်မူပါ။

၅။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသော ယေရှုဘုရား။ ကိုယ်တော်အရှင်တနေ့သ၌တခဲတော်ကန့်လန့်ကြွင်၌၊ သူခိုးနှစ်ဦးအလယ်တွင်များစွာသောဒုက္ခရိယာခံတော်မူ၍၊ အသက်တော်အသေခံတော်မူမည်အကြောင်းတော်မြတ်နှင့်၊ လွင့်ပြေးတော်မူရာက၊ အရပ်ဌာနသို့ပြန်လည်ကြွတော်မူကြောင်းကို ထောက်တော်မူ၍၊ အကျွန်ုပ်တို့အဖို့ငှါကယ်မသနားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော်မူပါ။

၆။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသောယေရှုဘုရား။ ကိုယ်တော်အရှင် ဆယ်နှစ်နှစ်အရွယ်တော်တိုင်လျှင်၊ မယ်တော်မာရိယားနှင့် ကျောင်းတော်၌ကြွလာတော်မူရာတွင်၊ ကျမ်းတတ်ဆရာပညာရှိတို့နှင့်၊ ကျမ်းဂန်တရားတော်အကြောင်းများကိုနှီးနှောပြင်းခံအံ့သောငှါကျောင်းတော်၌နေရစ်တော်မူ၍၊ မယ်တော်မာရိယားသည်၊ ကိုယ်တော်ကိုလိုက်ရှာရာသုံးရက်ပတ်လုံးတိုင်ပြီးမှ၊ တွေ့တော်မူကြောင်းကို ထောက်တော်မူ၍၊ အကျွန်ုပ်တို့အဖို့ငှါကယ်မသနားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော်မူပါ။

၇။ ဩသိမ်မွေ့နူးညံ့ခြင်းရှိလှသော ယေရှုဘုရား။ ကိုယ်တော်အရှင်များစွာသော နှစ်လတိုင်အောင်၊ မယ်တော်ပာရိယား၊ ဝင်ခမည်းတော်အရာဖြစ်သောယူဇယ်သူမြတ်တို့နှင့်အတူတကွ လက်မှု

ပညာနာဇရက်မြို့သိုင်တဲသို့လှတ်၍၊ မိဘတို့အခနေ၌ အတတခံတော်မူပေသည့်အကြောင်းကို ထောက်တော်မူ၍၊ အကျွန်ုပ်တို့အဖို့ငါ့ကယ်မသနားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော်မူပါ။

၈။ ကြွသိမ်မွေ့နူးညံ့ခြင်းရှိလှသော ယေရှုဘုရား။ ကိုယ်တော်အရှင်ဒုက္ခစရိယာခံတော်မမူခင်၊ သုံးနှစ်တိုင်တိုင်သာသနာတော်ပြုစုအံ့သောငါ၊ပတ်ပတ်လှည့်လည်ကြွတော်မူ၍၊ ဟောပြောဆုမ္မသွန်သင်ပွဲပျင်တော်မူသဖြင့်၊ ရွှေနိုင်ငံတော်လမ်းကိုပြ ညွှန်တော်မူပေသည့်အကြောင်းကို ထောက်တော်မူ၍၊ အကျွန်ုပ်တို့အဖို့ငါ့ကယ်မသနားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော်မူပါ။

၉။ ကြွသိမ်မွေ့နူးညံ့ခြင်းရှိလှသော ယေရှုဘုရား။ ကိုယ်တော်အရှင်အကျွန်ုပ်တို့ကို အလွန်ချစ်မြတ်နိုးသောကြောင့်၊ အဆုံးတွင်ကန့်လန့်ကြင်တိုင်တခဲတော်၌၊ အသက်တော်အသေခံတော်မူပေသည့်အကြောင်းကိုထောက်တော်မူ၍၊ အကျွန်ုပ်တို့အဖို့ငါ့ကယ်မသနားတော်မူပါ။ သနားတော်မူပါဘုရား။ သနားတော်မူပါ။

———oo———

## သူငယ်တော်ယေရှုဘုရားရှင်ကိုဆုတောင်း မေတ္တာ။

ကြွချစ်ခင်စုံမက်ခြင်းရှိလှသော ယေရှုဘုရား။

ကိုယ်တော်အရှင် ပေါက်ဖွားပေါ်ထွန်းတော်မူရာ တွင်၊ သူငယ်တကာကဲ့သို့ငိုကြွေးသံကိုလွင့်ညား သော်လည်း၊အကြောင်းရင်းခြားနားလှသည်။ အ ဘယ်ကြောင့်နည်းဆိုသော်၊ကိုယ်တော်အရှင်ဘုရား စင်စစ်ဖြစ်တော်မူလျက်ပင်၊ အကျွန်ုပ်တို့ငရဲသား တို့ကိုအလွန်ချစ်သနားတော်မူသောကြောင့်၊ စံနေ တော်မူရာရွှေဘုံရွှေပြည်တော်ကဆင်းကြွ၍၊ ဤ ဆင်းရဲရာဌာနသို့ များစွာသောဒုက္ခညည်းတွားအ လယ်တွင် ပေါက်ဖွားတော်မူလျက်ဖြစ်တုံသော် လည်း။ ဤလောကသားလူတို့သည့်ဆိုးညစ်ယုတ်မာ သောအကျင့်တို့ဖြင့်ကိုယ်တော်ဘုရားကို အစဉ်မ ပြတ် ညှည်းဆဲနှိပ်စက်ကြသည့်အကြောင်းတည်း။ ဩဘုရားသခင်အကျွန်ုပ်သည်လည်းအရင်အထက် မတရားမကောင်းမှုအကျင့်တို့ဖြင့် ကိုယ်တော်အ ရှင်ကိုညှည်းဆဲနှိပ်စက်ခဲ့လှဘူးသည်။ သို့ရာတွင်၊ ကိုယ်တော်အရှင်ကိုပြစ်မှား၍၊ မထိမဲ့မြင်ပြုမိလေ သမျှကိုယခုအောင်းမေ့ရာတွင်၊ သတိသံဝေဂရသ ဖြင့်၊ ကိုယ်တော်ဖြစ်တော်မူသောအကျွန်ုပ်အရှင် ကို၊ ထိခိုက်မိသည့်အရာတို့ကိုအောင်းမေ့ရာ၊ အခြား အမှုရှိလေသမျှတို့ထက်သာလွန်၍ ပြင်းထန်စွာ သောစိတ်နာကြင်ခြင်းရှိပါသည်ဖြစ်၍၊အကျွန်ုပ်ကိုယ် ရှင်ထက်သာမက၊ ကိုယ်တော်ကိုအလွန်ချစ်လေး မြတ်ခြင်းရှိပါ၏။ ဩအကျွန်ုပ်အရှင်ယေရှုဘုရား၊ အခွင့်ကညာလွှတ်တော်မူပါ။ ဤဆင်းရဲရာဌာနသို့

အာဂန္တုကဲ့သို့နေရကြွင်းကြီးသောကာလဟူ၍ယ
ခုအချိန်မှအစမူ၍ တသက်လျှာပတ်လုံးထာဝရစံနေ
တော်မူရာရွှေပြည်တော်မှာ၊ကိုယ်တော်နှင့်အတူတ
ကွဝင်နိုင်မည်အကြောင်း၊ ကိုယ်တော်ဘုရားကိုအ
ကျွန်ုပ်ဇတ်နှစ်လုံးထဲ၌ မြဲမြံစွာစွဲအံ့သောငှါအား
တန်ခိုးပေးသနားတော်မူပါ။ အကြိမ်ကြိမ်အဖန်တ
လဲလဲကိုယ်တော်ကို ထိခိုက်ကျူးလွန်ခြင်းဖြင့်၊အ
ကျွန်ုပ်စိတ်နှစ်လုံးထဲက ဝေးစွာကိုယ်တော်ကိုပယ်
ရှားမိချေသည်။ သို့ပင်သော်လည်း၊ ယခု၊ အရာရှိ
လေသမျှတို့ထက် ကိုယ်တော်အရှင်ကိုသာလျှင်
ချစ်လေးမြတ်ခြင်းရှိသည်နှင့်အညီ၊ ဘေးဥပါတ်မ
ကောင်းမှုအပေါင်းတို့၏သာမက၊ကိုယ်တော်ကိုထိ
ခိုက်မိသည့်အရာကိုဆင်ချင်ရာကဲမိုး၍စိတ်နာကြင်
ခြင်းရှိပါ၏။ ချစ်မြတ်နိုးဖွယ်သောအကျွန်ုပ်အရှင်၊
အစည်မပြတ်ကိုယ်တော်ကိုမပြစ်ပယ်လိုပါ။ သို့ရာ
တွင်၊ ကိုယ်တော်နှင့်ဝေးစွာခွာသွားစေတတ်သော
နှောင့်ရှက်ခြင်းအမှုတို့ကို၊တဖြီးနှိပ်နင်းဟန့်တား
နိုင်မည်အကြောင်း အားတန်ခိုးပေးသနားတော်မူ
ပါ။ ကိုယ်တော်ကိုရင်၊ ကျေးဇူးဂုဏ်တော်ကိုရင်၊
ပျောက်ဆုံးအရာတို့ထက် အသက်ကိုပင်သော်
လည်းအသေခံပါရစေသခင်။

ဩအကျွန်ုပ်မှိုင်မျှော်လင့်ခြင်း ဖြစ်တော်မူသော
သူငယ်တော်၏မယ်တော်မာရိယား။ အသေဖြစ်
ပေါအရှင်ဖြစ်ပေ၊ မြတ်စွာဘုရားသခင်ကိုမှီသချစ်

လေးမြတ်ခြင်းမပြတ်ရှိလျှက် ဖြစ်စေပါမည်အ ကြောင်း၊ အကျွန်ုပ်အမျိုး၄ါ ဆုတောင်းတော်မူပါ။ အာမင်။

---

## ပုတီးစိတ်နည်းဖေါ်ပြပေအံ့။

ပုတီးတကုန်းကို၊ လုံးရေ ၁၅၀ ရှိ၏။ ကျောင်း တွင်စိတ်ရိုးစိတ်မြဲသောတား။ ၅၀ သာလုံးရေရှိ၏။ အစမှာ၊ ကိုယ်တွင်ကရူသူးသားမှတ်ပြီးမှ၊ မိုယ်း ကောင်းကင်မေတ္တာတပုဒ်ဆိုပြီးလျှင်၊ အာဝေမာရိ ယားမေတ္တာ ၁၀ ပုဒ်ပြည့်သော်၊ ခမည်းတော်၊ သား တော်၊ သပိရိတူးသံတူး၊ ကိုးကွယ်ရိုသေလေးမြတ် ခြင်းရှိပါစေဟုဆိုပြီးသော်တပိုက်ကျပြီး။ ၅၀လုံး ပုတီးကိုစိတ်သည်အခါ၊ ၎င်နည်း၊ ၅ကြိမ်စေ့သော် ပြန်ပြီးစီး၏။ပဌမပိုက်မစိတ်ခင်၊နက်နဲရာ ၅ ချက်အ နက်၊တချက်ကိုထောံထားအောင်းမေ့ရာ၊ ကျောင်း ဆရာသည်ဆိုရ၏။ ပုတီးတကုန်းလုံးရေ ၁၅၀ စိတ် သောအခါ၊ထောက်ထားအောင်းမေ့ရန်ပဌမကစ၍ အဆုံးတိုင်အောင်၊ အထက်ဆိုနည်း။ ဆရာသည် နှုတ်အားဖြင့်ဆိုပြန်၍၊ ပရိသတ်တို့ကိုသတိပေး အပ်၏။ လုံးရေ ၅၀ သာစိတ်သဖြင့်၊ စနေ၊ တနင်္ဂနွေ၊ ဗုဒ္ဓဟူး၊ နေ့သုံးရက်တို့ကို၊ တန်ခိုးအာနုဘော်တော် ထင်ရှားနက်နဲရာ ၅ ချက်ကို၊ ထောက်ထားအောင်း မေ့သင့်၏။ တနင်္လာ၊ကြာသပတေးနေ့ ၂ ရက်ကို၊ အလွှန်အားရွှင်းသာရာ နက်နဲသော ၅ ချက်ကို၊

တောက်ထားအောင်မေ့သင့်၏။ အင်္ဂါ၊ သောကြာ
နေ့၊ ၂ ရက်ကို၊ စိတ်နာကျင်ခြင်းဖြစ်ရာ၊ နက်နဲသော
အချက် ၅ ချက်ကိုတောက်ထားအောင်မေ့သင့်၏။

——ဂဂ——

စိတ်ပုတီးစိပ်ပြန်ရာဆင်ချင်အပ်သော၊နက်နဲသိမ်မွေ့
လှစွာသောအချက်တို့တည်း။

———

တနင်္လာနေ့၊ ကြာသပတေးနေ့ရက်တို့၌ရှင်၊ ဆင်
ချင်အပ်သောနက်နဲသိမ်မွေ့လှစွာသောဝမ်း
မြောက်ဝမ်းသာသောအချက်တို့တည်း။

———

Deus in adjutorium meum intende.
Domine ad adjuvandum me festina.

မြတ်စွာဘုရားရှင်အကျွန်ုပ်အား၊ မြန်မြန်စွာထောက်
မတော်မူပါ။

ဩဘုရားသခင်၊ အဆောတလျင်အကျွန်ုပ်ကိုကယ်
မသနားတော်မူပါ။

၁—ပဌမ။ ဝမ်းမြောက်ဝမ်းသာသည့်နက်နဲလှစွာ
သောအချက်၌၊ သိကြားမင်းကအစည်သိလနှင့်ပြည့်
စုံတော်မူသောမာရိယားကို၊ ဘုရားသခင်၏မယ်
တော်အရာသို့မြှောက်တော်မူသည့်ကို၊ အမိန့်တော်
ပြန်သည့်အကြောင်းကိုဆင်ချင်ရသည်။
ကိုယ်ကောင်းတင်၌မေတ္တာရွတ်ဆို။

၂—ဒုတိယ။ ဝမ်းမြောက်ဝမ်းသာသည့်နက်နဲလှ
စွာသောအချက်၌၊ [illegible] ကတော်အာပေါင်နှင့်

ပြည့်စုံတော်မူသောမယ်တော်မာရိယားသည်၊ အ
မိန့်တော်ခံပြီးမှ၊ တူမတော်ဧလိသဘက်တော်သို့ ပ်
ဆက်အံ့သော၄ါ၊ ဂျူဒေအနိုင်ငံကိုကြွတော်မူ၍၊ သုံး
လပတ်လုံး သိတင်းသုံးနေတော်မူသည့်အကြောင်း
ကိုဆင်ခြင်ရသည်။
မိုဃ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၃—တတိယ။ ဝမ်းမြောက်ဝမ်းသာသည့်နက်နဲလျှ
ဝှာသောအချက်၌၊ ယေရှူးဘုရားရှင်၊ အကျွန်ုပ်တို့ကို
ချစ်မြတ်နိုးသောကြောင့်၊ ကူလိုင်ခေါင်းအိမ်ထဲသို့
တိရိစ္ဆာန်နှစ်ကောင်အလယ်၌ ပေါက်ဖွားပေါ်
ထွန်းတော်မူသည့် အကြောင်းကိုဆင်ခြင်ရသည်။
မိုဃ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၄—စတုတ္ထ။ ဝမ်းမြောက်ဝမ်းသာသည့်နက်နဲလျှ
ဝှာသောအချက်၌၊ အပြည့်သီလနှင့်ပြည့်စုံတော်မူ
သောမယ်တော်မာရိယားသည်၊ မီးဖွားကိစ္စကြောင့်၊
မိမ္မတကာကဲ့သို့သီလသည်မပြောက်ဘဲ၊ သီလရင်းဖြစ်
တုံသော်လည်း၊ ထုံးစံလိုက်အံ့သော၄ါ၊ ကျောင်း
တော်၌သန့်ရှင်းစေတတ်သောမေတ္တာဘယ်သောင်
ကိုခံရအောင်သွားကြွတော်မူရာတွင်၊ ငါတို့သခင်
ဖြစ်တော်မူသောသားတော်ယေရှူးဘုရားရှင်ကို၊ ခ
မည်းတော်ဘုရားအား၊ အမည်ရှိသောသိမေအုံသူ
မြတ်ကပိုက်လျက်၊ ပူဇော်တော်မူသည့်အကြောင်း
ကိုဆင်ခြင်ရသည်။
မိုဃ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၅—ပဉ္စမ။ ဝမ်းမြောက်ဝမ်းသာသည့် နက်နဲလှစွာသောအချက်၌၊ အစည့်သီလနှင့်ပြည့်စုံတော်မူသောမယ်တော်မာရီယားသည်၊ ယေရုသလင်ကျောင်းတော်သို့ကြွတော်မူရာ၊ သားတော်ကိုပျောက်၍ရှာတော်မူရာ၊ သုံးရက်ပတ်လုံးလွန်ပြီးမှ၊ ပညာရှိကျမ်းတတ်ဆရာတို့နှင့် ကျမ်းဂန်းအကြောင်းများကိုဆွေးနွေးနှီးနှောတော်မူလျက်၊ အလွန်ဝမ်းမြောက်ဝမ်းသာနှင့်တွေ့တော်မူကြောင်းကိုဆင်ခြင်ရသည်။ မိုဃ်းကောင်းကင်၌မေတ္တာရှတ်ဆို။

အင်္ဂါနေ့ရင်၊ သောကြာနေ့ရက်၌ရင်၊ ဆင်ခြင်အပ်သောစိတ်မသာညည်းတွားသောနက်နဲလှစွာသောအချက်တို့ကား။

၁—ပဌမ။ စိတ်မသာညည်းကွားသည့် နက်နဲလှစွာသောအချက်၌၊ ငါတို့သခင်ဖြစ်တော်မူသောယေရှုးဘုရားရှင်၊ ဒုက္ခစရိယာကျင့်ခံတော်မမူမှီ၊ ဂေသယ်မာဏီအမည်ရှိသောဥယည်သို့ ဆုတောင့်တနေတော်မူစည်၊ ငါတို့အပြစ်မကောင်းမှုတို့ကြောင့်၊ ခံတော်မူမည် များစွာသောဒုက္ခအပေါင်းတို့ကိုအောင်းမေ့တော်မူရာ၊ စင်စစ်သောသွေးချွေးလုံးတိုရှိထွက်တော်မူသည့်အကြောင်းကို ဆင်ခြင်ရသည်။ မိုဃ်းကောင်းကင်၌မေတ္တာရှတ်ဆို။

၂—ဒုတိယ။ စိတ်မသာညည်းတွားသည့် နက်နဲလှစွာသောအချက်၌၊ ငါတို့သခင်ဖြစ်တော်မူသော

ယေရှုးဘုရားရှင်သည်၊ ငါတို့အပြစ်ငရဲမကောင်းမှု တို့ကြောင့်၊ ဗိလာတူးမင်းအမိန့်ထဲသို့မိန်းခါးစွာသော ရိုက်နှက်နှိပ်နင်းပါးပုတ်ခြင်း၊ တံတွေးထွေးခြင်း ဖြင့်၊ ညှင်းဆဲနှိပ်စက်မျှားလှစွာသောဒုက္ခခံတော်မူ ပေသည်အကြောင်းကိုဆင်ချင်ရသည်။ •
မိုဃ်းကောင်းကင်း၌မေတ္တာရှုတ်ဆို။

၃—တတိယ။ စိတ်မသာညည်းတွားသည်နက်နဲ လှစွာသောအချက်၌၊ ငါတို့သခင်ဖြစ်တော်မူသော ယေရှုးဘုရားရှင်၊ ငါတို့အပြစ်ငရဲမကောင်းမှုတို့ ကြောင့်၊ ခေါင်းတော်ပေါ်မှာထက်လှစွာသောဆူး ပေါင်းခံတော်မူပေသည်အကြောင်းကို၊ ဆင်ချင်ရ သည်။
မိုဃ်းကောင်းကင်၌မေတ္တာရှုတ်ဆို။

၄—စတုတ္ထ။ စိတ်မသာညည်းတွားသည် နက်နဲ လှစွာသောအချက်၌၊ ငါတို့သခင်ဖြစ်တော်မူသော ယေရှုးဘုရားရှင်၊ အသက်တော်အသေခံစိမ့်သော ငှါ၊ ဗိလာတူးမင်းနှင့်ဂျုဒေအရူးတို့သည်စီရင်ကြ သည်သာမက၊ သာလွန်၍ဂုဏ်တော်အသရေတော် ပျက်အံ့သောငှါ၊ လုပ်တိုင်းတဆအရပ်ကိုကြွတော် မူရာ၊ ပခုံးတော်ပေါ်မှာတန့်လန့်ကြင်တိုင်ကိုတင် ထား၍၊ ထမ်းစေကြသည်အကြောင်းကိုဆင်ချင်ရ သည်။ မိုဃ်းကောင်းကင်၌မေတ္တာရှုတ်ဆို။

၅—ပဉ္စမ။ စိတ်မသာညည်းတွားသည်နက်နဲလှ စွာသောအချက်၌၊ ငါတို့သခင်ဖြစ်တော်မူသောယေ

ဘုရားရှင်သည်၊ လုပ်တိုင်းဟသော အရပ်ဖြစ်သော ဥကြောင်းခွန်အမည်ဖြင့်ခေါ်ပေါ်သောတောင်ပေါ် မှာရောက်တော်မူလျှင်၊ ဝတ်တော်မူမြဲအဝတ်သ ယ်ာန်းတော်ကိုချွတ်ပြီးမှ၊ မယ်တော်ခါရှိယားသည် အတိုင်းထက် အလွန်ရွှေစိတ်တော်မသာမယာ၍ မြင်တော်မူလျှက်၊ ကန့်လန့်ကြင်တိုင်၌သတ်ထား ကြသည့်အကြောင်းကိုဆင်ချင်ရသည်။
မိုယ်းကောင်းကင်၌မေတ္တာရွတ်ဆို။

တနင်္ဂနွေနေ့ရှင်၊ ဗုဒ္ဓဟူးနေ့ရှင်၊ စနေနေ့ရက်တို့၌ရှင်း
ဆင်ချင်အပ်သည်အခံ့ကြြောဘွယ်သောယေရှု
ဘုရားရှင်ဘုန်းကျက်သရေတော်၏နက်နဲလှ
စွာသောအချက်တို့ကား။

၁—ပဌမ။ အံ့ခြြောဘွယ်သောယေရှုဘုရားရှင် ဘုန်းကျက်သရေတော်၏နက်နဲလှစွာသောအချက် ၌၊ ငါတို့သခင်ဖြစ်တော်မူသောယေရှု ဘုရားရှင် သ်ှစုတေတော်မူပြီးနောက်။ သုံးရက်တိုင်လျှင်၊ ဂုဏ် တော်အာသရေတော်နှင့်ပြည့်စုံလျှက်၊ ရှင်ပြန်တော် မူသည်အကြောင်းကိုဆင်ချင်ရသည်။
မိုယ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၂—ဒုတိယ။ အံ့ခြြောဘွယ်သော ယေရှုဘုရား ရှင်ဘုန်းကျက်သရေတော်၏ နက်နဲလှစွာသောအ ချက်၌၊ ငါတို့သခင်ဖြစ်တော်မူသောယေရှုဘုရား ရှင်သည်၊ ရှင်ပြန်တော်မူပြီးသ်ှနောက်၊ အရက်လေး

ဆယ်ထူးခြားသောသဏ္ဍာန်ဓတော်ကိုယူ၍ပေါ်ပေါ်း ကြွင်း၌လည်း မိမိရောင်ခြည်တော်ဘွန်းတောက် လျှင်၊ ဘုန်းတန်ခိုးတော်နှင့်ပြည့်စုံတော်မူလျှင်၊ မယ်တော်မာရိယားရှေ့ရှင်၊ တပည့်တော်တို့ရှေ့၊ ကောင်းကင်၌ တက်ကြွတော်မူသည်အကြောင်းကို ဆင်ခြင်ရသည်။ မိုယ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၃—တတိယ။ အခွံဖြေဘွယ်သောယေဖူးဘုရား ရှင် ဘုန်းကျော်သရေတော်၏နက်နဲလှစွာသောအ ချက်၌၊ငါတို့ယေဖုးဘုရားရှင်ကောင်းကင်သို့တက် ကြွတော်မူလျှင်၊ ခမည်းတော်ဘုရားလက်ျာဘက်မှာ စံနေတော်မူစည်၊ မယ်တော်မာရိယားနှင့်တပည့် တော်တို့စုရုံးလျှက်မေတ္တာကမ္မဋ္ဌာန်ပြုနေကြရာ၊ ခ မည်းတော်နှင့်သားတော်မခြားမနား ရည်တူသော သဒ္ဒိရိတူးသံတူးကို၊စေလွှတ်တော်မူသည့်အကြောင်း ကိုဆင်ခြင်ရသည်။

မိုယ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၄—စတုတ္ထ။ အခွံဖြေဘွယ်ရာနက်နဲလှစွာသော အချက်၌၊ သားတော်ဘုရားရှင်ပြန်ပြီးသည်နောက်၊ ဆယ်နှစ်နှစ်တိုင်လျှင်၊ အသည်သီလနှင့်ပြည့်စုံ တော်မူသောမယ်တော်မာရိယားခန္ဓာတော်စဲ၍၊ ဘု ရားသခင်သည်သိကြားတော်တို့အားဖြင့်၊ ကောင်း ကင်၌ ချီပင့်တော်မူလိုက်သည်အကြောင်းကိုဆင် ခြင်ရသည်။

မိုယ်းကောင်းကင်၌မေတ္တာရွတ်ဆို။

၇—ပဉ္စမ။ အံ့ဩဘွယ်ရာနက်နဲလှစွာသော အချက်၌၊အစည်သီလနှင့်ပြည့်စုံတော်မူသောမယ်တော်မာရိယားသည်၊ ဘုရားသခင်စံနေတော်မူရာဘုံအရပ်တော်သို့ကြွတော်မူလျှင်၊ ခမည်းတော်နှင့်သားတော်မခြားမနား ရည်တူသောသမီရိတူသုံးတူးဟူ၍အမြတ်ပုဂ္ဂိုလ်သုံးပါးက၊ ငါတို့အားရှင်တုံးဖြစ်စေ၊ သေတုံးဖြစ်စေ၊ အမြဲတခဲပေးသနားတော်မူလို၍၊ ကောင်းကင်၌ဂုဏ်၊လောက၌အခွင့်ရှိလေသမျှတို့ကိုအပ်တော်မူသဖြင့်၊ ကျေးဇူးသနစ်သနာတော်အပေါင်းတို့နှင့်ပြည့်စုံလိုက်တော်မူသည်ကို ဆင်ချင်ရသည်အချက်။ တချက်မှာလည်း၊ ရဟန္တာအပေါင်းတို့သည်၊ ရွှေဘုံရွှေပြည်တော်မှာစံနေတော်မူကြသည်လို့မြတ်သောစည်းစိမ်ချမ်းသာကို၊ အကြောင်းများဆင်ချင်ရသည်။
မိုယ်းကောင်းကင်၌မေတ္တာရှုတ်ဆို။

---

## အိမ်တွင်လူနာရှိလျှင်၊အိမ်သားဘာသာတူတို့ တောင်းလျှောက်ရမည်ဆုတောင်း မေတ္တာ။

အစလည်းမရှိ၊ အဆုံးလည်းရှိတော်မမူ။ အလိုတော်ရှိတိုင်းပြုပြင်ဖန်ဆင်းနိုင်သောတန်ခိုးဗျာဒိတ်ဟာနှင့်ပြည့်စုံတော်မူသော ဘုရားမြတ်စွာသခင်။ ဤ[illegible]ခြင်း[illegible]မှ၊ [illegible]ည်သည့်[illegible]ဘင်း

မလွတ်နိုင်သောဓမ္မဟာကြောင့်၊ ကိုယ်တော်တပည့်ချစ်သားသည်၊ ယခုရောဂါဝေဒနာခံစားခြင်းဒုက္ခကိုတွေ့ကြုံရဆဲဖြစ်ပါတော့သည်။ ကိုယ်တော်ကိုယုံကြည်သဒ္ဒါသောသူတို့အား၊ နောင်ဘဝအဆုံးမရှိအမြဲတည်နေသောချမ်းသာကြီးကိုပေးနိုင်သောသခင်ဖြစ်၍၊ တပည့်ချစ်သားကိုခဏအဖို့သာဖြစ်သောမျက်မှောက်ချမ်းသာကိုသနားတော်မူပါ။ ဤသို့ယခုအကျွန်ုပ်တို့နှာသောဤသူတို့၊အတို့ကိုယ်စားဆုကျေးဇူးကိုပင်လျှောက်ကြသည်နှင့်အညီ၊ ရောဂါဝေဒနာမှ လွတ်ငြိမ်းချမ်းသာခြင်းသနားတော်မူပါလျှင်လည်း၊ ပကတိခန္ဓချမ်းသာသာယာစွာကိုယ်တိုင်ကျောင်းဘုရားသို့သွား၍၊ ဘာသာဝတ္တုအပေါင်းတို့နှင့်တကွခံရပေသောကျေးဇူးတော်မြတ်ကိုချီးမွမ်းမြှောက်စားသည်နှင့်အညီ၊နောက်နောင်ကိုယ်တော်ဟောမိန့်တော်မူသောတရားပညတ်တော်၌ တိုးပွါး၍လုလ္လပါယာမအားထုပ်ပါလိမ့်မည်။ အာမင်။

———

ပရိတ္တော်ဆီဖြင့်လူနာကိုလူးမှတ်ခြင်းအကြောင်း။

သခင်ယေဇူးတပည့်မှန်သမျှတို့သည်ယခုမျက်မှောက်ဘဝကို၊ကူးရှောက်ရကာလပတ်လုံးမပြတ်ကျေးဇူးစောင်မတော်မူခြင်းကိုစံစားကြသည်သာမက၊ ရောဂါနှိပ်စက်၍သေခြင်းတရားခံရမည့်ကြောမက်ဖွယ်သောအချိန်ရောက်လျှင်၊ ဘုရားသခင်ကလူတို့အားချစ်မြဲသနားမြဲသည်နှင့်အညီဂုဏ်။တို့အား

ဇာပကတယ်ဆယ်တော်မူမည့်အကြောင်း၊ ပရိဗ္ဗာဇ်ဆိဖြင့်၊ လူ့မှတ်ခြင်းသဏ္ဍာရမင်တူးကိုဖန်ဆင်းစီရင်တော်မူ၏။ ထိုသဏ္ဍာရမင်တူးပေးတတ်သောအထူးဟူသော်ကား။ အသပေါ်ဖြေဖြီးမှကျောင်းကြီးသောအဖြစ်အငွေ့ကိုဆေးကြောသုတ်သင်ခြင်း၊နတ်ဆိုးတို့အနှောင့်အရှက်ပြုရာကို ပြောင်းလှင့်စေခြင်း၊ အကျိုးတပါးအနာရောဂါကို မှီသေစွာသည်းခံနိုင်မည့်အကြောင်းအားပေးခြင်းအကျိုးတပါးနာသောသူ၌အကျိုးရောက်ရ၍ဟုရားသခင်ရွေစိတ်တော်ရှိလျှင်၊ အနာရောဂါကိုသက်သာပြောပဲခြင်းအစရှိသောအကျိုးဆက်ကျေးဇူးတို့ကိုပေးသတည်း။

ပရိဗ္ဗာဇ်ဆိဖြင့်လူနာကိုလူ့မှတ်ခြင်းသဏ္ဍာရမင်တူးကိုပေးရသည့်ဝိနည်းဟူသော်ကား။

ရဟန်းကလူနာ၏အိမ်ကိုတက်၍ မေတ္တာရောက်ဖြန်းတော်မူပြီးမှ၊ရွတ်သရ ဘယ်သည့်ကိုရွတ်ကား။

ဤအိမ်မှာနေသောသူတို့သည် ပန္တုပါန်အကျိုးစီးပွားနှင့် ထာဝရအသက်ရှင်ခြင်းချမ်းသာကိုရပါစေ။ နတ်ဆိုးတို့အနှောင့်အရှက်မှဝေးစွာကွါပါစေ။ အားလုံးစုံသောအတွင်းအပ သေးဥပါတ်ကင်းလွတ်ပါစေ။ ချမ်းသာသောင်တ်နှစ်လုံးနှင့်ရှိနေကြပါစေ။ ဤသို့အစရှိသည်ဖြင့်ရဟန်းတော်သည်ဂ ရိုတ်မေတ္တာကိုရွတ်သရွတ်ရသည်။

ငင်နေသတ်။ နာသူ၏အာရုံငါးပါးတို့ကိုသိမ်းသည့် ဈာအားဖြင့်ပရိသတ်တော်သိနှင့်လူးမှတ်၍၊ လူးမှတ်ရာတွင်ရွတ်သဇ္ဈာယ်သောပရိတ်တည်း။

မျက်စိတို့ကိုလူးမှတ်ချင်း။

ဘုရားသခင်ကသင်အား သနားတော်မူ၍သန့်ရှင်းစေတတ်သော၏လူးမှတ်ခြင်းဖြင့်၊ မျက်စိနှင့်ပြစ်မှားကျူးလွန်မိသမျှကို၊ ကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

နားတို့ကိုလူးမှတ်ချင်း။

ဘုရားသခင်ကသင်အားသနားတော်မူ၍ သန့်ရှင်းစေတတ်သော၏လူးမှတ်ခြင်းဖြင့်၊ နားအားဖြင့်ပြစ်မှားကျူးလွန်မိသမျှကို၊ ကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

နှာခေါင်းတို့ကိုလူးမှတ်ချင်း။

ဘုရားသခင်ကသင်အား သနားတော်မူ၍သန့်ရှင်းစေတတ်သော၏လူးမှတ်ခြင်းဖြင့်၊ နှာခေါင်းနှင့်ပြစ်မှားကျူးလွန်မိသမျှကို၊ ကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

ပစ်ပိတ်လျော်နှုတ်ခမ်းကိုလူးမှတ်လျှင်။

ဘုရားသခင်ကသင်အားသနားတော်မူ၍ သန့်ရှင်းစေတတ်သောဆီ၌လူးမှတ်ခြင်းဖြင့်၊ ပစ်နှင့်ဖြစ်မှားကျူးလွန်မိသမျှကို၊ ကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

လက်တို့ကိုလူးမှတ်လျှင်။

ဘုရားသခင်ကသင်အားသနားတော်၍သန့်ရှင်းစေတတ်သောဆီ၌လူးမှတ်ခြင်းဖြင့်၊ လက်တို့နှင့်ဖြစ်မှားကျူးလွန်မိသမျှကို၊ ကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

ခြေတို့ကိုလူးမှတ်လျှင်။

ဘုရားသခင်ကသင်အားသနားတော်မူ၍ သန့်ရှင်းစေတတ်သောဆီ၌လူးမှတ်ခြင်းဖြင့်၊ ခြေတို့နှင့်ဖြစ်မှားကျူးလွန်မိသမျှကိုကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

ခါးကိုလူးမှတ်လျှင်။

ဘုရားသခင်ကသင်အားသနားတော်မူ၍ ဆီ၌လူးမှတ်ခြင်းဖြင့်၊ ကာမဂုဏ်အမှုတို့၌ဖြစ်မှားကျူးလွန်မိသမျှကိုကညာလွှတ်တော်မူသည်ဖြစ်စေသော။ အာမင်။

ရင်နောက်ရဟန်းတော်ဆုတောင်း၍ မြွက်ဆို

သည်ကား။ အိုဘုရားသခင်ရောဂါအနှိပ်စက်ခံရသော၏သူကား၊ အတွင်းအပအနာရောဂါပျောက်၍ပြုမိသမျှကြောင့်အခွင့်ချမ်းသာရသဖြင့်၊ ထပ်၍တိုး၍ တရားတော်ကိုရှက်ကျင့်ဆောင်နိုင်မည်အကြောင်းအားတန်ခိုးပေးသွင်းတော်မူပါ။

ဤသို့ရဟန်းတော်ကဝိနည်းရှိတိုင်းပရိတ္တော်ကိုရွတ်မြွက်ရသည်။

ပရိတ္တော်ဆီဖြင့်လူနာကိုလူးမှတ်ခြင်းသက္ကရမင်တူးကိုခံရသောသူသည်၊ အာပါတ်ဖြေခြင်းသက္ကရမင်တူးခံသဖြင့်၊ မိမိစိတ်ကိုပြုပြင်ရ၍ပြုမိသောအပြစ်များကြောင့်၊နာကြင်ခြင်းစိတ်စွဲရမည်ဖြစ်၍၊ဧင်ကိုခံပြီးမှ၊ ဘုရားသခင်၏ကျေးဇူးတော်အောင်းမေ့လျှင်အားသတ္တိရှိလျှင်၊ ရွတ်ဖတ်သည်ပရိတ်ကား။ အနာရောဂါနှင့် လွတ်ချင်သောစိတ်စွဲသော်လည်း၊ တပည့်တော်၏အလိုရှိတိုင်းပြုတော်မမူပါနှင့်၊ တပည့်တော်၌အကျိုးရှိရာကို၊ တပည့်တော်ကမသိမမြင်သောကြောင့်၊ ရွှေစိတ်တော်ရှိတိုင်းသံသရာအ. ကျိုးကျေးဇူးဖြစ်ရာကိုသာပြုတော်မူမည်အကြောင်းတပည့်တော်ကပန်ကြားဆုယူပါသည်။ ဟူသောဆိုအပ်သည်။

ပရိတ္တော်ဆီဖြင့်လူနာကိုလူးမှတ်ခြင်းသက္ကရမင်တူးကိုခံသောသူသည်ဤသို့ပြုလျှင်၊ ဇေကံမလွဲသက္ကရမင်တူးပေးတတ်သော ကျေးဇူးအကျိုးဆက်တို့ကိုခံရတော့မည်။

———

သေဝနီးသို့ရောက်သောသူနာအဖို့တောင်း
လျှောက်ခံသောဆုတောင်းမေတ္တာ။

ဘုရားသခင်အား ရှိသေစွာလျှောက်ပံ့ပါသည်။ သနားခြင်းအဆုံးမရှိပြုပြင်ဖန်ဆင်းတော်မူလိုတိုင်း တန်ခိုးပျာမိဟာနှင့်ပြည့်စုံတော်မူသော ဘုရားမြတ်စွာသခင်၊ လူတို့၌မကောင်းသောမူလအညစ်အကြေးဟူသောရောဂါကိုကုမဆေးကြောပါသောဆရာမြတ်လည်းဖြစ်တော်မူသည်။အမြိုက်ရည်တိုက်ကျွေးတော်မူသောတရားတော်ကို သုံးဆောင်ကျင့်ဆောံတည့်လျှင်၊နောင်ဘဝအစည်ဘဉ်နေသောချမ်းသာခြင်းကျေးဇူးဆုကိုချပေးတော်မူသော သခင်လည်းဖြစ်တော်မူသည်နှင့်အညီ၊ယခုပြင်းထံသောရောဂါဝေဒနာကြောင့်၊ပင်ပန်းစွာခံရသောကိုယ်တော်တပည့်ချစ်သားကို သနားတော်မူခြင်းရှေ့နှစ်လုံးတော်နှင့်ကြည့်ရှုတော်မူလဖြင့်၊ ခန္ဓာငဲခါနိုး၌ရန်သူဟူသောမိစ္ဆာနတ်ဆိုးသည်၊ ငရဲအိုး၌ခံဖေါ်ခံဖက်ဖြစ်စိမ့်သော၄ါ၊မလိုဏ္ဍစွာသသနှင့်အသသာအလွန်ဗိရိယပြုသဖြင့်၊ နှောင့်ရှက်ဖြက်ဆီးတတ်သည်ကိုရဲရဲရင့်ရင့်ခိုင်ခန့်စွာဆီးတို့အောင်ဖြင်နိုင်အောင်၊ စိတ်နှလုံးထဲ၌တရားတော်အာရုံစေတနာအားထည့်သွင်းတော်မူပါ။ ဤသို့တရားနှင့်ဆန့်ကျင်ဘက်အနှောင်အရှက်မကောင်းသောသေဝိမိ၌၊ စိတ်ဇောခြင်းအခနည်းငယ်မျှမရှိကင်းသည်ဖြစ်၍၊ ယုတ်ခန္ဓာမှအသက်ဝိညဉ်ထွက်အံ့သောနေ့အချိန်ရောက်ရောခံသည်၊

အပြစ်မကောင်းမှု အညစ်အကြေးအငွေ့အစေ့မှ လွတ်ကင်းသန့်ရှင်းစွာနှင့်တွေ့ရသည်ဖြစ်၍၊ အခ စေအပေါ်တော်မြတ်သိကြားတို့သည်၊ ကိုယ်တိုင် ကိုယ်ကြွလာ၍ သခင်ရှင်းကိုယ်တော်အထံသို့ပို့ ယူပို့ဆောင်ကြလိမ့်မည်။ အာမင်။

ဆရာ၊ အိမ်သူအိမ်သား၊ ဘာသာတူတို့၊ နာဖြားသူမှ ခံ့အင်သောစွာ။

| | |
|---|---|
| **Kyrie, eleison.** | ဘုရားသခင် အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| **Christe, eleison.** | ခရိသျှတူးသခင် အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| **Kyrie, eleison.** | ဘုရားသခင် အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| **Sancta Maria,** *ora pro eo.* | သံတာမာရိယား၊ ဤသူမို့ဆု တောင်းတော်မူပါ။ |
| **Omnes Sancti Angeli, et Archangeli,** *orate pro eo* | သိကြားရုံးပါး အပေါင်းတို့။ ကြပါ။ |
| **Sancte Abel,** *ora.* | သံတူးအာဘယ်လ။ ပါ။ |
| **Omnis chorus Justorum** *orate.* | ခင်သိမ်းသော သူတော်ဖြောင့်တို့။ ကြပါ။ |
| **Sancte Abraham,** *ora.* | သံတူးအာဗြဟံ။ ပါ။ |
| **Sancte Joannes Baptista,** *ora.* | သံဂွင်ဘာတ္တိသျှတား။ ပါ။ |
| **Sancte Joseph,** *ora.* | သံဂူဇူဇယ်။ ပါ။ |

| | |
|---|---|
| Omnes Sancti Patriarchæ, et Prophetæ. *orate*. | ရှေးသူတော်သူမြတ် အပေါင်းတို့။ ကြပါ။ |
| Sancte Petre, *ora*. | သံတူပေတရူး။ ပါ။ |
| Sancte Paule, *ora*. | သံတူပေါလ်လူး။ ပါ။ |
| Sancte Andrea, *ora*. | သံတူအံဒြေအား။ ပါ။ |
| Sancte Joannes, *ora*. | သံတူဇွာင်။ ပါ။ |
| Omnes Sancti Apostoli et Evangelistæ, *orate*. | အပေါသျတောလောအပေါင်းတို့။ ကြပါ။ |
| Omnes Sancti Discipuli Domini, *orate*. | သခင်ယေဇူး၏တပြည့်အပေါင်းတို့။ ကြပါ။ |
| Omnes Sancti Innocentes, *orate*. | အပြစ်ကင်း သန့်ရှင်းအပေါင်းတို့။ ကြပါ။ |
| Sancte Stephane, *ora*. | သံတူဧတေဖနူး။ ပါ။ |
| Sancte Laurenti, *ora*. | သံတူလောရင်တူး။ ပါ။ |
| Omnes Sancti Martyres *orate*, | တရားကြောင့် အသက်ကိုအသေခံသောသူအပေါင်းတို့။ ကြပါ။ |
| Sancte Silvester, *ora*. | သံတူစိဝေစတရူး။ ပါ။ |
| Sancte Gregori, *ora*. | သံတူဂရေဂေါရိ။ ပါ။ |
| Sancte Augustine *ora*. | သံတူအိုဂုဧတိနူး။ ပါ။ |
| Omnes Sancti Pontifices, et Confessores, *orate*. | ရဟန်းအကြီး အပေါင်းတို့။ ကြပါ။ |
| Sancte Benedicte, *ora*. | သံတူဗေနေဒစ်တူး။ ပါ။ |
| Sancte Francisce, *ora*. | သံတူဖရန်စင်စတူး။ ပါ။ |

| | |
|---|---|
| Omnes Sancti Monachi, et Eremitæ, *orate.* | ရဟန်းသင်္ဃာတော် အပေါင်းတို့။ ကြပါ။ |
| Sancta Maria Magdalena. *ora.* | သံတာမာရီယာ မာဒါလေနား ပါ။ |
| Sancta Lucia. *ora.* | သံတာလူရှား။ ပါ။ |
| Omnes Sanctæ Virgines, et Viduæ, *orate.* | သီလရှင်အပေါင်းတို့။ ကြပါ။ |
| Omnes Sancti, et Sanctæ Dei, *intercedite pro eo.* | သံတူအပေါင်းတို့။ ဤသူ့ဖို့ဆုတောင်းကြတော်မူပါ။ |
| Propitius esto, *parce ei, Domine.* | ဘုရားသခင်၊ ဤသူ့ကိုခပ်သိမ်းဘေးတို့မှ၊ ကင်းစေတော်မူပါ။ |
| Propitius esto, *exaudi nos Domine.* | ဘုရားသခင်၊ အကျွန်ုပ်တို့၏ တောင်းလျှောက်ရာကို ဖြည့်တော်မူပါ။ |
| Propitius esto, *libera eum Domine.* | ဘုရားသခင် ဤသူ့ကိုကယ်နှုတ်တော်မူပါ။ |
| Ab ira tua. *libera.* | ကိုယ်တော်အမျက်မှ။ ဤသူ့ကို ကင်းဝေးစေတော်မူပါ။ |
| A periculo mortis. *libera.* | သေချိန်၌ ပါတတ်သောစိုးရိမ် ကြောင့်ကြခြင်းမှ၊ ဤသူ့ကို။ ပါ။ |
| A pœnis inferni *libera.* | ငရဲဘေးမှဤသူ့ကို။ ပါ။ |
| A mala morte. *libera.* | မကောင်းသေခြင်းမှဤသူ့ကိုပါ |
| Per Nativitatem tuam *libera.* | လူ့ကိုကယ်နှုတ်မည်၊ ဤလောက၌ ကိုယ်တော်ဖွားသည်ကို |

| | |
|---|---|
| | ထောက်၍၊ဤသူ့ကိုကယ်မသနားတော်မူပါ။ |
| Ab omni malo, *libera.* | မကောင်းမှုကားဤသူ့ကို။ ပါ။ |
| Per Crucem, et Passionem tuam *libera.* | ဒုက္ခစရိယာခံလျှင်၊ ကရုသ်းပေါ်အသေခံတော်မူသည်ကို ထောက်၍ဤသူ့ကို။ ပါ။ |
| A potestate diaboli, *libera.* | နတ်ဆိုးအစိုးမိုင်မှဤသူ့ကို။ပါ။ |
| Per Mortem, et Sepulturam tuam, *libera.* | ကိုယ်တော် သေခြင်းနှင့် အလောင်းတော်မသာသင်းဂြိုဟ်ရာကိုထောက်၍ဤသူ့ကို။ပါ။ |
| Per gloriosam Resurrectionem tuam, *libera.* | ကိုယ်တော်လူသေအစမှ ရှင်ပြီးသည်ကိုထောက်ကြည့်၍ ဤသူ့ကို။ ပါ။ |
| Per admirabilem Assensionem tuam, *libera:* | ကိုယ်တော်သည်မိမိတန်ခိုးအားနှင့်၊ မိုဃ်းကောင်းကင်သို့တက်သည်ကို ထောက်ထား၍ဤသူ့ကို။ ပါ။ |
| Per gratiam Spiritus Sancti Paracliti, *libera.* | သန့်ရှင်းသော ဝိညာဉ်တော်၏ကျေးဇူးကိုထောက်ထား၍ဤသူ့ကို။ ပါ။ |
| In die judicii, *libera.* | ပြင်းထန်သောအစီရင်ခံသောနေ့၌ဤသူ့ကို။ ပါ။ |
| Peccatores, *te rogamus audi nos.* | အပြစ်ပကင်းကျွန်ုပ်တို့တောင်းသောဆုကို သနားတော်မူပါ။ |

| | |
|---|---|
| Ut ei parcas, *te rogamus audi nos.* | ဤသူအား အပြစ်ဟူသမျှကညှာ လွှတ်အောင်အသနားတော်ခံ တော်မူပါသခင်။ |
| Kyrie, eleison. | ဘုရားသခင်၊ အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| Christe, eleison. | ခရိသ္တုဘုရားသခင်၊ အကျွန်ုပ်တို့ အားကယ်မသနားတော်မူပါ။ |
| Kyrie, eleison. | ဘုရားသခင်၊ အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |

မေတ္တာ။

ဘုရားသခင်အားရှိသေစွာလျှောက်ဝံ့ပါသည်။ သနားခြင်းအဆုံးရှိတော်မမူသော၊ ပြုပြင်ဖန်ဆင်းတော်မူလိုတိုင်းတန်ခိုးနှင့်ပြည့်စုံတော်မူသောဘုရားမြတ်စွာသခင်။ လူတို့၏အညစ်အကြေး ရောဂါတကာကိုကုမဆေးကြောတတ်သောမြတ်စွာဆရာသည်၊ ကိုယ်တော်အမြိုက်ရည်ကျွေးတော်မူသော တရားကိုသုံးဆောင်ကျင့်ဆောက်တည်လျှင်၊ နောင်ဘဝအစစည်တည်နေသောချမ်းသာကို ပေးတော်မူသောသခင်လည်းဖြစ်တော်မူသည်နှင့်အညီ၊ ယခုပြင်းထံသောဝေဒနာကြောင့်ပင်ပန်းစွာခံရသောကိုယ်တော်တပည့်ချစ်သားတို့ကိုကြည့်ရှုတော်မူသဖြင့်၊ ခွာခဲခါနိုး၍ရန်သူဟူသောမိစ္ဆာနတ်ဆိုးကိုရဲရဲရင့်ရင့်ဆီးဆို့အောင်နိုင်မည်အကြောင်း၊ စိတ်နှစ်လုံးထဲ၌တ

ရားတော်စေတနာအာရုံထင့်သွင်းတော်မူပါ။ သွင်းတော်မူလျှင်၊ နှောင့်ရှက်သမျှနှင့်ထုတ်သဖြင့် အသက်သည်ခန္ဓာမှထွက်အံ့သောငှါအာရှိန်ဇွဲရောက်သော်၊ အပြစ်မကောင်းမှုအညစ်အကြေးအငွေ့ဟူသမျှလွတ်ကင်းသန့်ရှင်းစွာ ထွက်ရမည်အကြောင်း၊ အစေအပါတော်မြတ်သိကြားတို့လာ၍ကိုယ်တော်ရှင်အထံတော်သို့ပင် ယခုမိုဆောင်ကြပါစေသော။

—— 00 ——

## လူသေပြီးလျှင်ဆိုအပ်သောမေတ္တာ။

### ဒေပရောဖုံဒိ၊

De profundis clamavi ad te Domine: * Domine exaudi vocem meam.

အိုဘုရားသခင်၊ နက်နဲရာထဲက၊ ကိုယ်တော်သို့ အကျွန်ုပ်သည်ဟစ်ကြော်ပါပြီး။ အိုသခင်ဆုတောင်းသောအကျွန်ုပ်၏အသံကိုနားခံတော်မူပါ။

Fiant aures tuæ intendentes: * in vocem deprecationis meæ.

ဆုတောင်းသော အကျွန်ုပ်၏အသံကို ရွှေနားတော်တို့သည်၊ နားညောင်းကြပါလေစေ။

Si iniquitates observaveris Domine: * Domine quis sustinebit.

အိုဘုရားသခင်၊ အပြစ်တို့ကိုရည်မှတ်တော်မူလျှင်၊ အဘယ်သူခံနိုင်ပါမည်နည်း။

Quia apud te propitiatio est: * et prop-

သနားခြင်း ရွှေစိတ်တော်သည်ရှိသည်နှင့်အညီ၊ တရားတော်

ter legem tuam sustinui te Domine.

အမှီပြု၍၊ ကိုယ်တော်ကိုမျှော်လင့်တောင့်တခြင်း ရှိပါသည် ဘုရား။

Sustinuit anima mea in verbo ejus: * speravit anima mea in Domino.

ဘုရား၏ နှုတ်ကပတ်တော်၌ အကျွန်ုပ်စိတ်ဝိညာဉ်သည် မျှော်၍ ထောက်ပါပြီ။ ဘုရားရှင်၌အကျွန်ုပ်စိတ်ဝိညာဉ်ယုံကြပါပြီ။

A custodia matutina usque ad noctem: * speret Israel in Domino.

မိုးလင်းအခါမှစ၍၊ ညဉ့်အခါတိုင်အောင်၊ ဣသရေလအမျိုးသည် ဘုရားကိုအမှီပြုပါအံ့။

Quia apud Dominum misericordia: * et copiosa apud eum redemptio.

သနား၍ အထူးသဖြင့်ကယ်တင်တတ်သော ရွေးနုတ်လုံးတော်သည်၊ ဘုရားသခင်၌စွဲမြဲတော်မူ၏။

Et ipse redimet Israel: * ex omnibus iniquitatibus ejus.

အပြစ်ဒုစရိုက်ဟူသမျှ၊ ဣသရေလအမျိုးကို ကယ်ဆယ်တော်မူသည်။

Requiem æternam * dona ei Domine,

အိုသခင်၊ ဤသူအားထာဝရငြိမ်သက်ခြင်းကို ပေးသနားတော်မူပါ။

Et lux perpetua * luceat ei.

မငြိမ်းမသေတတ်သော အလင်းသည်ပြောင်ပါလေစေ။

မေတ္တာ။

တရားတော်ကိုယုံကြည်သောသူအပေါင်းတို့ကိုဖန်ဆင်း၍၊ ကယ်တင်တော်မူသောသခင်ယေရှု။ ဘဝပြောင်းပြီးသောတပည့်တော်တို့၏အပြစ်အပေါင်းတို့ကိုကြည့်ရှုတော်မူပါ။ ဖြစ်၍ရှိသောစွာသွန်းသောင်းရာမေတ္တာတို့ကိုထောက်တော်မူလျှက်၊ ထိုသူတို့ မျှော်လင့်ကြသောချမ်းသာကို ပေးသနားတော်မူပါ။ ကမ္ဘာအဆက်ဆက်တည်၍စိုးပိုင်တော်မူသောသခင်ဖြစ်၏။ အာမင်

---

လူသေကိုသင်းဂြိုဟ်အောင်နည်းဦးဒေကိုဆိုပေအံ့။

လူသေကိုအိမ်သို့ရောက်လျှင်၊ ရဟန်းသည်ပရိတ်ရေကိုတလားပေါ်မှဖြန်း၍ ဒေပရောဖုံဓိဆာလ်မိုကိုရွတ်၏။ (မျက်နှာ ၁၀၀)။

ကျောင်းသို့သွားစဉ်တွင် မိသေရေရေဆာလ်မိုကိုလည်းဆိုလေ့ရှိ၏။ (မျက်နှာ ၆၀)။

ကျောင်းထဲသို့တလားကိုသွင်းစဉ်တွင်၊ နောက်ပါသောမေတ္တာကိုရွတ်ဖတ်ရအပ်သည်။

| | |
|---|---|
| **Subvenite**, Sancti Dei; occurrite, Angeli Domini, * Suscipientes animam ejus; † Offerentes eam in conspectu Altissimi. | အိုရဟန္တာတို့သိကြားတို့၊ အထက်မှဆင်းသက်၍၊ * သေသောသူ၏ဝိညာဉ်ကို ကြိုလာလက်ခံလျှက်၊ † ဘုရားမဟာသခင်ရှေ့တော်သို့ ပို့ဆောင်ကြလော။ |

Suscipiat te Christus, qui vocavit te; et in sinum Abrahæ Angeli deducant te, * Suscipientes....

သင်ကိုခေါ်တော်မူသော ခရိသျှတူးသည် လက်ခံတော်မူပါစေ၊ သကြြားတို့သည်လည်းအာဗြဟာမ်ရင်ခွင်ထဲသို့ယူပို့ကြပါလေစေ။ *သေသော......

Requiem æternam dona eis Domine; et lux perpetua luceat eis

အိုသခင်၊ ဤသူအားထာဝရငြိမ်သက်ခြင်းကို ပေးသနားတော်မူပါ။ မငြိမ်းမသေတတ်သောအလင်းကို မြင်ပါလေစေ။

† Offerentes....

† ဘုရားမဟာ......

——*00*——

Libera me, Domine de morte æterna, in die illa tremenda, * Quando cœli movendi sunt et terra: † Dum veneris judicare sæculum per ignem.

အိုသခင်၊မိုးဖြင့်ဤလောကကိုဝိရင်ဖျက်ဆီးအောင် ကြွတော်မူရအံ့သောနေ့၌၊ * မြေကြီးနှင့်ကောင်းကင်တံဆာတို့လှုပ်ရွေလျော့လမည် † ထိုကြွံမကဲငွယ်သောနေ့၌၊အဆုံးမရှိသောသေခြင်းမှ အကျွန်ုပ်ကို ကယ်တော်မူပါ။

Tremens factus sum ego, et timeo dum discussio venerit atque ventura ira,

စစ်ကြောမေးမြန်းခြင်းဖြင့်အမျက်တော်ထွက်မည်အခါတွင်၊ အကျွန်ုပ် တုံလှုပ်၍ ကြောက်လှုပါသည်။

* Quando cœli movendi sunt et terra.

* မြေကြီးနှင့် ကောင်းကင်တံဆာတို့လှုပ်ရွေလျော့လမ်နေ့၌

| | |
|---|---|
| Dies illa, dies iræ, calamitatis et miseriæ, dies magna, et amara valde. † Dum veneris judicare sæculum per ignem. | ထိုနေ့မှာကြီးလေးအလွန်ခါး ရှိန်ဖွယ်သောနေ့တည်း။ ဆင်းရဲဒုက္ခ အပူအပင်ရန်ဒေါသနှင့်ပြည့်စုံ၏။ †မီးဖြင့်ဤလောကကို စီရင်ဖျက်ဆီးအောင် ကြွတော်မူရအံ့နေ့၌။ |
| Requiem æternam dona eis, Domine; et lux perpetua luceat eis. | အိုသခင်ဤသူအား ထာဝရငြိမ်သက်ခြင်းကို ပေးသနားတော်မူပါ။ မငြိမ်းမပျောက်သော အလင်းကိုမြင်ပါလေစေ။ |
| Libera me.... | အိုသခင်မီးဖြင့်...... |
| Kyrie eleison. | ဘုရားသခင်အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| Christe eleison. | ခရိသျှတူးသခင် အကျွန်ုပ်တို့အားကယ်မသနားတော်မူပါ။ |
| Kyrie eleison. | ဘုရားသခင် အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| Pater noster.... | မိုဃ်းကောင်းကင်၌...... |
| V. Et ne nos inducas in tentationem. | မ။ နှောင့်ရှက်ခြင်းသို့ အကျွန်ုပ်တို့ကိုရောက်စေတော်မမူပါနှင့်။ |
| R. Sed libera nos a malo. | ဖ။ မကောင်းမှုတားအကျွန်ုပ်တို့ကိုချွတ်တော်မူပါ။ |
| V. A porta inferi. | မ။ ငရဲတံခါးဝမှ။ |

| | |
|---|---|
| Et rege eos; ‘ et extolle illos usque in æternum. | ထိုသူတို့ကို အုပ်စိုးတော်မူ၍။ အစဉ်ခဲ့မြှတ် မြှောက်တော်မူပါ။ |
| Per singulos dies, ‘ benedicimus te. | နေ့တိုင်းမပြတ် ကိုယ်တော်ကို၊ အကျွန်ုပ်တို့သည်။ ထောမနာပြုကြပါသည်။ |
| Et laudamus nomen tuum in sæculum: ‘ et in sæculum sæculi. | လောကအဆက်ဆက်လည်းနာမတော်ကိုချီးမွမ်းကြသည်။ |
| Dignare Domine die isto; ‘ sine peccato nos custodire. | အိုမဟာသခင်၊ ယနေ့ပင်အပြစ်မှ၊ အကျွန်ုပ်တို့ကိုဟန့်တားတော်မူပါ။ |
| Miserere nostri Domine; ‘ miserere nostri. | အိုသခင်၊အကျွန်ုပ်တို့ကိုထပ်၍ သနားတော်မူပါ။ |
| Fiat misericordia tua Domine super nos; ‘ quemadmodum speravimus in te. | ကိုယ်တော်၌ ယုံမှတ်ခြင်းရှိသည်နှင့်အညီ၊ အကျွန်ုပ်တို့ပေါ်မှာ အသနားတော်မြတ်တည်ပါလေစေ။ |
| In te, Domine speravi; ‘ non confundar in æternum. | အိုမဟာသခင်။ကိုယ်တော်ကို အမြဲကြပါသည်ဖြစ်၍ ရှက်ကြောက်ခြင်းမဲ့ အကျွန်ုပ်တို့ သည်အစဉ်ပေနေပါတော့မည်။ |

V. Benedicamus Patrem, et Filium, cum sancto Spiritu.

R. Laudemus, et superexaltêmus eum in sæcula.

မ။—ခမည်းတော် သားတော် သန့်ရှင်းသော ဝိညဉ်းတော်ကို ကိုချီးမွမ်းကြစို့။

မ။—ကိုယ်တော်ကိုအစဉ်အဆက်ထောမနာပြု၍ မြှောက်ကြစို့။

## လျှောက်ကြစို့။

အတိုင်းမသိ ကောင်းမြတ်တော်မူလှသော၊ သနားဖွယ်သော ရွှေစိတ်တော်ရှိမြဲတော်မူသော ဒိုဘုရားသခင်။ ကိုယ်တော်သွန်းလောင်းတော်မူသော ဆုကျေးဇူးတော်များကြောင့်၊ အကျွန်ုပ်တို့အားရဝမ်းသာကြပါသည်ဖြစ်၍ ကြည်ညိုဖွယ်သောအလိုတော်ကိုထောက်၍။ ထောင်းလျှောက်ရာကိုပင်၊ သနားတော်မူပြီးသကဲ့သို့၊ နေ့ခံမှထိုသူတို့ကိုမစွန့်မပယ်ထာဝရဆုတော်လပ်တော်တို့ကို။ သခင်ယေရှုး မျက်နှာတော်ကြောင့်၊ ပေးသနားတော်မူပါမည်အကြောင်းကိုအကျွန်ုပ်တို့လျှောက်ဝံ့ကြပါသည်။



# VIA CRUCIS.

## သခင်ယေရှုးကရိသ္တုးဒုက္ခစရိယာကျင့်ခံတော်မူသောလမ်းတည်း။

ရဟန်းက၊ဘုရားစင်ခြေရင်းမှာ၊ရွတ်သရဇ္ဈာယ်အပ်သောမေတ္တာ။

ဦးညွှတ်ရှိခိုးကိုးကွယ်ခြင်းကိုခံထိုက်တော်မူထသော၊ အိုယေရှုးသခင်၊ ကိုယ်တော်၏ခြေရင်း၌ညွှတ်ပြတ်ဝပ်တွား၍ အသနားတော်မြတ်ကိုခံလိုသောအကျွန်ုပ်တို့အားရင်၊ ဘဝပြောင်းနှဲ့သောကရိသ္တုတောင်တို့အားရင်၊ကယ်မကယ်ဆယ်တော်မူပါ။ အကျွန်ုပ်တို့သည်ယခုဆဲသဲခေါင်းမေ့ဆင်ခြင်ရအံ့သော၊ ကိုယ်တော်၏ ဒုက္ခစရိယာမှ ထွက်ယိုသော၊မဟာဘုတ်ကိုပင်တော်သောကျေးဇူးတော်တို့၊အကျွန်ုပ်တို့ကိုပေးသနားတော်မူပါလော့။ နောက်တော်သို့လိုက်၍

ဒုက္ခ၀ရိယာကို၊ မြတ်ဗျာဒ်ပြုရာတွင်၊ ကြီးမွာသော
ငံဝေဒနာခံသဖြင့်၊ အသက်နှင့်ရှင်စည်၊ မချွတ်ငွေ့မြဲ
ရုပ္ပဆင်းရဲနှင့်မှိုင်ချွတ်ချရာကို၊ အသင့်ရှိသောသ
ဘောစိတ်ဖြင့်၊ သည်းခံနိုင်ပါမည့်အကြောင်းကိုအား
ထန်ခိုးပေးသနားတော်မူပါ။

| | |
|---|---|
| V. Domine labia mea aperies. | ပ။ အိုဘုရားသခင်၊ အကျွန်ုပ် နှုတ်ခမ်းတို့ကိုဖွင့်တော်မူပါအံ့။ |
| R. Et os meum annuntiabit laudem tuam. | ဗ။ အကျွန်ုပ်တလည်း၊ ကိုယ်တော်၏ဘုန်းတော်ကို ချီးမြွမ်းပါအံ့။ |
| V. Deus in adjutorium meum intende. | ပ။ အိုဘုရားသခင်၊ အကျွန်ုပ်ကိုစောင်မတော်မူပါ။ |
| R. Domine ad adjuvandum me festina. | ဗ။ အိုဘုရားသခင်၊ အလျှင်အမြန်ပြုစောင်မတော်မူပါ။ |
| V. Gloria Patri et Filio et Spiritui Sancto. | ပ။ ခမည်းတော်၊ သားတော်၊ သန့်ရှင်းသောဝိညာဉ်တော်အား၊ ကိုးကွယ်ရှိသေလေးမြတ်ခြင်း ရှိပါစေ။ |
| R. Sicut erat in principio, et nunc, et semper, et in sæcula sæculorum. Amen. | ဗ။ ရှေးဦးစွာသော ရှိသေလေးမြတ်ခြင်းရှိသည်အတိုင်း၊ ယခုနေ့မှာ၌ အစဉ်မပြတ်ရှိစေသောတည်း။ |

## ရဟန်းတကြွပြောင်း၍၊ တပါးသောအာ ရင်သို့ရှေ့ခံလျှင်၊ ကြွနည်းသို့ရအပ်သည်။

## I.

## ပဌမအရပ်။

### သေဝေဟူ၍၊ သခင်ယေရှုအသည်မိရင်ဆုံးဖြတ်ခြင်း ကို၊ ခံတော်မူရာအရပ်။

V. Adoramus te Christe et benedicimus tibi.

ပ။ ခရိတ်ကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အားဦးညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။

R. Quia per sanctam crucem tuam redemisti mundum.

ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ ကရုဆူးအာနုတော်အားဖြင့်၊ လူအပေါင်းတို့ကို၊ ရွေးချယ် ကယ်ချွတ်တော်မူကဲ့ပြီး။

### ရဟန်းတော်ဖတ်ရအပ်သောအချက်ကား။

မဟာယေရှုသည်၊ ကာဣဖာအမည်ရှိသော၊ ရဟန်းပရောဟိတ်ကျောင်းတွင်ရင်၊ ဟေရောဒ်အမည်ရှိသောမင်းအိမ်တွင်ရင်၊ ကဲ့ရဲ့ခနဲ့မထီလေးစားပြုခြင်းခံတော်မူ၍၊ ထွက်ဆင်းတော်မူလျှင်၊ ပိလာတူးမင်းရုံးတော်သို့ဆွဲငင်တွန်းထိုးပို့ယူကုန်၏။ အသားကွာအောင်ရိုက်ကုန်၏။ ဆူးခွေဖြင့်ဖြစ်သောဦးပေါင်းကို၊ ကိုယ်တော်မြတ် ခေါင်းတော်ပေါ်မှာ၊ ဆွတ်နှက်ကြကုန်၏။ ကန္တာကုန်လျှင်၊ မလွှဲသက်မှ

သဘော်မဲ့လူအပေါင်းတို့အား၊ စီရင်စစ်ကြောတော်မူ
အခံ့သောပုဒ္ဂိုလ်မြတ်သည်၊ သောဓေဟူ၍အသရေမဲ့
သူ့ကဲ့သို့စီရင်ချက်ကိုခံရခြေသည့်ဘတား။

မေတ္တာ။

မှန်မြတ်လှသောသေရှူး။ အကျွန်ုပ်တို့ကိုယ်စား ခံ၍၊ ဒုက္ခဝရိယာကျင့်ခံတော်မူကဲ့သည့်မှန်ပေ၏။ အကျွန်ုပ်တို့အားရွေးနှုတ်ကယ်နှုတ်ခြင်းငှါ၊ အသေးတော်ဆုံးရှုံးအောင်၊ စီရင်ဆုံးဖြတ်ချက်ကိုလည်းခံတော်မူကဲ့သည့်မှန်ပေ၏။ အိုချစ်ဖွယ်လှသောသခင်။ အကျွန်ုပ်တို့ပြုမိသမျှကို၊ စိတ်ကုန်ညာဏ်ကုန်နှစ်လုံးအားနှင့်အမျှ၊ စက်ဆုတ်ရွံရှာကြသည်ဖြစ်၍၊ အသနားတော်မြတ်ကိုခံသဖြင့်၊ ကညလွှတ်ခြင်းချမ်းသာကို၊ ရပါမည်အကြောင်းတောင်းလျှောက်ကြပါ၏။

✠ မိုသ်းကောင်းကင်၊ အာဝေမာရိယား၊ ခမည်းတော်သားတော်ဟူ၍ မေတ္တာသုံးပုဒ်တို့ကို၊ ရွတ်သရွှဲယ်၍၊ ပြီးလျှင်ဆိုရအင်သောမေတ္တာကား။

| | |
|---|---|
| V. Miserere nobis, Dominc. | အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ၊ သခင်။ |
| R. Miserere nobis. | အကျွန်ုပ်တို့အား ကယ်မသနားတော်မူပါ။ |
| V. Fidelium animæ | သေလွန်သော သူတို့၏ အ |

| | |
|---|---|
| per misericordiam Dei requicscant in pace. | သတ်ဝိညာဉ်တို့သည်၊ အသနားတော်မြတ်ခံ၍၊ ငြိမ်သက်ခြင်းချမ်းသာကိုခံစားရသတည်း။ |
| R. Amen. | အာမင်။ |

ရေဟန်းက တရပ်က တရပ်သို့ ကြွ၍၊ ပြောင်းစည်တွင်၊ ရွတ်အပ်သောမေတ္တာ ပုဒ်တား။

| | |
|---|---|
| Stabat mater dolorosa | သာတော်သည် ကရူသူး၌တွဲ လွဲဆွဲလျက်ရှိတော်မူစည်၊ |
| Juxta crucem lacrymosa, | မယ်တော်သည် ကရူသူးခြေရင်း၌၊ |
| Dum pendebat filius. | သတ်ကြီး ရှိုက်ငင် ငိုကြွေးလျက်ရပ်နေတော်မူ၏။ |
| Sancta Mater, istud agas, | မှန်မြတ်သောမယ်တော်၊ ကရူသူး၌သတ်ထားခြင်းကိုခံတော်မူသောယေရှူး၏ |
| Crucifixi fige plagas, | ဒါဏ်ရာဒါဏ်ချက်များကို၊ |
| Cordi meo valide. | အကျွန်ုပ်နှစ်လုံးတွင် ၊သံမှိုကဲ့သို့၊ စွဲမြဲပါစေသော။ |

—— oo ——

## ဒုတိယအရပ်။

## သခင်ယေရှုးသည်တကျသူးကို၊ထမ်းယူတော်မူသည့် အရပ်။

V. Adoramus te Christe et benedicimus tibi.

ပ။ အိုကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ဦးညွတ်ရှိခိုးကိုးကွယ်ကြပါသည်။

R. Quia per sanctam crucem tuam redemisti mundum.

ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တကျသူးအာနုဘော်အားဖြင့် လူအပေါင်းတို့ကို ရွေးချယ် ကယ်ချွတ်တော်မူကဲ့ပြီး။

ရယာန်းကဗတ်ရအောင်သောအချက်ကား။

ဒါကာရာနှင့်ပြည့်သော သခင်ယေရှုး၏ပခုံးတော်ပေါ်မှာ၊အလွန်လေးသောတကျသူးကိုတင်ကြ၏။ ကိုယ်တော်မြတ်သည်၊ နူးညံ့သိမ်မွေ့သောစိတ်နှင့်၊ ထိုတကျသူးကိုခံယူတော်မူသည့်သာမက၊ တကျသူး၌ သတ်ထားခြင်းဘေးဒါကာအားဖြင့်၊ လူအပေါင်းတို့ကို ကယ်ချွတ်တော်မူမည့်အကြံအလိုရှင်းရှိတော်မူသောကြောင့်၊ အားရဝမ်းသာသောစိတ်နှင့်တကြင်ကိုယူ၍ထမ်းရွက်တော်မူသတည်း။

မေတ္တာ။

အကျွန်ုပ်တို့သည်၊ တဝခကျွာ၊ ကျုံ့မြဲဒုက္ခဆင်းရဲကိုသိမ်မွေ့နှိမ့်ချ၍သေဗွာခံ၍၊နောက်တော်သို့၊အား

မလျော့ အမြဲလိုက်လိုသောနှစ်လုံးမိတ်ကို၊ ဒုက္ခမ ဟာကုသိုလ်တော်ထောက်၍၊ ပေးသွင်းတော်မူပါ မည်အကြောင်း၊ တောင်းလျှောက်အသနားတော် မြတ်ခံကြပါ၏။ အိုယေရှုးအကျွန်ုပ်တို့သခင်။

မိုယ်းတောင်းကင်၊ ✠ (မျက်နှာ ၁၇၁)

ရင်ကြွ၍ပြောင်းစည်တွင် ရှုတ်သိုရအစ် သောမေတ္တာ။

| | |
|---|---|
| Cujus animam gementem, | ပူဆွေးညည်းတွားရှိက်သော |
| Contristatam et dolentem, | သူ၏နှစ်လုံးတော်ကို၊ သံလျက် သည် ထုပ်ချင်းထိုးပေါက်လေ |
| Pertransivit gladius. | ၏။ |
| Sancta Mater.... | မွန်မြတ်သောမယ်တော်...... |

——oo——

# III

## တတိယအရစ်။

### သခင်ယေရှုးသည်၊ တရုသူးတော်အောက်မှာ၊ ပဌမ အကြိမ်လဲကြတော်မူရာအရစ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | ပ။ အိုကရိသ္ဘုတူး၊ အကျွန်ုပ် တို့သည် ကိုယ်တော်အားဦး ညွတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum. | ဖ။ အကြောင်းမူကား၊ ကိုယ် တော်သည်၊ တရုသူးအာနုဘော် အားဖြင့်လူအပေါင်းတို့ကိုရွေး ချယ် ကယ်ချွတ်တော်မူကဲ့ပြီး။ |

## ရဟန်းကာဗတ်ရအပ်သောအချက်ကား။

ဒိုယေရှူးကိုယ်တော်သည်၊ အလွန်လေးသောကာရှုသူးအောက်မှာ၊ ထမ်း၍ဟိုက်ချက်ရှိတော်မူ၏။ ကြွသွားစေပြုတော်မူ၍၊ ကာလဝါရီတောင်ဘက်သို့၊ ရွေ့စဉ်ပြောင်းတော်မူရာတွင်မှ၊ ယုတ်မာသောသူတို့၏အပြုအမူ၊ လက်ကျူးဖုန့်တက်ကျူးများကို၊ သည်းခံတော်မူ၏။ သံလွင်ဥယည်တွင်၊ ခံတော်မူခဲ့သောဝေဒနာကြောင့်၊ မောပန်းနွမ်းအားကြီးလှ၍၊ ဒါဏ်ရာဒါဏ်ချက်အပြည့်ရှိတော်မူ၏။ ခွန်အားနည်းပါးရှိတော်မူ၍၊ ကာရှုသူးအောက်၊ မြေပေါ်မှာလဲကြတော်မူ၏။

## မေတ္တာ။

အကျွန်ုပ်တို့အပြစ်များကြောင့်၊ အလွန်လေးသောကာရှုသူးကိုထမ်းပွာတော်မူ၍၊ အောက်မှာလဲကြတော်မူခဲ့သော၊ ဒိုယေရှူးသခင်။ ကိုယ်တော်ချင့်ခံတော်မူခဲ့သော၊ ဒေါဒုက္ခများကိုအောင်းမေ့သဖြင့်၊ သမ္မာသတ္တိပြီရှိယာနှင့်၊ ကိုယ်စိတ်နှစ်လုံးသူများကိုစောင့်စည်းချုပ်တည်း၍၊ မကောင်းရှိရှိသမျှကို၊ ကြည်ရှောင်နိုင်ပါမည့်အကြောင်း၊ အားတန်ခိုးပေးခွင့်တော်မူပါ။

မိုဃ်းတောင်းသင်၊ ✠ (မျက်နှာ ၁၇၁) ရင်ကြားမြှစ်ပြောင်းလည်တွင် ရွတ်ဆိုရအောင်လော့သာမေရွှာ။

| | |
|---|---|
| O quam tristis et afflicta, Fuit illa benedicta, Mater Unigeniti. | အထူးသဖြင့် မြတ်လှသော၊ သားရေးမယ်တော်၏ သမ်းရိုးရှိး၊ ဝယ်စိတ်ကြေကွဲခြင်းသည် ကြီးခြင်းလှပါတကား။ |
| Sancta Mater.... | မွန်မြတ်သောမယ်တော်...... |

——*00*——

IV

ဝဒုရွှာအရင်။

သခင်ယေရှုးသည်၊ မိမိမယ်တော်နှင့်၊ လမ်းတွင်တွေ့ကျုံတော်မူသည်အရပ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | ဗ။ ခရိုဇ်စရိသျှုတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အားဦးညွတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum. | ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ ကရုသူးအသန့်တော်အားဖြင့် လူအပေါင်းတို့ကို ရွေးချယ် ကယ်ချွတ်တော်မူခဲ့ပြီး။ |

ရဟန်းကဖတ်ရအပ်သောအချက်ကား။

သခင်ယေရှုးသည်၊ကရုသူးကို၊ထမ်းတော်မူလျက်၊ လဲကျမိသည်ဖြစ်သောကြောင့်၊ အနာအဆာကြီးပွားကုန်၏။ ရှေ့တိုး၍ရွှေ့စက်ပြောင်းတော်မူလျှင်၊ မိမိမယ်တော်နှင့်၊ လမ်းတွင်တွေ့ကျုံတော်မူ၏။ ဤတွေ့ကြုံခြင်းကား၊အဘယ်သို့သောတွေ့ကြုံခြင်းတည်း။ သံလျက်နှင့်တူ၍ မယ်တော်၏နှစ်လုံးတော်ကို ထိုးဖောက်သောနာကြင်ခြင်းဝေဒနာကို၊ မည်သို့အားဖြင့်ဆင်ချင်၍ပြနိုင်ပါမည်နည်း။ သားတော်သည်၊ မိမိမယ်တော်၏ပူဆွေးနာကြင်ခြင်းကို၊မြင်တော်မူလျှင်လည်း၊ သနားဘွယ်သောရွှေနှစ်လုံးတော်၌ခံရာကိုမည်သူအောင်းမေ့ဆင်ချင်နိုင်ပါမည်နည်း။

မေတ္တာ။

အိုယေရှုးသခင်။ ကိုယ်တော်၏မယ်တော်၌သက်တော်မူသည့်ကျင်နာသနားခြင်းကိုထောက်တော်မူ၍၊ အကျွန်ုပ်တို့အားသနားတော်မူပါ၊ မယ်တော်သခင်မသည်၊ အကျွန်ုပ်တို့၌ ထပ်ဆင့်၍ ဆုတောင်းတော်မူမည့်အကြောင်း ကယ်မတော်မူပါ။ပူဆွေးနာကျင်လှသောအိုမာရိယားမယ်တော်။သားတော်သည့်ကျင့်ခံတော်မူသောဒုက္ခစရိယာကိုထောက်၍၊ အကျွန်ုပ်တို့အဖို့ငှါ ထပ်ဆင့်ဆုတောင်းတော်မူလျက်နေခင်ကာလမှာ၊ အမျက်တော်နှင့်ကင်းလွတ်ကြနိုင်မည့်အကြောင်းမစတော်မူပါ။

နိယံးကောင်းတင်၊ ✠ (မျက်နှာ ၁၇၁)
၎င်ကြွ၍ပြောင်းစည်တွင် ရွတ်ဆိုရအံ
သောမေတ္တာ။

| | |
|---|---|
| Quæ merebat, et dolebat, | မယ်တော်သည်၊ မြတ်သား |
| Pia mater dum videbat, | တော်၏ ဒုက္ခစရိယာတို့ မြင် |
| | တော်မူလျှင်၊ ညည်းတွားရှိုက် |
| Nati pœnas inclyti. | တငင်နေတော်မူသတည်း။ |
| Sancta Mater.... | ရှင်မြတ်သောမယ်တော်…… |

—oo—

V

ပဉ္စမအရပ်။

သိမ့်သိရေနေအလူးတို့ဖန်း၍၊ သခင်ယေရှုးကိုယ်စား၊
တရုသူးကိုတမ်းစေကြသည်အရပ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | မ။ အိုကရိသျှတူး၊ အကျွန်ုပ် တို့သည် ကိုယ်တော်အားဦး ညွတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum. | ဖ။ အကြောင်းမူကား၊ ကိုယ် တော်သည်၊ တရုသူးအခါနှဘော် အားဖြင့် လူအပေါင်းတို့ကို ရွေးချယ်တော်မူတဲ့ပြီ။ |

ရဟန်းကပဆတ်ရအပ်သောအချက်ကား။

ကိုယ်တော်၏အသားသွန်နည်းပါလျှင်၊ တိုး၍ရှေ့စောင်ပြောင်းတော်မမူနိုင်သောကြောင့်၊ အနာသည်သားဟိုသည်၊သိရေနေအုံးမည်သော၊သိမ့်ကိုဖန်း၍၊သခင်ယေရှုးကိုယ်စား၊ ကရုသူးကိုထမ်းလိုက်ပေကုန်၏။ ကရုသူးအနုဘော်အားဖြင့်၊သိမ့်သိရေနေအုံးသည်စိတ်ထားရင်းလည်း၍ တပုံတခြားဖြစ်လာ၍၊ ရှေ့လောင်ဦးအလျှင်မနှစ်မသက် မခံလိုသောအရာကို၊နောက်ကိုစိတ်ပါ၊ အားရှိနေကျောက် ထမ်းယူလေ၏။

မေတ္တာ။

အိုယေရှုးသခင်။ကျေးဇူးပြုတော်မူ၍၊အကျွန်ုပ်တို့သည်ကိုယ်တော်နှင့်အတူ၊ ကရုသူးထမ်းရပါမည့်အကြောင်း၊ ကရုသူးထမ်းရာတွင်သာ၊ဝါးကြွားလျက်ရှိနေကြပါမည်အကြောင်း၊ အကျွန်ုပ်တို့ကရုသူးအနုဘော်အားဖြင့်၊ လောကီသားတို့နှစ်သက်ရာကို၊ မလိုက်စွန့်ပြစ်နိုင်ပါမည်အကြောင်း၊ ငပ်သခင်၏နာမတော်မြတ်ကြောင့်၊ ဒုက္ခဆင်းရဲများပေါ်ရောက်တိုင်း၊ ကျေးဇူးတော်ထင်မှတ်၍၊ မတွန့်မဆုတ်ဘဲ၊ဝမ်းသာဝမ်းမြောက်ခြင်းနှင့်သည်းခံနိုင်ပါမည်အကြောင်း၊ ကယ်မ၍ အားဘန်မိုးပေးတွင်းတော်မူပါသခင်။

မိုယ်းကောင်းကင်၊ ✠ (မျက်နှာ ၁၇၁) ရင်ကြွ၍ပြောင်းစည်တွင်ရွတ်ဆိုရအပ်သောမေတ္တာ။

| | |
|---|---|
| **Quis est homo, qui non fleret,** | သည်လောက်ပြင်းထံသောပူဆွေးပူပန်ခြင်းကို၊ ခံတော်မူရာ |
| **Christi matrem si videret** | တွင်၊ မယ်တော်ကိုမြင်လျှင်၊ မယူမတမငိုမကြွေးဘဲ မည်သူ |
| **In tanto supplicio ?** | နေနိုင်သနည်း။ |
| **Sancta Mater....** | မွန်မြတ်သောမယ်တော်…… |

——*00*——

## VI

### ဆဋ္ဌမအရပ်။

ဝေရောနိကမည်သော၊မိန္တာယောက်သည်၊ယေရှုး မျက်နှာတော်ကို၊သုတ်သည်အရပ်။

| | |
|---|---|
| **V. Adoramus te Christe et benedicimus tibi.** | မ။ အိုကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား ဦးညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| **R. Quia per sanctam crucem tuam redemisti mundum.** | ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ ကရူသူးအခါနုဘော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူကဲ့ပြီး။ |

## ရဟန်းကဖက်ရွတ်ရအပ်သောအချက်ကား။

မျက်နှာတော်မှာချွေးစီးရှိ၍ ကိုယ်တော်သည်၊ ရှေ့ရှောက်တော်မူသည်အခိုက်၊မိမ္ဘတယောက်သည် ကြင်နာသနားခြင်းဖြင့်။ ငယ်သားစုထဲသို့ဝင်၍။ မျက်နှာတော်ကို၊ပဝါနှင့်သုတ်လေသည်။ထိုမိမ္ဘပြု ပြီးသောကျေးဇူးကောင်းမှုကို၊ သိ၍ဆပ်ချင်သော ရွှေစိတ်တော်ကိုစွတော်မူ၍ ကိုယ်တော်သည်မိမိ သမျက်နှာတော်ပုံကို၊ ပဝါပေါ်၌ကပ်ငြဲတော်မူစေ တည်း။

## မေတ္တာ။

အိုယေရှုး၊ ကိုယ်တော်၏။ ဒုက္ခစရိယာကိုရှေ့ရှု တောက်မျှော်ဆင်ချင်သဖြင့်။ အလွန်ရှိုသော ကြင်နာ တတ်သောစိတ်။ ကျူးလွန်မိသောအပြစ်များ ကြောင့်ပြင်းထန်သောနာကြင်ခြင်းစိတ်။ ပြန့်ပွား သော။ သဒ္ဓါမြတ်နိုးခြင်းစိတ်။ ဤစိတ် ၃ ပါးကို။ အကျွန်ုပ်တို့၌၊အမြဲစွဲအောင်၊ကယ်မတော်မူပါ။ ၎င် ပြင်အကျွန်ုပ်တို့သည်။သခင်နှင့်တူပါလိမ့်မည်တိုင် အောင်၊ သခင်၏အသွင်းရွှေပုံတော်ကို၊ အကျွန်ုပ် တို့၏။နံ့ဝိညည်၌ကပ်ရိုက်တော်မူပါ။

ဆိုယ်းတောင်းတင်၊ ✠ (မျက်နှာ ၁၃၁)
ရင်ကြွ၍ပြောင်းစည်တွင်၊ရှုတ်ဆိုရအပ်
သောမေတ္တာ။

| | |
|---|---|
| Quis non posset contristari, | မိမိသားတော်ကို ကြည့်၍၊ ညည်းတွား ငိုကြွေး လျှက်ရှိ |
| Christi Matrem contemplari, | သော၊ မယ်တော်ကို၊ နှစ်လုံးမ ကျေမကွဲတဲ၊ မည်သူကြည့်နိုင် |
| Dolentem cum Filio. | ပါမည်နည်း။ |
| Sancta Mater.... | ငွှန်မြတ်သောမယ်တော်…… |

——00——

## VII

သတ္တမအခရပ်။

သခင်ယေရှုးသည်၊ နှစ်ကြိမ်မြောက်၊ လဲကြတော်မူ
သည်အခရပ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | မ။ အိုကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အားဦး ညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R Quia per sanctam crucem tuam redemisti mundum. | ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည် ကရုသူးအခါနုတော် အားဖြင့်၊ လူအပေါင်းတို့ကို၊ ရွေးချယ်တော်မူခဲ့ပြီး။ |

## ရဟန်းတပတ်ရှုတ်ရအပ်သောအချက်။

ကိုယ်တော်သည်။ အနာအရှား ဝေဒနာများ ကြောင့်တချက်။ သွေးရှိစီးခြင်းကြောင့်တသွယ်။ အသားတုန်နည်းပါး၍။ မြေပေါ်မှာ။ နှစ်ကျိုန်ပြောက်လဲကြတော်မူ၏။

မေတ္တာ။

အိုယေရှူး။ ကိုယ်တော်အနာအရှာခံတော်မူသောဒုက္ခအောင်မှာရင်။ အကျွန်ုပ်တို့အပြစ်ဒုပ မှိုသည်အလွန်လေးသော၊ ဝန်အောက်မှာရင်။ လဲကြတော်မူသည်။အထပ်ထပ်ကြိမ်ကြိမ်။ဖြစ်ပွားကျူးလွန်သဖြင့်။ ရှေ့မိတ်တော်ကို နာကြင်အောင်။ အကျွန်ုပ်ပြုပါပြီး။အိုသခင်၊အကျွန်ုပ်သည်။ ထပ်၍အပြစ်မကောင်းကို၊ပြုရအံ့လျှင်။ယခုပင်မျှတ်အသေခံလိုပါ၏။

မိုးသင်းတောင်းတင်၊ ✠ (မျက်နှာ ၁၇၁)
ရင်ကြွ၍ပြောင်းစည်တွင်၊ရွတ်ဆိုရအပ်
သောမေတ္တာ။

Pro peccatis suæ gentis,
Vidit Jesum in tormentis,
Et flagellis subditum.

မိမိအမျိုးအပြစ်များကြောင့်၊ ဒုက္ခရိုးဝိုးမျိုးကို ကျင့်ခံတော်မူလျှက် ရှိသော၊ ယေရှူးကို မြင်တော်မူသတည်း။

Sancta Mater....

မွန်မြတ်သောမယ်တော်......

# VIII

## အဋ္ဌမအရပ်။

### ယေရုသလင်မြို့သူမိန်းမတို့သည်။ နောက်တော်သို့ လိုက်၍၊ သခင်ယေရှုအပေါ်မှာ၊ ငိုကြွေးကြ သည်အရပ်။

V. Adoramus te Christe et benedicimus tibi.

မ။ အိုကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား ဦးညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။

R. Quia per sanctam crucem tuam redemisti mundum.

ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တရုသုံးအခါနုတော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူကဲ့ပြီး။

ရေဟန်းကာတော်ရှုတ်ရအောင်သောအချက်ကား။

မြို့သူတို့တွင်၊ မိန်းမတို့သည်၊ ထူးခြားအပူအပြင်းခံတော်မူသောယေရှုကိုမြင်ကြလျှင်၊ ကြင်နာဂရုဏာစိတ်အထူးသဖြင့်၊သက်၍၊ကိုယ်တော်ပေါ်မှာအထင်အရှားငိုကြွေးညည်းတွားကြ၏။မြို့တော်ပေါ်မှာဆဲဆဲရောက်ရအံ့သော၊ ဘေးဒါဏ်ကိုမျှော်မြင်တော်မူလျှင်၊ မွန်မြတ်သောထိုမိန်းမတို့ချက်နာလှည့်တော်မူ၍၊သမီးတို့၊ငါ့အတွက်ကြောင့်၊မငိုကြွေးကြနှင့်။သင်တို့အဖို့၊သင်တို့၏သားသမီးတို့အဖို့၊ငိုကြွေးကြလော့ဟုမြွက်ဆိုတော်မူသတည်း။

## မေတ္တာ

အိုယေရှုးသခင်၊ ကိုယ်တော်အရှင်ရှင်။ အကျွန်ုပ်တို့အရှင်ရှင်။ အကျွန်ုပ်တို့ဝိုကျေးခြင်းကိုအမြဲပူကြွအံ့၊ ကိုယ်တော်ခံရသောမဟာဒုက္ခစရိယာကြောင့်ရှင်။ မဟာဒုက္ခဘုရင်။ အကြောင်းရင်းဖြစ်ရာအကျွန်ုပ်တို့အဖြစ်များကြောင့်။ ရင်မညိတန်းခြင်းကိုကြင်ကြပါအံ့။ အိုသခင်၊ ဤမျက်မှောက်အခါတွင်၊ ကိုယ်တော်ကိုပြင်ပယ်သောသူတို့ခံရအံ့သောဒါဏ်မှအကျွန်ုပ်တို့ကင်းလွတ်မှ၊ သက်သာရာကိုတွေ့ထိုက်အောင်။ ဝိုကျေးခြင်းစိတ်ကို၊ အကျွန်ုပ်တို့အားသွင်းတော်မူပါ။

မိုဃ်းကောင်းကင်၊ ✠ (မျက်နှာ ၁၇၁)
ရင်ကြွ၍ပြောင်းစည်တွင် ရွတ်ဆိုရအပ်
သောမေတ္တာ။

| | |
|---|---|
| Vidit suum dulcem Natum, Moriendo, desolatum, Dum emisit spiritum, | အသသင်တော်လွတ်တော်မူသည့်ကိုင်အောင်။ ကျေကွဲနှစ်လိုးတော်ရှိတော်မူသောသားတော်ကိုမြင်တော်မူ၏။ |
| Sancta Mater.... | မွန်မြတ်သောမယ်တော်…… |

# IX

## နဝမအခရပ်။

## သုံးကြိမ်မြောက်လဲကြတော်မူသည်အခရပ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | ဖ။ ခရိတရိသျှတုး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ ဦးညွတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum; | ဗ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တရုသူးအာနုတော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူကဲ့ပြီး။ |

ရဟန်းတဗတ်ရွတ်ရအခပ်သောအချက်ကား။

ကိုယ်တော်မြတ်သည်။ကာလွှဝါရိတောင်ပေါ်သို့ရောက်လုပါသည်။ တရုသူးတကျင်၌သတ်ထားခြင်းကိုခံတော်မူရအံ့သောအရပ်သို့ ရောက်တော်မမူမှီ၊အားမရှိအားကုန်ပါသောကြောင့်။ သုံးကြိမ်မြောက်ကြလဲတော်မူသတည်း။သို့သော်လည်း၊အာဏာသားတို့သည်။ ဂရုဏာမဲ့ရက်စက်သောစိတ်ဖြင့်၊ ကိုယ်တော်မြတ်သို့ တွန်းထိုးရိုက်နှက်ဆွဲငင်လေကုံသေး၏။

မေတ္တာ။

အိုယေရှုးအကျွန်ုပ်တို့သခင်၊နာကြီးလှ၍သုံးကြိမ်

ပြောက်သော။ ထိုလဲခြင်း၏ခဟာ ဘုသိုလ်အားဖြင့်၊ အကျွန်ုပ်တို့ကအဖန်ဖန်မိုက်မှားရာတို့ကိုငင်။ အကျွန်ုပ်တို့မိုက်မှာရာ၌တ ချည်ငွာနေခြင်း ကိုကညာလွှတ်တော်မူပါ။ ငင်ဖြင်၊ တိုဒုက္ခစရိယာတို ဆင်ချင်အောင်းမေ့သဖြင့်။ ကျူးလွန်ဖြစ်မှားသမျှကိုအကျွန်ုပ်တို့သည်၊ တနေ့ထက်တနေ့စက်ဆုတ်မုန်း ထား ရှုံရှာနိုင်ပါမည်။

မိုယ်း‌တောင်းတင်၊ ✠ (မျက်နှာ ၁၃၁)

ငင်ကြွေ၍ ပြောင်းစည်တွင်ရှုတ်ဆိုရအခ်

သောပေတ္တာ။

| | |
|---|---|
| Eia Mater, fons amoris, | ချစ်ခြင်းလှာသော မယ်တော်၊ ကိုယ်တော်နှင့်အတူ။ အကျွန်ုပ် |
| Me sentire vim doloris, | ငိုကြွေးထိုက်အောင်၊ ပူပန်းခြင်း ဒုက္ခတို့၊ ခံစားနိုင်အောင်ငင်၊ ပြု |
| Fac ut tecum lugeam. | တော်မူပါ။ |
| Sancta mater.... | မွန်မြတ်သောမယ်တော်...... |

———oo———

# X

## ဒသမအခရင်။

## သခင်ယေရှုး၏အဝတ်လုံတော်ကိုချွတ်ကြသည့်အခရင်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | မ။ အိုကရိသ္တုတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ ဦးညွှတ်ရှိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum. | မ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တရူသူးအာနုတော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူခဲ့ပြီး။ |

### ရဟန်းကဖတ်ရွတ်ရအပ်သောအချက်ကား။

အသက်တော်ကိုပူဇော်တော်မူအံ့သောအခရင်သို့ ဆိုက်ရောက်တော်မူလျှင်၊ အာဏာသားတို့သည်။ သခင်ယေရှုးကိုတရူသူးတကျင်၌ ရိုက်သတ်ထားကြအံ့ဟူ၍အစပြုကြလို့၏။ ဒါလာရာဒါလာချက်မှ ရှိစိမ်းသောသွေးအားဖြင့်၊ ကိုယ်တော်မြတ်၌ကပ်သောအဝတ်ကိုဆွဲဖြုတ်ယူကြသည်ဖြစ်၍၊ အလွန်စင်ကြယ်သောကိုယ်သည်။ မတ်တကြည့်နေသော၊ ရုတ်မာသောသူတို့၏အရှုတ်အချအကဲ့အရဲ့များကိုခံတော်မူ၏။

# XI

## ဝေါဒသာမအာရပ်။

### တရုသူးတကျင်ပေါ်မှာ၊သခင်ယေရှုးကို၊သံမှူးနှင့် လက်ချောဝေါကိုရိုက်သည့်အာရပ်။

| | |
|---|---|
| V. Adoramus te Christe et benedicimus tibi. | မ။ အိုကရိသျှတူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ ဦးညွတ်ရှိခိုးကိုးကွယ်ကြပါသည်။ |
| R. Quia per sanctam crucem tuam redemisti mundum. | ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တရုသူးအာနုဘော်အားဖြင့်လူအပေါင်းတို့ကိုရွေးချယ်တော်မူကဲ့ပြီ။ |

### ရဲဟန်းက ရွတ်ဖတ်ရအပ်သောအချက်ကား။

သည်အရပ်မှာအာနာသားတို့သည်။ တရုသူးတကျင်ကိုမြေ၌ချထားကြ၍။ အသက်တော်ကိုလွှတ်တော်မူရအံ့သော၊ ဤတံဆာပေါ်မှာ၊ သခင်ယေရှုးကို၊ပက်လက်ဆွဲလှဲချည်းထားကြ၏။ ထိုရောအခါ၊ လူအပေါင်းတို့အတွက်ကြောင့်။ကြိန်ရာဒါဏ်ချက်အနာအဆာနှင့်ပြည့်သောမိမိကိုယ်တော်ကို ဘုရားသခင်အား။ပူဇော်တော်မူ၍။ ရုတ်ဖွယ်သောတရုသူးတကျင်၌ရိုက်သတ်ရအံ့သော၊ဤကိုယ်တော်ကိုလည်း၊အာဏာသားတို့အား၊ အပ်ပေးတော်မူ၍။ချွေ

ခြေဖဝါးတို့တွင် သံရိုးတို့ ရိုက်နှက်ကြ၍။ ပြီးပါ ပြီး။ အသေသွေးတော်ထွက်သည်ပေါက်တော်မူပြီးပါ၏။

## မေတ္တာ။

ထက်ချင်ပေါ်မှာတွဲလွဲနေတော်မူသော၊ အိုယေရှုး သခင်။ ကိုယ်တော်၏ကရုဏာသုံးခြေရင်း၌ မက္ကာစိတ် နှစ်လုံးဖြင့်။ အမြဲတွယ်အောင်ကာယ်မ်တော်မူ၍။ ဘ ဝမက္ကာအသက်ထက်ဆုံး။ ကိုယ်တော်နှင့်ပေါင်း ရှင်လျှက်နေပြီးမှ၊ အကျွန်ုပ်တို့၏ဝိညဉ်ကိုရွေသက် တော်၌အဝ်နိုင်ရပါမည်ဟု အကျွန်ုပ်တို့တောင်း လျှောက်ကြပါ၏။

မိုင်းတောင်းကင်၊ ✠ (မျက်နှာ ၁၂၁) ရင်ကြွ၍ပြောင်းစည်တွင် ရှုတ်ဆိုရအပ် သောမေတ္တာ။

| | |
|---|---|
| Sancta Mater istud agas, | ခွန်ဖြတ်သောမယ်တော်၊ ကရု သုံး၌တွဲတော်မူသောယေရှုး၏ |
| Crucifixi fige plagas, | ဒါဏ်ရာဒါဏ်ချက်များကို၊ အ |
| Cordi meo valides. | ကျွန်ုပ်နှစ်လုံးတွင်၊ သံမှိုကဲ့သို့ စွဲမြဲပါစေသော။ |

# XII

## ဒွါဒသမအခရင်။

## သခင်ယေရှုးသည်တရူသ်ပေါ်မှာ၊အသက်တော်ကိုလွှတ်တော်မူသည်အခရင်။

V. Adoramus te Christe et benedicimus tibi.

မ။ ခရိတ်ရှိသျှုရေး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ ဦးညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။

R. Quia per sanctam crucem tuam redemisti mundum.

ဖ။ အကြောင်းမူကား၊ ကိုယ်တော်သည်၊ တရူသ်အခါနုတော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူတော့ပြီး။

## ရဟန်းတဖတ်ရွတ်ရအပ်သောအချက်တား။

သခင်ယေရှုးသည်၊လက်နှစ်ဖက်အားဖြင့်၊ ၃ နာရီတိုင်အောင်၊ တရူသ်နှဲတွဲလွဲနေတော်မူခဲ့ပြီး။ အခယွေးတော်သည်။ ဝန်းကျင်ရှိမိုးသဖြင့်။ တကိုယ်လုံးတွင်ချွေးချောင်းအဖြည့်ရှိ၏။ မြေကြီးပေါ်မှာလည်းအနန္တအပြားရှိ၏။အတိုင်းမသိကြီးစွာသောဒုက္ခကိုခံတော်မူရာတွင်၊ လူသတ်တို့ပေါ်မှာဆုတောင်းတော်မူတဲ့ပြီး။စိတ်တောင်းသွင်းမိ၍။ အတူခံရသောသူကို၊ ယေလသက်ထိုအလကိုရှင်ကြင်ချမ်းသာကိုက်ကိုမူ ပေါ်ရချက်မယ်တော်ကိုပြုစ်သေသတပြည်

# XIII

## ဧတရသအရပ်။

## တကၠသူးပေါ်က အလောင်းတော်ကိုချ၍၊ မယ်တော်သခင်မရင်ခွင်ပေါ်မှာ၊ တင်ထားကြည်သည့်အရပ်။

V. Adoramus te Christe et benedicimus tibi.

R. Quia per sanctam crucem tuam redemisti mundum.

မ။ ဒိုတရိသျှူး၊ အကျွန်ုပ်တို့သည် ကိုယ်တော်အား၊ ဦးညွှတ်ရှိခိုးကိုးကွယ်ကြပါသည်။

ဗ။ အကြောင်းမူကား၊ ကိုယ်တော်သည်။ တကၠသူးအာနုဘော်အားဖြင့်၊ လူအပေါင်းတို့ကို ရွေးချယ်တော်မူကဲ့ပြီး။

### ရဟန်းရွတ်ဖတ်အပ်သောအချက်ကား။

ငယ်သားအစုတို့သည်။ ကလ္လဝါရိတောင်ပေါ်ကဆင်း၍ကုံကြပြီး။ ညှိုးငယ်ပူဆွေးနာကြီးလှသောမယ်တော်၏စိတ်ကိုဖြေသက်သာချင်သောငှါ။ အထူ[illegible]စ်တော်မူသော တပြည့်မှစ၍ ယေရုသလင်မြို့ကသူတော်မများသာနေရစ်ကြ၏။ အာရိမတေယျမြို့သားဂုဇယ်နှင့်၊ နိကောတေမူးနှစ်ယောက်တို့သည် အလောင်းတော်ကိုတကၠသူးပေါ်ကချ၍။ မယ်တော်သခင်မရင်ခွင်ပေါ်တင်ထားကြ၏။

မေတ္တာ။

သမုဒ္ဒရာနှည်တူ၊ ကြယ်ဝန်းသော ပူဆွေးညှိုးငယ်

ခြင်းဝေဒနာကို ခံတော်မူသောအိုမယ်တော်။ ပြင်ထန်စွာသောထိုဝေဒနာဒုက္ခကုသိုလ် အကျိုးဆက်တွင်ပါဝင်အောင်မစတော်မူ၍ အကျွန်ုပ်တို့၏နှမ်းရှိရာကိုသနားစွာပြုတော်မူပါ။ တပြည့်တော်ဖွင်နှင့်မခြား။ အကျွန်ုပ်တို့ကိုသာများကဲ့သို့မှတ်တော်မူပါ။ အကျွန်ုပ်တို့၌မယ်တော်ဖြစ်တော်မူပါ။ ကိုယ်တော်၏သားတော်ဖြစ်တော်မူသောယေရှုးမြတ်သည်၊ အကျွန်ုပ်တို့ဆုတောင်းသောအသံကိုနားယူတော်မူပါသည်၊ ဖြစ်စေသတည်း။

မိုယ်ကောင်းကင်၊ ✠ (မျက်နှာ ၁၇၁)

ငင်ကြွ၍ပြောင်းစည့်တွင် ရွတ်ဆိုရအခါ

သောမေတ္တာ။

| | |
|---|---|
| Fac me tecum pie flere, | မယ်တော်နှင့်အတူ။ဘာသက်လုံး၊ ငိုကြွေးအောင်၊ |
| Crucifixo condolere, | ကရုသုး၌ရှိသူတကွ၊ ကြင်နာအောင်၊ |
| Donec ego vixero. | အကျွန်ုပ်တို့ကိုမစတော်မူပါ။ |
| Sancta Mater.... | မွန်မြတ်သောမယ်တော်...... |

ရမည်၊ အလိုရှိစိတ်တော်ရှိရာပြည့်စုံပါလေစေ။ အပြစ်ရှိရှုက်မသောအကျွန်ုပ်တို့ကိုယ်ခန္ဓာက၊ အမိရင်းမြေသို့ပြန်ဝင်ပါစေ။ ဂရုဏာသနားခြင်းစိတ်ကိုသက်တော်မူသောမဟာသခင်၊ မဂေသတတ်သောအကျွန်ုပ်တို့နံ့ဝိညည်ကိုလက်ခံတော်မူပါဖြစ်၍။ ကရွာကိုလျှင်လျှင်း၊ အကျွန်ုပ်တို့ကိုယ်ခန္ဓာသမြောက်ရှင်ပြန်သောကာလ၊ ကိုယ်တော်အသားအဆဲလဲဆက်သောမကား ပြုအားလိုင်ပါ။ သုကရွှေနိုင်ငံတော်မှာ၊ ထိုကိုယ်ကိုသိမ်းယူတော်မူပါ။

မိုးသင်းကောင်းကင်၊ ✠ (မျက်နှာ ၁၇၁)

ငင်ကြွ၏ပြောင်းစည်တွင်ရွတ်ဆိုရသည်

မေတ္တာ။

| | |
|---|---|
| Juxta crucem tecum stare,<br>Et me tibi sociare,<br>In planctu desidero. | ကိုယ်တော်နှင့်တကွ၊ ယုတဒိုကျွေးလျှင်၊ တရုသူးမြေရင်၌၊ နေလိုပါသည်။ |
| Sancta mater.... | မွန်မြတ်သောမယ်တော်...... |

V. Christus factus est pro nobis obediens usque ad mortem,

R. Mortem autem crucis.

ကရိသျှတူးတော်သည်၊ ငါတို့အတွက်၊ အသေခံခြင်းမကာ၊ ကရုသူးပေါ်မှာအသေခံခြင်းတိုင်အောင်၊ အစေအပါဖုံ၊ ရွက်ထမ်းတော်မူပြီး။

OREMUS.

Respice, quæsumus, Domine, super hanc familiam tuam, pro qua Dominus noster Jesus Christus non dubitavit manibus tradi nocentium, et crucis subire tormentum.

ဆုတောင်းကြစို့၊

အိုဘုရားသခင်။ ကိုယ်တော်အိမ်သူအိမ်သားများဖြစ်သော၊ ဤလူ့ရုအမှို့ငါ၊ သခင်ယေရှုးသည်ငဲ့ကွက်ခြင်းမဲ့၊ မိမိကိုယ်တော်ကို၊ လူဆိုးများလက်မှာ၊ အပ်နှံတော်မူ၍၊ ကရုသူပေါ်မှာ ပြင်းစွာသောအသက်သတ်ခြင်းကို ခံတော်မူကြောင်းအောင်းမေ့တော်မူ၍ သူတို့ကို၊ ကြည်ညိုစွာထောက်မတ်တော်မူပါ။ဟူ၍အကျွန်ုပ်တို့လျှောက်ပံ့ကြပါသည်။



# EPISTLES AND GOSPELS,

FOR ALL SUNDAYS AND MOST NOTABLE FEASTS THROUGHOUT THE YEAR.

*Translated into Burmese by a Catholic Missionary.*

တနင်္ဂနွေနေ့၊ ပွဲနေ့ကြီးတို့လျှင်မိသာအမှုတော်တွင်
ဖတ်ရသောကျမ်းထုတ်စကားစာ။



BASSEIN:
CATHOLIC MISSION PRESS.

BY ALEX: WILLIAMS, 1867.

THE

# EPISTLES AND GOSPELS

FOR

THE SUNDAYS AND PRINCIPAL FESTIVALS THROUGHOUT THE YEAR.

ခရိသျှတောင်တို့သည်။ တရားဟောရာတွင် ဖတ်ရသည့်။ ကျမ်းစကားကို။ မြန်မာဘာသာဖြင့်ပြန်ပြောပေအံ့။

———oOo———

## FIRST SUNDAY OF ADVENT.

အာဒဝင်တူး။ပဌမတနင်္ဂနွေနေ့။

### Epistle. Rom. xiii. 11—14.

သံပေါလ်လူး ရောမား မြို့သားတို့အား ရေးထား သောဆုံးမစာမှနုတ်သော စကားတည်း။

ညီအစ်ကိုယ်တို့။ ငါတို့အိပ်ပျော်ရာမှထွက်နိုးရမည့် အချိန်နာရီနီးချေပြီ။ အသိပင်ဖြစ်ကြသည်၊ ငါတို့တရားတော်ကိုယူ၍။ ယုံမှတ်စသည့်ကာလထက် ယခုလွန်မြတ်သောလွတ်ခြင်းချမ်းသာကိုခံရမည့်အခါနီးချေပြီ။ ညဥ့်အချိန်ကုန်ခါနီး၍။ နေ့အခါရောက်အံ့ဆဲဆဲရှိပြီ။ မိုက်မည်းသောအကျင့်များကိုပြစ်ပါယ်ကြကို။ အလင်းအကျင့်လက်နက်တို့ကို။ ဝတ်စားတံဆာကဲ့သို့ ဆောင်ရွက်ကြစို့။ နေ့အချိန်တော်လျော်သင့်

တင့်သည်နှင့်အညီအလျောက်။ရိုသေစွာ သွားလာ
ကျင့်ကြစို့။အကြောင်းမသင့်စားသောက်ချင်းတို့၌။
မကြူးမလွန်ကြနှင့်။ အိပ်ရာ၌ ဆိုးယုတ် ညစ်ညမ်း
မလျောက်ပတ်သောအမှုအကျင့်မပါစေနှင့်။ ညင်း
ခုံအပြစ်ရှာ၍ ဂုံးတိုက်ချုပ်ချယ် မနာလိုအောင် ပြု
ခြင်းအမှုတို့၌ လည်းကြည်ရှောင်ကြလေ။ငတို့သခင်
ယေရှုးခရိသျှတူးအကျင့်အလေ့များကို ကိုယ်၌ အ
ဝတ်ကဲ့သို့အမြဲဆောင်ရွက်ဝတ်ကျင့်ကြကုံ။

## Gospel. Luke. xxi. 25—33.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုအခါ၌သခင်ယေရှုးတပည့်တော်တို့ကို။ ဤသို့
အမိန့်တော်ရှိသည်။တနေ့သ၌။ နေ လ ကြယ် တို့၌
အထွေထွေအမှတ်ရှိလမည်။ ဤမြေကြီး၌ လူမျိုးတို့
သည်။ပင်လယ် လှိုင်းတံတိုးပုတ်ခတ်ပြင်းစွာမည်သံ
ကျားလျှင်။မငြိမ်မသက် ကြောင့်ကြခြင်း ရှိလမည်။
တကမ္ဘာလုံး ရောက် ဖြစ်ဆဲ အံ့ရ သော ဘေး များ
ကြောင့်။လူတို့သည် အထူးသဖြင့် ကြောက်လန့်ညှိုး
နွမ်းခြင်းရှိကြလမည်။ မိုဃ်းကောင်းကင် တံဆာတို့
သည်မိမိနေရာမှ ရွေ့လျော့လမည်။ ထိုအခါ၌တိမ်
ရံလျက် အာဏာဘုံး တံခိုး အာနုဘော် တော်ဖြင့်
ဆင်းလှာလူသားတော်ဟူသောသခင်ကို လူအပေါင်း
တို့မြင်ရတော့မည်။ ထိုအကြောင်း အရာများ ဖြစ်စ

ကာလမှ ချစ်သားတို့ကို ကယ်နှုတ်မည် ။ အချိန်နီး ပြီး ဖြစ်သောကြောင့် ။ ငေါင်းမော်၍ အထက်သို့ ကြည့်ကြပါတော့ ။ ဤအချက်များကို ခရိသျှတူး သခင်မိန့်တော်မူပြီးမှ ။ ဥပမာပုံစကားကိုဟောတော် မူပြန်သည် ။ တဥ်ပင်နှင့်အချားသစ်ပင်တို့ကိုကြည့် ရှုကြတော့ ။ အဖူးအပွင့်အသီးထွက်လျှင်နေပူသည့် ဥတု ဝင်ခါနီး ပြီး သိရသည် ။ ထိုအတူ ငါ်ဟောပြော သည့် အရာများ ဖြစ်သည်ကို တွေ့မြင်လျှင် ဘုရား သခင်၏ နိုင်ငံတော် ရောက်ရသော အချိန်နီး ပြီးဟု မှတ်ကြပါတော့ ။ ငါအမှန် ဆိုသည်ကား ။ ငါဟော ပြောလေသမျှ အကုံအစင် မရောက်မှီ ။ ယခုရှိသော ဤလူတို့ တသက် မပြောင်းမလွဲရ ။ မိုဃ်း မြေ တို့ ပြောင်းလွဲရှိလမည် ။ ငါ၏နှုတ်မြွက်လေသမျှမူကား မလွဲနိုင် ။ ချစ်သားတို့ ။

## SECOND SUNDAY OF ADVENT.

### အာဒဝင်တူး။ ဒုတိယတနင်္ဂနွေနေ့။

### Epistle. Rom. xv. 4—13.

သံပေါလ်လူးသည်၊ ရောမားမြို့သားတို့အားရေးထားသောဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သည်းခံခြင်းနှင့် ကျမ်းစာတို့၌ရသော ဝမ်းမြောက်ခြင်းဖြင့်မျှော်လင့်ခြင်း မရွေးမနုတ်စွဲနိုင်မည် အကြောင်း။ ရေးမှတ်လျက် ရှိသောကျမ်းစကားအပေါင်း ငတို့အတို့ ဆုမ္မသွံသင်ရံရေးမှတ်ထားလျက်ရှိပြီး။ သည်းခံခြင်းနှစ်လုံးဝမ်းမြော်ခြင်းတို့ကို ပေးတတ်သော ဘုရားသခင်။ သခင်ယေရှူးခရိသ်ျတူးတရားတော်နှင့်အညီ။ သင်တို့အချင်းခြင်းစိတ်အယူ၌တလုံးတဝတည်းရှိမည်အကြောင်း။ ငါတို့သခင်ယေရှူးခရိသ်ျတူးခမည်းတော်ဘုရားကိုလည်း။ စိတ်နှုတ်တလုံးတည်း ရှိသလေးမြတ်မည်အကြောင်း။ ငါတို့သခင် ယေရှူး ခရိသ်ျတူးသည်။ ဘုရားသခင် ဂုဏ်အသရေ တော်ကိုဆင်ခြင်၍သင်တို့ကိုထောက်ပံမစ အကျိုးရှာထော်မူ သကဲ့သို့။ အချင်းချင်း ထောက် ပံမစခြင်းကို ပြုကြကုံ။ ရှေးဘိုးဘေးတို့အားဗျာဒိတ်တော်ချသည့်အချက်အမှံအကံဖြစ်အောင်ဘုရားရှင် ဟုတ်မှံသော နှုတ်တော်ထွက်နှင့်အညီ။ ရွေးမှတ်သော လူမျိုးတို့အားယေရှူးခရိ

သျှတူးဟောပြောဆိုမှုသွံ့သင်္ဂါတော်မူကြောင်း။သင်တို့ကိုငါဖေါ်ဖွင့်ရသည်။ဇင်တီးဦးတို့သည်ကား၊ဘုရားသခင် ကယ်မသနားတော်မူခြင်းကို၊ ရေးမှတ်လျက်ရှိသည်နှင့်အညီ၊ရှိသေလေးမြတ်ကြပါကုံ ။ ကျွမ်းအချက်သည်ကား။ ထိုအကြောင်းဖြင့် အကျုန်ုပ်တို့ဘုရားသခင်သည် ဇင်တီဦးတို့အလယ်တွင်၊ ငါ၏ကျေးဇူးတော် ထင်ရှားစွာပြု၍။ နာမတော်မြတ်ချီးမွမ်းထောမနာဖြင့်။စည်းဝေးရွတ်ဟောပါမည်။သည်မှတပါးရေးမှတ်လျက်ရှိသည်။ဇင်တီဦးတို့၊ဘုရားရှင်မြတ်နိုး သော လူမျိုးတို့အား အတူတကွ အားရနှစ်သက်ခြင်းရှိကြပါလေ့၊တကြောင်းမှာ။ ဇင်တီဦးအပေါင်းတို့။ ဘုရား သခင် အာနုဘော် တော်ကိုကျော်ဇောထင်ရှားပြုဆောင်ကြကုံလော။အမျိုးတကာ လူ မျိုး တို့ ကျေး ဇူး တော် မြတ် ကို ချီး မြှောက်ထောက်စားကြကုံလော။ အိသျှအိယလည်းတချက်ကို၊ဤသို့ဟောပြောသည် ။ ယဲသဲမှ၊အညွန့်အမြစ်ပေါ်ထွက်၍။ အမျိုးတကာ လူမျိုးတို့ကို အုပ်စိုးစီရင်လမည် ။ ထိုလူမျိုးအပေါင်း တို့လည်း၊ ဤသခင်၌မြော်လင့်စောင့်ရှောက်ခြင်းရှိလမည်။ အိသပိရစ်တူးသံတူး ပေးသနား တော်မူသော တံခိုးအား စောင့်ရှော်ခြင်းတို့သင်တို့၌ ပြည့်ဝခိုင်လုံစွာခံရမည်အကြောင်း သင်တို့မြော်လင်ခြင်း။အာစအမြစ်ဖြစ်တော်မူသော ဘုရားသခင်သည် သင်တို့ယုံကြည်ခြင်း၌အားရဝမ်းမြောက်ခြင်း၌ပြည့်ဝကုံစင်စွာသနားတော်မူပါစေ။

## Gospel. Matt. xi. 2—10.

### သံမာဲတဲအုးရေးထားသောကျမ်းထုပ်စကား တည်း။

ထိုအခါ၊ခရိသျှတူးသခင်ပြုသော တံခိုးကျေးဇူး တော်အကြောင်းကို။ နှောင်အိမ်ထဲက ဖွင်သည်သ တင်းစကား ကြားရပြီးလျှင်။ မိမိ တပည့်နှစ်ပါးကို စေ၍။သခင်ယေဇူးကို ဤသို့လျှောက်စေသည်။ အ ရှင်ဘုရား။ ကြွလာရမည်သခင်လော။ သို့မဟုတ်။သ ခင်ပြင်တချားသူကိုစောင့်ငံ့ရမည်လော။ သခင်ယေ ဇူးလည်းထိုသူတို့အား ပြန်ကြားတော်မူ၏၊သင် တို့ပြ သွား၍ ကျားရာမြင်ရာသော အရာများကို ဖွင်အား ပြောဆိုကြတော့။ မျက်စိကံးသသူတို့ ပကတိမြင်ရ သည်။ခြေမစွန်းသသူတို့ရောဂါကင်း၍ သွားလာနိုင် ကြသည်။ နူဲသသူတို့လည်းအကျေးအညှော်စင်၍ သန့်ရှင်းစွာဖြစ်ကြလေသည်။ နာပင်းသသူတို့လည်း နားကြားပြီသည်။ သေလွှန်သသူတို့လည်းရှင်ပြီကြ သည်။ဆင်းရဲသသူတို့ကိုလည်း။ ဧဝံဂျေလိတရားကို အမြဲဟောပြောရသည်။ငါ၌ဖြစ်ပျက်ရအံ့သောအ ရာများကြောင့်မဆုပ်မရွှေမလျော့သသူသည်အလွှန် ပင်ကောင်းလေ၏။ ထိုတပည့်နှစ်ပါးတို့ဆရာဆီသို့ ပြန်သွားစဉ်တွင်၊သခင်ယေဇူးသည်၊ ဖွင်၏အကြောင်း မှစ၍။ ပရိသတ်တို့ကို ဤသို့မြွက်ဆိုတော်မူသည်။ သင်တို့၊မည်သည်အရာကိုကြည့်ရှုရမည်ဟု။ တော

ဂန္တာရသို့ထွက်သွားကြသနည်း။ လေလါတိုင်းလှုပ်သည်ကြူပင်ကိုလော။ သို့မဟုတ်၊ မဉ်သည့်အရာကိုကြည့်ရှုရမည်ဟုထွက်သွားသနည်း။ နူးညံ့သောအဝတ်ဘိုဝတ်သောသူကိုလေါ။ နူးညံ့သောအဝတ်ကိုဝတ်ဆင်သောသူတို့သည် မင်းကြောရာဇ်တို့နန်းတွင်နေကြသည်။ ထိုကြောင့် အဘယ်အရာကို မြင်မည့်အကြံနှင့် ထွက်သွားသနည်း။ ပရောဖက်တတပါးလော။ ငါသင်တို့ကို မြွက်ဆိုသည် အချက် မှံလှချေသည်။ ထိုပရောဖက်တတို့ထက် ဖွင်မြတ်ပေသည်။ သင်ချစ်သားမျက်နှာရှေ့။ သင်အတွက်လမ်းအပြင်အဆင်သကြားကို ငါစေ လွှတ်ပါမည်ဟု။ ကျမ်းတွင်ရေးမှတ်လျက်ရှိသော အချက်သည် ဖွင်ပင်ဆိုလေတော့သည်ဟူ၍ မိန့်တော်မူသတည်း။

———————oOo———————

THIRD SUNDAY OF ADVENT.

အာဒဝင်တူး။ တတိယတနင်္ဂနွေနေ့။

Epistle. Philip. iv. 4—7.

သံပေါက်လူး ဖိလိပိမြို့သားတို့အား ရေးထားသောဆုမ္ဘစာမှနု တ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ဘုရားသခင် အမှု တော်၌ နှစ်သက် ရွှင်လမ်း ခြင်းနှင့် အစည်မပြတ် နေကြကုံလေါ။ အသစ်တဖန်ငါမှာထားသည့်နှစ်သက်ရွှင်လမ်းခြင်းနှင့်ရှိကြကုံလေါ။ ဘုရားသခင်သည်အနီးအပါး

၌ရှိတော်မူသောကြောင့်။ လူအပေါင်းတို့ရှေ့၊ သင်တို့ငြိမ်းသက်ရာခြေချုပ်တည်းခြင်းကို အထင်အရှားရှိပါစေသော။ မည်သည့်အမှုအရာကြောင့် စိတ်နှောင့်ယှက်ခြင်းမရှိစေလင့်။ မည်သည့်အနေမရွေးဘုရားသခင်ကျေးဇူးတော်ချီးမွမ်းခြင်းပါသောဆုတောင်းပတ္တနာတို့ဖြင့် သင်တို့တောင့်တအလိုရှိရာများတို့သည် ဘုရားသခင်ရှေ့မှောက်ရောက်ပါစေ။လူတို့ စိတ်တောင့်တအောင်းမေ့ခြင်းရှိလေသမျှထက်။ လွန်ကဲတက်တိုးသောဘုရားသခင်မှဖြစ်လာသော ငြိမ်းဝတ်စွာနေခြင်း။ သခင်ယေရှုခရစ်သျှတူးကျေးဇူးတော်ဖြင့် သင်တို့၏စိတ်နှစ်လုံးတို့ကိုအမြဲစောင့်မလျက်ရှိနေပါလေစေ။

## Gospel. John. I. 19—28.

သံဗ္တင်ရေးထားသော ကျမ်းထုပ်စကားတည်း။

ထိုနေ့သည်၌ ယုဒဒေဦးတို့ ဇေရုသလင်မြို့က။ ဗ္တင်ဆီသို့ ဗ္တင်၏အကြောင်းကို မေးရအောင်။ ရဟန်းများနှင့်လေဝိတာတို့ကိုစေလွှတ်ကြသည်။ သခင်မည်သူနည်းမေးသော်။ဗ္တင်က တည့်တည့်ရှိုးရှိုးမထိမ်မဝှက်လင်းလင်းပြောသည်။ ကျွန်ုပ်ခရိုသျှတူးမဟုတ်ပါ။ သခင်ခရိသျှတူးမဟုတ်လျှင် အဘယ်ဗိုင်လ်နည်း။ ဧလိယားလော၊ မေးပြန်သော်။ ဗ္တင်ပြန်၍ပြောသည်။ ကျွန်ုပ်ဧလိယားမဟုတ်ပါ။ ဧလိသား မဟုတ်လျှင် သခင်ရောက်ဖောက်တလော။ ထပ်၍ မေးပြန်လျှင်။

မဟုတ်ပါဟု ဖွာင်ကပြောဆိုသည်။ တဖန် သူဟို့က လျှောက်ပြန်သည်၊ သခင်မည်သူနည်း ။ ငါတို့ကိုစေ လွှတ်သောသူတို့အား ကျွန်ုပ်တို့သည် ပြန်လျှောက် နိုင်အောင်၊ သခင်သည် ကိုယ်ကို အဘယ်သို့ဆိုသ နည်း။ ဖွာင်ကကျွန်ုပ်သည်တချားမဟုတ်။ ပရောဖက် တ အိသျှအိယဟောပြောသည့်နှင့်အညီ။ ဘုရားသ ခင်၏ လမ်းကို ဖြောင့်မတ်စွာ ပြင်ဆင်ကြ တော့။ တောကြီးအရပ်၌ ကျွေးကျော်သံ အသံ တခု သာငါ ဖြစ်သည်။ စေလွှတ်သောသူတို့ကား၊ ဖာရိရှဲ အနွှး အစုက ဖြစ်ကြသည် ။ ထို ကြောင့် ထပ် လောင်း၍ မေးလျှောက်ပြန်သည် ။ သခင်သည်ခရိသျှတူး၊ဧလိ ယား၊ ပရောဖက်တ၊မဟုတ်လျှင် ။ အဘယ်ကြောင့် သူတပါးတို့အားရေနှင့်သွန်းသနည်း ။ ထိုသို့အမေး ရှိလျှင်၊ ဖွာင်က ဆိုလိုက် ပြန်သည်။ ကျွန်ုပ်မှာရေနှင့် လူတို့ကိုဆေးကြောသည်။သင်တို့အလယ်တွင် သင် တို့သည်မသိသောသခင်တပါးရှိသေးသည်။ ထိုသခင် သည် ကျွန်ုပ်နောက်မှ လာရမည် ရှိညားသော်လည်း ။ အကျွန်ုပ်ထက် အလျှင်ကြီးမြင့်မြတ်သည်ဖြစ်၍၊ထို သခင်၏၊ ချေနင်းတော်ကြိုးကိုမျှ ကျွန်ုပ်မဖြေထိုက်။ ယခုပြောသည့်အရာများကို ဇောရဒါန်မြစ် တဖက် ဘေတာနိယတွင်၊ ဖွာင်သည်လူတို့ကို ရေသွန်းသည် အရပ်မှာဖြစ်လေသည်။

## FOURTH SUNDAY OF ADVENT.

## အာဒဝင်တူး။ စတုတ္ထတနင်္ဂနွေနေ့။

### Epistle. I. Cor. iv. 1—5.

သံပေါက်လူး ကောရင်တီး မြို့သားတို့အား ရေးထားသော ဆုမ္ဘစာမှ နုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ လူအပေါင်းတို့သည်၊ သခင်ယေရှုးခရိသ္သျတူးအစေအပါ၊ ဘုရားသခင်ဂုဏ်ကျေးဇူးတော်တို့ကိုဝေငှပေးသောသူတို့ကဲ့သို့ငါတို့အားထင်မှတ်ကြပါစေကုံ ။ ယခုဝေငှသသူတို့တွင် ဖြောင့်မတ်စေ့စပ်သေချာစွာ မတိမ်းမယိမ်းမယွင်း ပြုသသူတို့တရေခံလိုလှသည် ။ သင်တို့သည်ဖြ ်စေ ။ အချားသသူတို့သည်ဖြစ်စေ ။ ငါကိုအထွေ အထူး စီရင်နိုင်မာသည်ကို၊ ငါသည် မလေးမစားမကြောက်မရွံ့။ ငါကိုယ်ကိုလည်းအလိုအလျောက် ၊ အပြီးငါသည့်မစီရင်ဝန့်။ ငါ၌အပြစ်တစုံတခုရှိကြောင်းကို၊ မဖေါ်မပြမှန်၏ ။ သို့ရှိရာတွင်၊ ငြိငြိအပြစ်ကင်း စေသည် ၊ ငါသည်မထင်မဆိုဝန့်။ ဘုရားသခင်သည် အကျွန်ုပ်ကိုအစီရင်ဖြစ်တော်မူ၏ ။ ဤသို့ဖြစ်သောကြောင့် အနှံမတိုင်မှီ၊ ဘုရားသခင်သည် မကြွလာမှီ၊ အပြီးသူတပါးကိုပြစ်တင်စီရင်ခြင်းမပြုကြနှင့် ။ ကြွလာစည့်တာလ၊ ယခုမှောင်အတိ၌ ဖုန်းအုပ်လျက် ရှိသောအရာတို့ကို အလင်းတွင် ပွင့်ပွင့် ထင်ထင် ပြ

လမည်။ စိတ်၌ထိမ်ဝှက်သိုမှီး၍၊ သူတပါးသည်အ
လျှင်းမသိနိုင်သောအောင်မေ့ခြင်းတို့လည်း၊ ထင်
ရှားပွင့်လင်းပြုလမ့်။ ထိုကာလ လူအပေါင်းတို့သည်
ထိုကဲ့သော ချီးမွမ်းခြင်း အကျိုးကို ဘုရားသခင်ရှေ့
တော်၌ခံကြရလမည်။

Gospel. Luke. III. 1—6.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

တိဘေရိအုဿဘုရင်ချုပ်နန်းစံသည့်တဆယ့်ငါးနှစ်
တွင်း။ ပုံတိအုဿ ပိလာတုဿသည်၊ ဂျူဒေဦးနိုင်ငံကိုအုပ်
စိုးသည့်ကာလ။ ဂါလိလေအပြည့်ဟေရုဒ်သည်၊ မင်း
ပြုသည့်ကာလ ။ အိတူရေအားနှင့် တရာခေါနိဒ်ခါး
ပြည်၌ ဟေရုဒ်မင်းညီတော် ဖိလိပ်မင်းလက်ထက်။
အာဗိလိနားပြည့်တွင်လိသာနိယသည် မင်းပြုသည့်
အခါ။ အံနားနှင့် ကာဖါ ရဟန်းတော်အကြီးတို့
သည့်ရှိစည့်ကာလ။ ကန္တာရတောကြီး၌ ဇာကာရိယ
သားတော်ဖွာင်ကို၊ ဘုရားသခင် ဗျာဒိတ်တော် ရှိသ်။
ဗျာဒိတ်တော်နှင့်အညီ၊ ဇောရဒါန် မြစ်နား၌ ရှိသည့်
အရပ်မှာ၊ ဖွာင်သည် ကြွလာလျှင်။ အပြစ် ငရဲ တို့ကို
စင်ကြယ် လွှတ်ကင်း စေခြင်းငှါနောင်တတရားနှင့်
စပ်ဆိုင်သော ရေနှင့်ဆေးကြောခြင်းကိုဟောပြော
သ်။ ထိုကဲ့သို့တနေ့သည်ဖြစ်လတ္တံ့သောပရောဖက်
တအိသျှဒိယ ကျမ်းစာတွင် ရေးမှတ်လျက်ရှိသည့်
ပါသည် အချက် မှာ ။ ကန္တာရ တော ကြီး၌၊ ကျေး

ချောင်သော အခါသိမှာ။ ဘုရားသခင်သည် ပြေလာရမည့် လမ်းကိုပြင်ဆင်၍၊ ဖြောင့်မတ်စွာ လုပ်ဆောင်ကြ လော့။ ချိုင့်ဝှမ်းသည် အရပ်တိုင်းကိုညီညွတ်ရမည်။ မြင့်သည့်တောင်ကုန်းတို့ကိုလည်း နိမ့်စေတော့ရမည်။ ကြမ်းတမ်ကောက်ကွေ့သည့် လမ်းတို့ကိုလည်း၊ ချော မောပြေပြစ်ဖြောင့်မတ်စွာဖြစ်ရမည်။ လူတို့ကိုကယ် ချွတ်နိုင်သော ဘုရားသခင်က စေလွှတ်သော သခင် ကိုလည်း။ သတ္တဝါအပေါင်းတို့သည် မြင်ရတော့မည်။



CHRISTMAS DAY.

FIRST MASS. AT MIDNIGHT.

သခင်ယေရှုး ခရိသ္တုတူးသည့် ပေါက်ဖွါးသည့် နာတာလူးပွဲ ညည့်သံခေါင်အချိန်။

Epistle. Tit. ii. 11—15.

သံပေါက်လူးတိတုကိုဆုမ္မသည့်စာမှနုတ်သော စကားတည်း။

အလွှန်ချစ်သား၊ ဘုရားသခင် ငတို့အားကယ် ချွတ်သော သခင်၏ ကျေးနပ်တို့အား ဆုမ္မပြသတော်မူ လျှင်၊ ကျေးဇူးတော်မြတ်သည့် လူအပေါင်းတို့ရှေ့ ထင်ရှားစွာဖြစ်သည်။ ဆုမ္မတော်မူချက်သည်ကား၊ ငါတို့စောင့်ငံ့သော လွှန်မြတ်သော စည်းစိမ်ချမ်းသာ ကို မျှော်လင့်ခြင်း ကြီးမြင့်မြတ်သော ဘုရားသခင်

ကျွန်ုပ်တို့ကို ကယ်နှုတ်သော သခင်ယေရှုခရစ်သျှ
တူး ကြွလာမည့်နေ့ကို တောင့်တခြင်းဖြင့်။ မဟုတ်မ
မှန်ကိုးကွယ်ခြင်း၊ ဤလောကန္တလည်း၊ လူတို့မကောင်း
သော တပ်မက်မောခြင်းကို ပြစ်ပါယ်ရ၍။ ဤလော
ကန္တ၊ တော်လျော်သင့်တင့် ရိုးရိုးဖြောင့်မတ်ရှိ သော
လေးမြတ်ခြင်းဖြင့် ကျင့်ဆောင်ရမည်။ ဆုမွှပြသ
တော်မူသောအချက်တည်း။ ဤသခင်သည်ကား၊ ငါ
တို့၌မကောင်းယုတ်မာသော အရာရှိလေသမျှတို့ကို
နှုတ်လွှတ်ခွါသန့် ဆေး ကြော၍ မျက်စိတော်နှင့်
တော်လျော်နှစ်သက်လောက် သော ကောင်းမှုအ
ကျင့်၌ ချည်းကပ်သော လူမျိုး ဖြစ်စေလို သော စိတ်
တော်ဖြင့်သူ၏ကိုယ်တော်မြတ်ကို၊ ငါတို့အဘို့ပေး
သနားတော်မူသောသခင်တည်း။ ဤအချက်တို့သည်
ငါတို့ သခင် ယေရှုး ခရိ သျှ တူး မျက်နှာတော်ကို
ထောက်၍ ဟောပြောတိုက်တွန်းနှိုးဆော်ပါလော့။

## Gospel. Luke. II. 1--14.

သံလူကားရေးထားသည့်ကျမ်းထုပ်စကားတည်း။

ထိုကာလ။ အဦးကူသျှတူး။ ဘုရင်ချုပ်သည်၊ အုပ်
ချုပ်သောမြေအပြင်၌ပြည်နိုင်ငံတိုင်းသို့လူအပေါင်း
တို့အားစာရင်းယူရမည်အမိန့်တော်ရှိ၏။ ထိုစာရင်း
ကိုသိရိယပြည်ကို စီရင်သောစိရိနူသည်၊ အလျှင်း
ရှေးဦးစွာယူရသည်။ ထိုကြောင့်၊ ပြည်သူဟူလေသ
မျှ ဇာတိရင်းမြို့ ရှိရာမြို့သို့အသီး အသီး မိမိစာရင်း

ပေးရအောင်သွားလျှင်။ ဇူဇယ်သည် ဝါဝိဒ်အမျိုး
အနွယ်ဖြစ်၍၊ မာရိယား အမည်ရှိသော ထိမ်းမြား
လက်ထပ်သည့်ခင်ပွန်းနှင့်၊ နှစ်ပိုက်လျက်၊ ဂါလိလေ
အနိုင်ငံတွင်၊ နာဇရက်ခေါ်သည့်မြို့မှထွက်၍၊ ဇူဒေ
အားနိုင်ငံ၌၊ ဗက်သလင်အမည်ရှိသောဝါဝိဒ်မြို့ကို။
ကိုယ်ရှင်စာရင်းပေးရအောင်လာကြသည်။ ထို
အရပ်ရောက်ကြသော် မာရိယားသခင်မသည် မီး
ဖွါးမည့်နေ့လစေ့၏။ သားဦးပေါက်ဖွါး၍၊ ပုဆိုးအ
ဝတ်နှင့်ပိုက်ထုပ်ပြီးမှ၊ အရပ်တည်းခိုရာမရနိုင်
သောကြောင့်၊ နွားတို့သည် စားခွက်စားချင်းတွင်၊
သူငယ်ကိုသိပ်ထားသည်။ ထိုအရပ်၌၊ သိုးကျောင်း
သသူတို့သည်ညဉ့်အခါ မအိပ်ဖဲသိုးတွေကိုအလဲလဲ
စောင့်နေကြသည်။ စောင့်နေရာတွင်၊ ထိုအရပ်သို့
ဘုရားရှင်ကလွှတ်သည့်သကြားသည်ရောက်၍၊ ပတ်
ဝန်းကျင်၌၊ ဘုရားသခင်၏ဘုန်းတော်အရောင်အဝါ
ထွန်းတောက်သည်။ ထိုအရောင်တော်ကို၊ သိုး
ကျောင်းတို့သည် မြင်လျှင် အလွန်ကြောက်ရွံ့ကြ၏။
သကြားမင်းလည်း၊ ဤသို့အမိန့်တော်ရှိသည်။ မ
ကြောက်မဗိုးရိမ်ကြပါနှင့်။ လူအပေါင်းတို့အား
ကြီးစွာနှစ်သက်ဝမ်းမြောက်ဝမ်းသာခြင်းစကားကို
ပြောလာပါသည်။ ဝါဝိဒ်မြို့မှာ လူအပေါင်းတို့ကို
ကယ်ချွတ်နိုင်သည်တဉ်းဟူသော ခရိသျတူး သခင်
သည်သင်တို့အဖို့အလို၌၊ ယနေ့ညဉ်တို့တွင် ပေါက်
ဖွါးသည်။ အမှတ်လက္ခဏာမှာ၊ နွားတို့သည်စားခွက်

ဘေးချင်းနှ၊ အဝတ်မိုက်ထုပ်လျက် သူငယ်ကိုတွေ့ တော့မည်။ ဆိုပြီးမှ၊ သကြားမင်းနှင့် အတိုင်းမသိ မိုးသိကောင်းကင်ကသကြားတတ်တို့သည် အဖော် အပေါင်းပွဲကြီးစီရင်ကြသဖြင့်၊ ဘုရားသခင်ကို ချီး မွမ်းတော့ ထောမနာစည်းဝေးကြ၍၊ ဤကဲ့သို့ကျေး ကျော်ကြသည်။ မြင့်မြတ်သောမိုးသိကောင်းကင် အရပ်နှ၊ ဘုရားရှင်ကိုကိုးကွယ်ရှိသေလေးမြတ် ခြင်းအသည်မပြတ်ရှိပါစေ။ လောကတွင်လည်း ဖြောင့်မတ်သောသူတို့ညိမ်သက်စွာဘုရားသခင် ကျေးဇူးတော်ကိုခံရပါစေ။

## SECOND MASS. AT BREAK OF DAY.

သခင်ယေရှုးခရိသျှတူးသည်ပေါက်ဖွါးသည့် နှာတာလူးပွဲနေ့မိုးသောက်ယံ။

## Epistle. Tit. III. 4—7.

သံပေါက်လူးတိတုကို၊ ဆုမ္မသည့်စာမှနုတ်သော စကားတည်း။

အလွန်ချစ်သား၊ ဘုရားသခင်ငတို့အားကယ်ချွတ် သောသခင်သည် အလွန်ကောင်းမြတ်သောရွှေနှစ် လုံးတော်နှင့်လူအပေါင်းတို့အားချစ်ခင်စုံမက်ခြင်း စိတ်တော်အကြောင်းတို့သည်၊ ဤလောကတွင်ထွန်း တောက်လျှင်။ ငါတို့သည်အလျင်ကျင့်ဆောင်ဘူး သည့်တရားတော်နှင့်အညီကောင်းမှုကြောင့်မဟုတ်။

ကယ်မသနားတော်မူခြင်း စိတ်တော်နှင့်အညီ၊ အသင်လူ ပွါးစေ တတ်သော ရေနှင့် ဆေးကြောခြင်းနှင့် အထူးသဖြင့် အသစ်ပြင်ဆင်တတ်သောအဲသဗိရိတူး သံတူး ကျေးဇူးဖြင့်။ လွန်မြတ်သော ကျွတ်လွတ်ခြင်းချမ်းသာကို၊ ပေးသနားတော်မူသည်။ ထိုအဲသဗိရိတူး သည်ကား။ ငါတို့ကို ကယ်ချွတ်သော သခင်ယေရှု ခရိသ္ဘုတူး ကျေးဇူးတော်ဖြင့် ငါတို့၌ များစွာပျိုးမွှမ်းသွန်းတော်မူ၏။ အကြံတော်မှာ။သူ၏ ကျေးဇူးတော်ဖြင့်၊ငါတို့အဟုတ်အမှန် ဖြစ်၍ငါတို့၌ရှိသော စောင့်ရှောက်ခြင်းနှင့်အညီ၊ အစဉ်မကုံသောအသက်ရှင်ခြင်းချမ်းသာအမွေတော်ကိုခံနိုင်နိုင်မည်အကြံတည်း။

## Gospel. Luke. II. 15—20.

သံလူကားရေးထားသောကျမ်းမှထုပ်သောစကားတည်း။

ထိုအခါ၌၊ သိုးကျောင်းတို့သည်။ အခြင်းခြင်း ဤသို့ပြောဆိုကြသည်။ဘုရားရှင်သည်ငါတို့အားဖေါ်ပြတော်မူသော အံ့ဖွယ်ရာစကားကို အတတ်သိမြင်ရအောင်၊ဗက်သလင်မြို့သို့သွားအံ့ဟု တိုင်ပင်ပြောဆိုကြ၏ ။ ထိုသို့ တိုင်ပင်ပြီးမှ၊ အဆောတလျှင်လာကြ၍၊ မာရိယားနှင့်ဇူဇယ်ကိုင်န္တားတို့ စားခွက်စားချင်းတွင် သိပ် ထား လျက် ရှိသော သူငယ်ကိုရှင်တွေ့ကြလေ၏ ။ တွေ့ရမြင်ရလျှင်မှ၊ သကြား မင်း

ဟောပြောသည်နှင့်အညီ၊ မြတ်သောသူငယ်အကြောင်းမှန်လှသည်။ အချက်ကိုသိကြဂုသည်။ ထိုးကျောင်းကလည်း၊ ဤအချက်များကိုအချားသူတို့ကိုပြောဆိုလျှင်။ ထိုသူတို့ရှိလေသမျှအံ့အောနေကြကုန်သည်။ မာရိယားမှာထိုအရာဖြစ်လေသမျှကိုနှစ်လုံးထဲ၌စွဲ၍စေ့စေ့အောင်းမေ့၏။ ထိုးကျောင်းသူတို့လည်း၊ မိမိတို့အားဟောပြော၍ကြားရသည်နှင့်အညီတွေ့မြင်ပြီးမှ၊ သဒ္ဒါကြေးကွဲခြင်းစိတ်နှင့်ဘုရားရှင်ကျေးဇူးတော်ကို၊ အောင်းမေ့ပြောဆို၍ပြန်သွားလေကုံသတည်း။

THIRD MASS. IN THE DAY TIME.

ဘုရားရှင်ပေါက်ဖွါးသည်နာတာလူးပွဲနေ့။

Epistle. Heb. I. 1—12.

သံပေါက်လူးဘာသာဝင်ဇူဒေဦးတို့အားရေးထားသောဆုပ္ပစာမှနှုတ်သောစကားတည်း။

အခါတပါးအကြိမ်များစွာ၊အသွယ်သွယ်အနည်းနည်း၊ရှေးရှေးတော့ဘိုးဘေးတို့အားပရောဖက်တတို့နှုတ်ဖြင့်ဘုရားသခင်သည်ဟောပြော၍အဆုံးဌဲဤနေ့တို့တွင် ခပ်သိမ်းသောအရာတို့၌ မွေခံသွင်သော၊ ကာလတိုင်းတည်နေသောအရာရှိသမျှတို့ကိုဖန်ဆင်းခြင်း၌ခန့်ထားသောသူ၏သားတော်၏နှုတ်တော်ဖြင့်မိန့်ဆိုတော်မူ၏။ ဤသားတော်သည်ကား၊ ဘုရား

သခင်အာနုဘော်တော်၌ အရောင်တော်၊ ဘုရားရှင်
အဖြစ်တော်တွင်အတုသမျှသဏ္ဍာန်တော်ဖြစ်တော်
မူ၍ တံခိုးနှင့်ပြည့်စုံတော်မူသော မိမိအမိန့်တော်
အား ဖြင့် ခပ်သိမ်း သော အရာတို့ကို မစတော်မူ၍
ငတို့၌ ရှိသောအပြစ်ဟူသမျှကိုဆေးကြောသန့်ရှင်း
ပြီးမှ၊ အလွန်မြင့်မြတ်သောမိုဃ်းကောင်းကင်၌အာ
နုဘော်တော်လက်ျာဘက်မှ ထိုင်နေတော်မူသည်။
ထိုသူသည်ရသောနာမတော်သည်၊ သကြားတို့နာမ
ထက် အလွန်အ ထူး ကြီး မြတ် သကဲ့သို့ သကြားအ
ပေါင်း တို့ထက်လွန်၍မြင့်မြတ်သောသူဖြစ်တော်မူ
၏။ အကြောင်းမူကား၊ သကြားတို့တွင်မည်သည့်သူကို
မည်သည့်ကာလ၌ ဘုရားသခင်သည် ဤသို့အမိန့်
တော်ရှိဘူးသနည်း ။ သင်သည်ငါ၏သားတော်ဖြစ်
သည် ။ ငါသည် သင်ကိုယနေ့ပင်ဖွါးမြင်သည်။ တ
ချက်မှာလည်း။ ငါသည် သူ၏ အဖ၊ သူလည်းငါ၏
သားတော်ဖြစ်တော့မည် ။ အခြားသောကျမ်းတွင်၊
သူ၏သားဦးကိုဤလောက၌ သွင်း၍ဝင်စေသည့်ကာ
လ၊ဤသို့မြွက်ဆိုတော်မူသည်။ဘုရားရှင်၏သကြား
အပေါင်းတို့သည် ဤသူကို ကျိုးနွံကိုးကွယ်ပါစေ ။
ကျမ်းတနည်း၌လည်း၊ သကြားတို့သို့စကားလှည့်၍
ဤသို့ပါသည်။ ဘုရားသခင်သည်မိမိသကြားတို့ကို
လေကဲ့သို့ ၎င်း အစေအပါတို့ကို မီးလျှံကဲ့သို့ ၎င်းဖန်
ဆင်းတော်မူ၏။ သားတော်ကိုကား ဤသို့ဆိုတော်မူ
၍၊ ဘုရားသခင်ပလ္လင်တော်သည်၊ အစဉ်မကုန်နိုင်

အမြဲတည်နေရမည့် ပလ္လင်တော်ဖြစ်သည် ။ သခင်
အုပ်စိုးသောအရပ်နိုင်ငံတော်သည် ၊ ဂုဏ်သတ္တာန်
တောင်မွေးလည်း၊ ဟုတ်မှန်တော် ဖြောင့်သောတ
ရားတောင်မွေးထည်း။ တည့်မတ်တော်ဖြောင့်သော
အရာတို့ကိုချစ်လေးမြတ်လေသည်။ မကောင်းသော
အရာတို့ကိုလည်းမုန်းထားတော်မူသည်။ ထိုကြောင့်
အိုဘုရားသခင် ၊ သခင်၏ဘုရားရှင်သည် နှစ်လို့ဝမ်း
မြောက်ခြင်း အစဖြစ်သော တကွအ မွေခံ သသူ အ
ပေါင်းတို့အားအပေါ်သို့တင်ချီးမြှောက်သောလိမ်း
ကျံခြင်း ကိုယ်တော်ပေါ်၌ဖြန်းမွမ်းလေသည် ။ တ
ထွကျမ်း၌ဤသို့ညွှန်းပြသည်။ အိုသခင်၊ကိုယ်တော်
သည်ကမ္ဘာအဦး၌ မြေကိုဖန်ဆင်းတော်မူလေသ် ။
မိုဃ်းကောင်းကင်အရပ်ကိုလည်း စီရင်ဖန်ဆင်းတော်
မူပြီး ။ မိုဃ်းမြေတို့ပျက်စီးကုံစင်လမည် ။ သခင်သ်
ကား၊ ရပ်နေတော်မူလမည် ။ ထိုမိုဃ်းမြေတို့သည် ၊
နွမ်းဟောင်းသော အဝတ်တို့ကဲ့သို့ နွမ်းဟောင်းလ
မည်။ အဝတ်ကို လဲ့သကဲ့သို့သခင်သည် လဲ့တော်
မူလျှင် ပြောင်းလဲးကြလမည် ။ သခင်ဆိုင်ရာမှာအ
စဉ်မပြတ် မရွေမပြောင်း အတူတူချည်း ရှိလမည် ။
သခင်၏နှစ်အသက်တိုလည်းမကုန်နိုင်ရှိတော့မည်။

## Gospel. John. i. 1--14.

### သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ရှေးဦးစွာကနှုတ်ကပတ်တော်ရှိသည် ။ နှုတ်ကပတ်တော်မှာဘုရားသခင်တပါးအရင်းရှိသည် ။ နှုတ်ကပတ်တော်သည်ပင်ဘုရားသခင်ဖြစ်သည် ။ ထိုနှုတ်ကပတ်တော်သည် ရှေးဦးစွာဘုရားသခင်အပါး အရင်းရှိသည် ။ နှုတ်ကပတ်တော်မှာဖြစ်လေသမျှကိုဖန်ဆင်းတော်မူသည် ။ ဖြစ်လေသည့်အရာတိုင်းကိုနှုတ်ကပတ်တော်ကဖန်ဆင်းတော်မမူသည် တစုံတခုမျှမရှိ ။ ထိုနှုတ်ကပတ်တော်သည်အသက်နှင့်ပြည့်စုံ၏ ။ ထိုအသက်သည်လည်းလူတို့၏အလင်းဖြစ်၏။ အမိုက်တွင်ထိုအလင်းတော်သည်ထွန်းတောက်သည်။ တောက်သော်လည်း အမိုက်ကုန်အောင်မလင်းဖြစ်သည် ။ ဖွင့်အမည်ရှိသောသူမြတ်တပါးကိုဘုရားသခင်ကစေလွှတ်သည် ။ ဖွင့်မှာသက်သေသာခတေကဲ့သို့ဘုရားရှင်အလင်းတော်အကြောင်းကိုသက်သေခံ၍ လူအပေါင်းတို့ ယုံမှတ်မည့်အကြောင်းနှင့် ကြွလာသည်။ ဖွင့်သည်အလင်းတော်မဟုတ်။ အလင်းတော်၏အကြောင်းကိုသက်သေပြုမည့်အကြောင်းနှင့်ကြွလာသည် ။ ဟုတ်မှန်သော အလင်းတော်မူကား၊ ဤလောကဒ္ဓ၀င်လာသည့်လူဟူသမျှအပေါင်းတို့အားအရောင်အလင်းကိုပေးသနားတော်မူ၏။ ဤလောကဒ္ဓထိုသူသည်ရှိတော်မူ၏ ။ ကမ္ဘာကိုလည်း

ဧရင်ဖန်ဆင်းတော်မူလျှက် ဤလောကသည် ထိုသူကို
မသိမမှတ်၊ အစိုးပိုင်သောအရပ်သို့ ဘုရားသခင်သည်
ကြွလာလျှင်၊အဆွေအမျိုးညာတကာတို့သည်အဆီး
အခမကိုမခံ ။ တရားတော်ကိုယူသည်သူတို့ရှိလေသ
မျှမှာ၊နာမတော်မြတ်ကိုယုံကြည်လေးမြတ်၍၊လူအ
ပေါင်းတို့နည်းတူ၊ အသွေးအသားက၊ လူတို့နှစ်လုံး
က၊ ဖွါးသည်သားမဟုတ်၊ ဘုရားသခင်တံခိုးတော်
အားဖြင့်လူသစ်ဖြစ်၍၊ သားကဲ့သို့ ဘုရားရှင်အမွေ
တော်ကိုခံရအောင် အခွင့်ပေးသနားတော်မူသည် ။
ရွတ်ကပတ်တော်သည်ကိုယ်ပကတိလူကဲ့သို့အသား
တော်နှင့်အသက်တော်နှင့်ယှူတော်မူ၍ ၊ ကျွန်ုပ်တို့
တွင်တည်နေတော်မူသည် ။ အကျွန်ုပ်တို့သည်လည်း
ခမည်းတော်ကသားတော်ရင်းကဲ့သို့ဖြစ်၍၊တံခိုးအာ
နုဘော်တော် ဂုဏ်တော် ကျေးဇူးတော် ဟုတ်မှန်လှ
သော ညာဏ်တော်အပေါင်းနှင့် ပြည့်စုံသောသခင်
ကိုဖူးမြင်ရလေကုံသတည်း။

—— oo ——

## SUNDAY WITHIN THE OCTAVE OF CHRISTMAS.

### နာတာလူးပွဲနေ့နောက်တနင်္ဂနွေနေ့။

### Epistle. Gal. iv. 1—7.

### သံပေါလ်လူးဂါလတာမြို့သားတို့အားရေးထားသောဆုံမှစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့ ။ အမွေခံထိုက်သသူငယ်စဉ်မိဘတို့ဥစ္စာရှိသမျှကိုပိုင်လတန့်ရှိညားသော်လည်း၊ အစေအပါသူနှင့်မချားအတူဖြစ်သည် ။ အဖမှာထားသည့်ကာလ ရောက်သည် တိုင်အောင် အစောင့်အထိန်းဘဏ္ဍာစိုးလက်အောက် နေရသည် ။ ထိုအတူငါတို့ငယ်စည် ကမ္ဘာဦးသူတို့အတိုထားသောဆုံမှချက်တို့ကိုအောက်ခံကျင့်ဆောင်နေရသည်။ကာလနေ့တို့ကုန်စင်ပြီးမှ၊ရှေးရှေးတရားအောက်နေသသူတို့ကိုရွေးနှုတ်ရအောင်၊ မွေစားဖြစ်ရအောင်၊ မိမ္မတဦးအမွေးအသားမှ ဖြစ် သော အ ဟော င်း တ ရား အောခံခံနေလျှက်သူ၏သားတော်ကို၊ ဘုရားသခင်သည်စေလွှတ်တော်မူ၏။ သင်တို့သည်လည်းသူ၏သားဖြစ်သောကြောင့်အပ္ပအဖဟု ကျွေးကြော်သောမိမိသားတော်အိဿပိရစ်တူး သင်တို့စိတ်ထဲ၌စေသွင်းတော်မူ၏။ ထိုကြောင့်သင်တို့တွင်တရောက်မျှအစေအပါကဲ့သို့မဟုတ်သားအရာ၌ဝင်လေသည် ။ သားအရာဟုတ်မှန်ဝင်ပြီးမူကား ။ သခင်ယေရှုးခရိ သျှတူးကျေးဇူးတော်ဖြင့် ဘုရားသခင် အမွေခံ ဖြစ် တော့သည်။

## Gospel. Luke. II. 33—40.

### သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုအခါ၌ သခင်ယေရှုး၏အကြောင်းကိုဇုဇယ်နှင့်
မာရိယားသခင်ယေရှုးမယ်တော်သည်စိတ်ထဲစွဲး၍အံ့
အောသတ်နေကြသည်။ သိမေအောင်အမည်ရှိသော
ရဟန္တာသည်ဇုဇယ်နှင့်မာရိယားသခင်မတို့ဘို့မြတ်
သောမေတ္တာပြုပြီးမှ၊ မယ်တော်မာရိယားကိုလည်း
ဤသို့ ပြန်ပြောသည်။ ဤမြတ်သော သူငယ်သည်။
အီသရအဲလ်သားတို့တွင်အများဆုံးရှုံးခြင်းအ
ကြောင်း။ အများမြတ်သော ချမ်းသာ ရခြင်းအ
ကြောင်းဖြစ်ရမည်။ပြစ်သောစကတ်တစုံတခုကဲ့သို့သ
ခင်အာဏာကို လူတို့ပယ်ရှားဓိဆန်၍၊ ထိုကာလအ
များသသူတို့စိတ်တွင် ထိမ်ဝှက်သည်အကြံအစည်
သည်ပွင့်တော့မည်။ သခင်မလည်းနှစ်လုံးတော်ထဲ
၌သံလျက်ထုပ်ခြင်းထိုးသကဲ့သို့နာကြင်ခြင်းနှင့်ရှိ
ရှိတော့မည်။ အာရှယ်အစုကဖနုဧသွီးအံနားအမည်
သောပရောဖက်တဂုဏ်ရသည်မိမ္မမြတ်တပါးရှိ၏။
ထိုသူသည် အသက်တော်ကြီး၏ ။ သီလဆောက်
ပြီးမှထိမ်းမြားလက်ထပ်၍ ခင်ပွန်းနှင့် ၇နှစ်ပေါင်း
ဖက်နေရသည်။ ဤမြတ်သောမုတ်ဆိုးမ တဖန်အိမ်
မထောင်ဘဲ ၈၄နှစ် အသက် တော်တိုင်၍ ကျောင်း
တော်တွင် အမြဲမကွာ နေ့ညမပြတ်မလပ် ဝါရှောင်
ခြင်းဖြင့် သီလဥပုသ် ဇမ္ဗဋ္ဌာန်းဆောက်တည်၍ နေ
သည်။ မယ်တော်သခင်မသည်ကျောင်းတော်တွင်

ရှိသည်အချိန်ထိုမိဖ္မမြတ်သည် ရောက်လာလျှင်။ ဘုရားရှင်ကျေးဇူးတော်ချီးမွမ်း၍၊ ဤသရဒ်အဲလ် အမျိုးအနွယ်ကို ချွတ်လတန့်သည်သခင်ကို စောင့်ငံ့၍ နေသသူတို့ ရှိလေသမျှကို သခင်ယေရှုး အကြောင်းကို ဟောပြောလေသည်။ ဇူဇယ်နှင့်မာရိ ယားသခင်ယေရှုးမယ်တော်မှာ၊ ဘုရားသခင်၏ ပညာတတ်တော်နှင့်လျော်ဖွာစောင့်ရှောက်ပြီးမှ။ ဂါလိလေအားနိုင်ငံတွင် အမြဲနေသော နာဇရက်မြို့သို့ ပြန်ရလေသည်။ သူငယ်သှ်လည်းအသက်တော်တိုး၍ ကြီးသည်နှင့်အညီ၊ ညာဏ်တော်အပေါင်း တိုးပွါး၍ မြင့်မြတ်သော ဘုရားရှင် ဂုဏ်တော် ပြည့်ဂုံသည်ကိုမြင်ရလေဘုံသတည်း။

——00——

THE CIRCUMCISION.

ဝိရဘုံ့ဝိယောင်။ သခင်ယေရှုးကိုရှုဒေဦးတို့ထုံးစံရှိ တိုင်းဘာသာသွင်းသည်ပွဲနေ့။

Epistle. Tit. II. 11—15.

သံပေါက်လူးတိတုကိုဆုမ္ပသည်စာမှနှ တ်သော စကားတည်း။

သခင်ယေရှုခရိသျှတူးသည်ပေါက်ဖွါးသည် နာတာလူးပွဲညည့်သံခေါင်အချိန်။ မျက်နှာ ၁၂ စာကြည့်လေါ့။

## Gospel. Luke. II. 21.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း

ထိုအခါ၌၊သူငယ်ကိုပေါက်ဖွါးသည့်နေ့နောက်ရှစ်ရက်စေ့လျှင်။ ထုံးစံရှိထိုင်း ဘာသာ သွင်းရမည့်နေ့၌ ။ မယ်တော်သည်ဝမ်းခေါင်း၌ပဋိသန္ဓေမယူမှီ၊သကြားမင်းသည် မှည့်မှန်ခေါ်ဝေါ် ပြောလာသည့်နှင့်အညီလျော်စွာယေရှူးမှည့်မှန်ရကုံသည်။

——oo——

THE EPIPHANY.

ပညာရှိမင်းသုမ္ပားပွဲနေ့။

## Lesson. Isaias. lx. 1—6.

ဒိသျှအိယပရောဖက်တကျမ်းမှထုပ်သောစကားတည်း။

ဩဇေရုသလင် ထပါလော ။ ထွန်းဝင်းခြင်းကိုခံပါလော။ သင့်အရောင်ဖြစ်တော်မူသော သခင်သည်ကြွလာပြီး ။ ဘုရားရှင်အာနုဘော်တော်သည်သင့်အပေါ်၌ပေါ်ထွန်းချေပြီး ။ မြေအပြင်၌ ရှိသမျှအရပ်တို့ကိုမှောင်အတိသည်ဖုံးအုပ်လမည်။ ဧဝ်သိမ်းသောလူမျိုးတို့ အပေါ်၌ မိုက်မှောင်ပြာစီးသွားလမည် ။ သင့်အပေါ်၌မူကား ၊ ဘုရားသခင်သည် အစပေါ်ထွန်းလာ၍၊ ဘုံးအာနူဘော်တော်သည်သင့်အလယ်၌ထင်ရှားပြလမည်။သင့်အရောင်အလင်းသို့လူမျိုး

တို့သည်ခရီးကိုပေါက်ရောက်တော့မည်။ သင့်အလယ်
၌ဖွါးသောသခင်၏အရောင်တော်နောက်သို့ မင်းဧ
ကရာဇ်တို့သည်လိုက်ကြတော့မည်။ သင့်မျက်စိမော့
၍ လေးမျက်နှာပတ်လည် ကြည့်တော့။ ၎ပ်သိမ်း
သောသူတို့စုရုံးလျက် သင့်ဆီသို့ လာကြကုံသည်။
သင်၌ သားအရာသို့ဝင်ရအောင်၊ အဝေးမှအချို့သ
သူလာကြသည်။ သင့်သ္မီးအရာသို့မြောက်အောင်၊
လေးမျက်နှာအရပ်ရပ်မှ ပေါက်ရောက်ကြကုံသည်။
ရေးမှတ်ထားသောအချိမ်၌ ၊ အတိုင်းမသိ အခုတ်
အခုတ်သဲသဲများစွာလူအတွေကို မြင်ရလမည်။ ပင်
လယ်နား၌ ရှိသောအတိုင်းမသိ လူအတွေတို့သည်
သင့်ဆီသို့ယိမ်းလဲမည့်ကာလ။ လူမျိုးတို့တွင်ဘုန်း
အာဏာကြီးသောသူတို့သည် သင်နှင့်အကျွမ်းဝင်လာ
မည့်ကာလ၊ သင့်နှစ်လုံးသည်၊ အံ့အောသတ်ရွှင်မြူး
ဝမ်းမြေံ့ခြင်းအပြည့်ရှိလမည်။ ကုလားအုတ်ကြီး
နှင့်မာဒိအံအဲဖျ ကုလားအုတ်ငယ်အတွေများစွာသည်
သင့်အရပ်၌ပြားမွှမ်း၍ရှိလမည်။ သာဗာအရပ်၌ရှိ
လေသမျှ လူအပေါင်းသည် လာကြ၍ ဘုရားသခင်
ဘုန်းကြက်သရေတော် ထင်ရှားစွာ ပြုလိုသောစိတ်
နှင့်ပူဇော်ရန်ရွှေ၊ လော်ဗန်၊ အမွှေးအကြိုင်ကိုဆောင်
ယူလာတော့မည်။

## Gospel. Matt. ii. 1—12.

### သံမာတယ်အူးရေးထားသောကျမ်းထုတ်စကားတည်း။

ဟေရုဒ်မင်းလက်ထက်၊ ယုဒအစုတွင်တည်ထောင်ရှိသောဘဲသလင်မြို့၌ သခင်ယေရှုသည်ဖွားမြင်ပြီးမှ။ အရှေ့ပြည်က၊ မင်းပညာရှိတို့သည်ဇေရုသလင်မြို့သို့ရောက်လာ၍၊ ဤသို့မေးကြသည်။ ဖွားမြင်သောယုဒေအူးတို့မင်းဘောရာဇ်သည်အဘယ်မှာရှိသနည်း။ ဤသခင်၏အမှတ်ကြယ်ထလုံးကို အရှေ့ပြည်မှာငါတို့သည်မြင်ရသောကြောင့်ရှိခိုးပူဇော်ရောက်လာကြသည်။ ထိုစကားကိုကြား၍ ဟေရုဒ်မင်းနှင့်ဇေရုသလင်တမြို့လုံးသည် နှစ်လုံးမသာ ရှိကြသည်။ ဟေရုဒ်မင်းလည်း၊ ယုဒေအူလူမျိုးတို့တွင်ရဟန်းအကြီးတို့နှင့်ပညာရှိဆရာရှိသမျှတို့ကိုစုရုံး၍ အဘယ်အရပ်၌ ခရိသျှတူးသည် ဖွားမြင်အံ့နည်း မေးမြန်း၏။ ထိုရဟန်းပညာရှိဆရာတို့ကလည်း၊ ယုဒအစုတွင်တည်သောဘဲသလင်မြို့၌ ဖွားလသည်။ ဟေရုဒ်မင်းအား ပြန်ကြားပေ၏။ အကြောင်းသည်ကား၊ ဣသရအဲလ်လူမျိုးတို့အားစီရင်ခန့်ထားမည့် သခင်ဂေါင်းအကြီးသည်ဘဲသလင်မြို့က ပေါ်ထွန်းလမည်။ ထိုကြောင့် ယုဒပိုင်တိုက်သည်မြေ၌ တည်သော ဤဘဲသလင်မြို့သည်၊ ယုဒမြို့ကြီးတို့တွင်၊ မြို့တကားအောံ အငယ်မဟုတ်ချေ။ ပရောဖက်တ ကောါးကျမ်းတွင်ရေးထားသော

အကြောင်းတည်း ။ ထိုအခါ ယောရှဒ်မင်းသည်၊ မင်းပညာရှိတို့ကိုမထင်မရှားခေါ်၍၊ ထိုမင်းတို့သည်မြင်ရသည်ကြယ်ပေါ်ထွန်းသည့်အချိန်ကိုအစေ့အစပ်မှတ်သား၏။ ထိုမင်းများကိုဘဲသလင်မြို့သို့သွားစေ၍၊ ဤသို့မှာထားသည် ။ သွားကြ၍ တော့၊ ဖွားသည့်သူငယ်အကြောင်းကိုလုလ္လပြု၍မေးဘုံ ။ တွေ့သည့်ကာလငထံသို့ပြန်လာ၍ ။ ငါသည်လည်း ထိုသူငယ်ကိုရှိခိုးပူဇော်မည့်အကြောင်းတုံ စကား ကြားရောက်ပါစေကုံ ။ မင်းပညာရှိတို့သည်လည်း၊ ယောရှဒ်မင်းသည့် ပြောဆိုသ်စကားကို နားခံပြီးမှ ထွက်သွားကြလေ၏ ။ ထိုအခါ အရှေ့ပြည်၌အလျှင်မြင်သောကြယ်သည် သူငယ်ရှိရာသို့ ရောက်၍ အပေါ်၌ ရပ်လျက်နေသည်တိုင်အောင် ထိုပညာရှိတို့ ရှေ့က လမ်းညွှန်၍ သွားလေသည် ။ ဤသို့ကြယ်ကိုမြင်လျှင် အလွန်ဝမ်းမြောက် ဝမ်းသာခြင်းနှင့် ရွှင်မြူးကြကုံ၏ ။ နေရာအိမ်သို့ဝင်လျှင် သူငယ်နှင့်မယ်တော်မာရိယားကိုတွေ့မြင်၍ ညွှတ်ပြတ်လျက်ရှိခိုးကုံ၏ ။ မိမိတို့တွင်ပါသောသစ်တာတို့ကို ဖွင့်လှစ်၍ ရွှေ၊လော်ဗန်၊မိရား အမွှေးအကြိုင်ကိုပူဇော်ဆပ်လှူကြလေသည်။ နောံထိုပညာရှိတို့သည်အိပ်စည်တွင် ယောရှဒ်မင်းဆီသို့ မပြန်သင့်ကြောင်း ဗျာဒိပ်တော်ခံရပြီမှ၊ မိမိတို့ပြည်ရှိရာလမ်းတချားဖြင့်ပြန်သွားကြလေကုံ၏။

——oo——

## FIRST SUNDAY AFTER EPIPHANY.

## မင်းသုမ်းပါးပွဲနေ့နောက်ပထမတနင်္ဂနွေနေ့။

### Epistle. Rom. XII. 1—5.

သံပေါက်လူး ရောမားမြို့သားတို့အားရေးထားသောဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့သည် ဘုရားသခင်ကိုညာဏ်နှင့်လျော်စွာ ကိုးကွယ်ရိုသေလေးမြတ်သည်နှင့်အညီ။သန့်ရှင်းတောင်းမြတ်သော၊ဘုရားသခင်နှစ်သက်ဖွယ်သော ၊ အသက်ရှင်သော ယဇ်သကဲ့သို့ မိမိကိုယ်ခန္ဓာကို တင်လှူပူဇော်ရမည်အကြောင်းကို သင်တို့သည် ခံရသော ဘုရားသခင်၏ ကယ်မတော်မူခြင်း ကျေးဇူးတော်ကို ထောက်သဖြင့် ၊ ငါသည် သင်တို့အား များစွာ နှိုးဆော် တောင်းပန်းလေသည် ။ ယခုဤလောကတွင် လူတို့စိတ်အလိုရှိသ၍နည်းတူမလိုက်ကြနှင့် ။ အလွန်ကောင်းမြတ်သောအရာ ၊ သဒ္ဒါတော်မူသောအရာ ။ စုံလင်သောအရာတည်းဟူသော ဘုရားသခင် အလိုတော်ကိုသိမြင်နိုင်မည် အကြောင်း နှစ်လုံး၌ ကြံစည်စွဲမြဲခြင်း အသစ်တဖန် ပျင်ဆင်ရအောင် လုလ္လသတိပြုကြကုံ ။ မိမိနဂိုရ်ထက် သာလွန်၍ကြီးမြင့်ခြင်းနှစ်လုံးမရှိအောင်၊ ယုံမှတ်ခြင်း၌အသီးအသီး ဘုရားသခင်မှ ခံရသော ကျေးဇူးတော်အလျောက် တော်သင့်အောင်စိတ်နှစ်လုံးစွဲမည်အကြောင်း ငါသည် ခံရသော ဂုဏ်ကျေး

ဏူးအရောနှင့် လျော်စွာသင်တို့တွင် ရှိသော သူတို့ ရှိလေသမျှ မည်သူမခွဲမခြမ်း တိုက်ဘွန်းချီးပင့်ပါသည် ။ ဥပမာကား၊ တကိုယ်တည်း၌အင်္ဂါများနှောရှိ၍ ၊ ထိုအင်္ဂါအပေါင်းတမှုတည်းမဆောင်မရွက်သကဲ့သို့၊ ငါတို့အများရှိညားသော်လည်း ၊ သခင်ယေရှုးခရိ သျှတူး၌ တကိုယ်ပြင်မရှိ ။ တရောက်ငီအချင်းချင်းမှုကား ၊ အင်္ဂါချင်းဖြစ်ကြတော့သည်။

Gospel. Luke. II. 42—52.

သံလူကားရေးထားသောကျမ်းတုပ်စကားတည်း။

သခင်ယေရှုးသည်၁၂ နှစ်အသက်အရွယ်ရှိသော အခါ ။ ပွဲနေ့ထုံးစံရှိသည်နှင့်အညီ၊မိဘတို့သည်ဇေရုသလင်မြို့သို့ကြွလျှင်၊ပွဲနေ့များကုန်ပြီးမှ။မြို့ရွာသို့ပြန်သွားရာတွင်။ မိဘတို့သည်သတိမရှိ၍ သူငယ်သခင်ယေရှုးသည် ဇေရုသလင်မြို့၌ရှိရစ်သည် ။ အဖော်ချင်းများနှင့်အတူ၊ သခင်ယေရှုးသည်ပါသည်ထင်မှတ်၍ တနေ့ခရီသွားပြီးမှ၊ အဆွေအမျိုးအသိတို့တွင်သူငယ်သားတော်ကိုရှာကြလေသည်။မတွေ့မရ၍ပြန်လာလျှင် ဇေရုသလင်မြို့၌တဖံရှာပြန်လေသည် ။ သုံးရက်စေ့မှ ကျောင်းတော်တွင် ပညာရှိကျမ်းတတ်တို့အလယ်တွင် ထိုင်နေ၍ ၊ နားထောင်မေးမြန်းစူးစမ်းလိုက်တွေ့လေသည် ။ သူငယ်ညာဏ်တော်အစွမ်းနှင့် ပြန်ပြောသည်အချက်များကို နားထောင်သသူရှိလေသမျှသည် အံ့အောသတ် နေရ

သည်။ မိဘတို့သည်လည်းမြင်ရလျှင် အံ့အောသင့်နေရသည်။ မယ်တော်သည်လည်း၊ဤသို့ပြောဆိုသည်။ ချစ်သားအဘယ်ကြောင့်ဤကဲ့သို့ငတို့ကိုပြုသနည်း။ ငါနှင့်အဖသည် ညှိုးငယ်သောစိတ်နှင့် ချစ်သားကိုရှာလာပါသည်။သခင်ယေရှုးသည်ပြန်ပြောသည်။ အဘယ်ကြောင့်ငတို့ရှာကြသနည်း ။ ခမည်းတော်ဘုရားအမှုတော်ကို အားထုပ်၍ငါသည်နေရမည်ကိုမသိကြလော ။ မိဘတို့မှာ သားတော်ပြောဆိုသည်အချက်မြားကိုနားမလည့်ရှိသည်။ ထိုအခါ၌သခင်ယေရှုးလည်း၊မိဘတို့နှင့်အတူပြန်လာ၍နာဇရက်သို့ရောက်လျှင်၊ မိဘတို့စကားကို ထင်ပုံတခုမျှမယိုမယွင်းနားထောင်လေသည် ။ မယ်တော်မှာ သားတော်သည်မြွက်ဆိုလေသမျှကို စိတ်နှစ်လုံးထဲ၌ အမြဲသိုထားသည် ။ သခင်ယေရှုးသည်လည်း အသက်တော်တိုး၍ကြီးသည်နှင့်အညီ၊ဘုရားသခင်ရှေ၊လူတို့ရှေ့ညာဏ်တော် ဂုဏ်တော် အပေါင်းတို့သည်လည်း တိုးပွားပြည့်စုံလေသည်။

——oo——

## THE OCTAVE DAY OF EPIPHANY.

။မင်းသုမ္ဘားပွဲနေ့မှဂရက်အလွန်တွင်။

### Lesson. Isaias lx. 1—6.

အိသျှအိယပရောဖက်တကျမ်းမှထုတ်သောစကား
တည်း ။ ပညာရှိမင်းသုမ်းပါးပွဲနေ့။
မျက်နှာ ၂၅ ခါကြည့်လေ့။

### Gospel. John. i. 29—34.

သံဇွာင်ရေးထားသောကျမ်းထုတ်စကားတည်း။

ထိုကာလ။ဇွာင်သည်ရှိရာသို့ သခင်ယေရှုးသည် ကြွလာသည်ကိုမြင်လျှင်။ ဤသို့ဆို၏။ လူအပေါင်းတို့အပြစ်ကိုကယ်နှုတ်သော ဘုရားသခင်၏ သိုးသငယ်ကို ကြည့်ရှုကြပါတော့ ။ အလျှင်ငါပြောသည်နှင့်အညီ၊ သခင်တပါးသည်ငါ၏ နောက်မှ ဖွားညားသော်လည်း ငါမရှိမှီအလျှင်ရှိသောကြောင့် ငထက်အကြီးအမြတ်ဖြစ်သော သခင်သည် ၊ ဤသခင်ပင်ဖြစ်တော့သည်။ ငါသည်လည်းဤသခင်ကိုအလျှင်းမသိ ။ အိသရေအဲလ် လူမျိုးတို့အား ဤသခင်၏ အကြောင်းကိုသိစေလို၍၊ ငါသည်ရေဖြင့်လူတို့ကိုသွန်းလာသည်။ ဇွာင်သည်သက်သေခံ၍ပြောဆိုသည်မှာ။ ဝိညာဉ်တော်သည်ကောင်းကင်မှကျိုးငှက်ကဲ့သို့သက်လာ၍ အပေါ်မှ ပျံဝဲနားသည်ကိုငါသည်မြင်ရသည်။ ငါအလျှင်ဤသခင်ကိုမသိ။ လူတို့အားရေဖြင့်သွန်း

စေခြင်း၌၊ ငါကိုစေလွှတ်တော်မူသောသူက ဤသို့
အမိန့်တော်ရှိသည်။အကြင်သူ၏အပေါ်၌ ဝိညာဉ်
တော်သဉ်ကောင်းကင်မှဆင်းသက်၍၊ တည်နေသည်
ကိုသင်သည်မြင်လျှင်။ ထိုသခင်သည်အဓိစပိရိတူး
တံခိုးအားနှင့် ရေသွန်းသောသခင်ပင်ဖြစ်သည်ဟု၊
အမိန့်တော်ရှိသည်အတိုင်း ငါသည်မြင်ရသဉ်။ဤ
သခင်သည်ဘုရားရှင်သားတော်ဖြစ်ကြောင်းကိုငါ
သည်အသိသက်သေပင်ဖြစ်တော့သည်။

——*oo*——

SECOND SUNDAY AFTER EPIPHANY.

မင်းသုမ္ပါးပွဲနေ့နောက်တုတိယတနင်္ဂနွေနေ့။

Epistle. Rom. xii. 6—16.

သံ့ပါက်လူးရောမားမြို့သားတို့အား ရေးထားသော
ဆုမ္မစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါတို့အားပေးသနားတော်မူရ
သောဂုဏ်ကျေးဇူးနှင့်အညီ။အသီးသီးအခြားခြား
ဆုတော်ခံရ၍။ ပရောဖက်တဂုဏ်ပြည့်စုံသသူသဉ်
ယုံမှတ်ခြင်းအချက် သွန်သင်ပိုင်းချားသည်အတိုင်း
သုံးဆောင်ပါစေ။ လွန်မြတ်သောရဟန်းအမှုအတို
ခေါ်နှုတ်သောသူသဉ် မလစ်မဟင်းထိုအမှုပြည့်ပါ
စေ။သူတပါးအားသွန်သင်ပြသနိုင်အောင်၊ဂုဏ်ဆု
ရသသူသဉ် လုလ္လအားထုတ်ခြင်းဖြင့်သတိနှင့်သွန်

သင်ပြသပါစေ။ သူတပါးကိုနှိုးဆော်တိုက်တွန်းနိုင်အောင်လိုသောပညာအစွမ်းနှင့်ပြည့်စုံသသူသည်၊ သူတပါးအားချမ်းမြေ့ကောင်းမြတ်သည်အမှု၌ နှိုးဆော်တိုက်တွန်းခြင်းလုလ္လပြုပါစေ။ အလှူသွန်းဖြန့်သသူသည်ရိုးမတ်စွာသွန်းဖြန့်ပါစေ။သူတပါးအားလမ်းပြညွှန်သသူသည် လုလ္လဝိရိယဖြင့်ကောင်းမွံသောအခွင့်ကိုပြည့်ညွှန်ပါစေ။ ချစ်ခင်သနားခြင်းအမှုကိုဆောင်ရွက်သသူသည်ဝမ်းမြောက်ခြင်းနှင့်ဆောင်ရွက်ပါစေကုံ။ သင်တို့သည်သူတပါးအားချစ်ခင်သနားခြင်းအပေါ်အရောယောင်နှင့်ကင်းပါစေ။မကောင်းရှိသမျှကိုမုန်းထားပြစ်ပယ်ကြ။ မြဲမြံစွာသောအရာသို့ချည်းကပ်ကြ။ သင်တို့ချင်းချင်းအကယ်ညီအစ်ကိုယ်ကဲ့သို့ချစ်ခင်ခြင်းမေတ္တာသက်၍ ရှိသေသမှုအလျှင်တင်၍သူတပါးကိုပြုကြ။ လေးလံပျင်းရိခြင်းအလျှင်ကင်း၍ပေါ့ပါးသန်မြန်၄၁အမြဲပြု၍ဘုရားသခင်အမှုတော်၌အစည်စိတ်ရောက်ခြင်းအာရုံကြီးပါစေ။သင်တို့သည်မျှော်လင့်ခြင်းဖြင့်ဝမ်းမြောက်ခြင်းနှစ်လုံးထဲ၌ရှိပါစေ။အတွေ့တွေ့နာကြင်အောင်ရောက်လာသောအမှုတို့ကို သည်းခံမြိုးမြံခြင်းစွဲကြ။ ဆုတောင်းမေတ္တာပြုခြင်းအမှုတို့၌အားထုပ်ကြ။သူမြတ်ရဟန်းတို့အလိုဆန္ဒ၌ဖြည့်ပေးခြင်းပြုကြ။ အဝေးမှလာသောဧည့်သည်သူတို့အားသတိလုလ္လနှင့်သိမ်မွေးပြုစုကြ။သင်တို့ကိုပယ်ရှားညှဉ်းပန်းလိုက်လံသသူတို့အား ကောင်းမြတ်သောဝိဌာန်ခြင်းရှိပါ

ပေ ။ ထိုသူတို့၌ဘေးဒါဏ်ရောက်စေခြင်းနှစ်လုံး ကင်းစေရမည့်မျှမက။ မြတ်သောမိဌါန်ခြင်းကို၊ ထို သူတို့အဘို့ပြုကြကုံ ။ ဝမ်းမြောက်သော သူတို့နှင့် အတူဝမ်းမြောက်ကြကုံ ။ စိတ်မသာဝိုကျွေးခြင်းရှိ သသူတို့နှင့်အတူမျက်ယည်ယိုကြ။ ထိုသို့သူတပါး နှင့်အကြံအစည်အလွဲအနေနည်းတူရှိအောင် အား ထုပ်ရွက်ဆောင်ကြ။ သင်တို့နှစ်လုံး၌မာနမထောင် လွှားကြနှင့်။ စိတ်အထူးမရှိ နှိမ့်ချသောအောက်နေ ရာသို့နှိမ့်ချရှုံး၍က်ကြကုံ။

Gospel. John. ii. 1—11.

သံဖွင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ဂါလိလေအနိုင်ငံ၌ကာနအမည်ရှိသော ရွာတွင်ယေရှုးမယ်တော်ရှိသည်အခိုက် ထိမ်းမြား လက်ထပ်ပွဲခံကြလေသည် ။ ထိုပွဲသို့သခင်ယေရှုး နှင့်တကွတပည့်တော်တို့ကို ခေါ်ပင့်ကြသည်။ စား ပွဲသောက်ပွဲတွင်စပျစ်ရည်ကုန်ကြ၍၊ မယ်တော်က သားတော် သခင် ယေရှုးကို စပျစ်ရည် မရှိပြီး ဟု လျှောက်သည်။ သခင်ယေရှုးသည်လည်း ဤသို့ပြန် ပြောတော်မူသည် ။ အချင်းမိန္မသင်နှင့်ငါသည်အ ဘယ်သို့ဆိုင်သနည်း။ ငါအချိမ်မရောက်သေး။ မယ် တော်မှာဒိမ်တွင်စေစားသသူတို့ကို ဤသို့မိန့်တော် မူ၏ ။ သခင်ယေရှုးမိန့်တော်မူလေတိုင်းကို ဆောင် ရွက်ကြပါတော့ ။ ထိုအိမ်၌ နှစ်တင်း သုံးတင်းခန့်

ဝင်သော၊ ဖူဒေဦးတို့ ဘာသာအလျောက် ရေနှင့် ဆေးကြောဘိုထားသောကျောက်စည်းအိုးချောက်လုံးရှိ၏ ။ သခင်ယေရှုးမှာ အိမ်တွင် စေစား သသူ ငယ်သားတို့ကို ဤသို့အမိန့်တော်မြွက်ရှိသည်။ စဉ်း အိုးတို့ကိုရေအပြည့်လောင်းကြ။ အမိန့်တော်ရှိသည် နှင့်အညီရေအပြည့်လောင်းကြသည်၊ လောင်းပြီးမှ သခင်ယေရှုးသည် တဖန်ဤသို့ အမိန့်တော် ရှိပြန် သည်။ ယခုစဉ်းအိုးမှခပ်၍စာတော်ကဲဆီသို့ဆောင် ယူသွားကြကုံ ။ ငယ်သားတို့လည်း အမိန့်တော်ရှိ သည်အတိုင်းယူသွားကြလေသည်။ရေခပ်သည်ငယ် သားတို့သည် ဖြစ်ကြောင်းကို သိညားသော်လည်း စာတော်ကဲသည်စပျစ်ရည်ဖြစ်စေသောရေကိုမြည်း စမ်း၍အဘယ်မှာရသည်ကိုမသိသဖြင့် အိမ်ရှင်ကို ခေါ်၍လျှောက်သည်။ သူတကာစားဦးတွင်ကောင်း သော စပျစ်ရည်ကို သုံးဆောင်၍ လောက်အောင် သောက်ပြီးသည်တာလ၊ညံ့သောစပျစ်ရည်ကိုထည့် လေ့ရှိ၏ ။ သခင်မှာ ကောင်းလှသောစပျစ်ရည်ကို ယခုတိုင်သိမ်းထားကဲ့သည် ။ ဤတခိုးကိုအလျှင်စ ၍ဂါလိလေအနိုင်ငံ၌ ကာနာအမည်ရှိသောရွာတွင် သခင်ယေရှုးသည်ပြတော်မူ၍မိမိဘုန်းတော်ကိုထင် ရှားစေတော်မူ၏ ။ တပည့်တော်တို့သည်လည်းအလွှန် ယုံမှတ်လေကုံသတည်း။

—oo—

## IN THE FEAST OF THE HOLY NAME OF JESUS.

(*Second Sunday after Epiphany.*)

## ယေရှုးနာမည်တော်၏ပွဲနေ့။

## Lesson. Acts. iv. 8—12.

ဘုရားသခင်၏တပည့်ကြီးတို့ဝတ္တုကျမ်းမှထုပ်
သောစကားတည်း။

ထိုအခါ ။ ပေတရုသည် သန့်ရှင်းသောဝိညည်တော်နှင့်ပြည့်လျက်။ လူများတို့အားဤသို့ဆို၏။ လူတို့တွင်အကြီးအကဲတို့နှင့် အသက်ကြီးသူတို့ နားထောင်ကြပါ။ အင်္ဂါချို့တဲ့သောသူကိုကျေးဇူးပြု၍သူသည်အနာရောဂါနှင့် အဘယ်သို့ကင်းလွတ်သနည်းဟုငါတို့သည်ယနေ့အစစ်ခံရလျှင်။ သင်တို့သည်ကရူသုးတံကျင်ပေါ်မှာကွပ်မျက်၍ ဘုရားသခင်သည်သေခြင်း၌မှထမြောက်စေတော်မူသော နာဇရက်မြို့အားယေရှုးခရိသ္ဘုတူး၏ နာမည်တော်အားဖြင့်ဤသူသည်သင်တို့မျက်မှောက်၌ ကျန်းမာလျက်ရှိသည်ကိုသင်တို့မှစ၍အိဿရေအဲလ်လူအပေါင်းတို့သိမှတ်ကြလော့။ ထိုသခင်ကားသင်တို့သည်တိုက်ကိုတည်လုပ်သောအခါပယ်ထား၍ နောက်တဖန် တိုက်ထောင့်အထွဋ်ဖျားသို့ရောက်ပြန်သောကျောက်ဖြစ်တော်မူ၏ ။ ထိုသခင်မှတပါး အဘယ်သူမျှကယ်တင်ခြင်းအမှုကိုမတတ်နိုင်။ ငါတို့သည်ကယ်တင်

ခြင်းကိုရအံလို့ငှါ ကောင်းကင်အောက်ထိုသခင်၏နာမည်တော်မှတပါး အဘယ်နာမည်မျှလူတို့တွင်မပေါ်မရှိ။

## Gospel. Luke. ii. 21.

သံလူကာဒးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုအခါ၌။သူငယ်ကိုပေါက်ဖွားသည်နေ့နောက်ရှစ်ရက်စေ့လျှင်။ ထုံးစံရှိတိုင်းဘာသာသွင်းရမည့်နေ့၌။ မယ်တော်သည်ဝမ်းခေါင်း၌ပဋိသန္ဓေမယူမှီ၊ သကြွားမင်းမှည့်မှန်ခေါ်ဝေါ်ပြောလာသည်နှင့်အညီလျော်စွာယေရှူးမှည့်မှန်ရကုံသည်။

——00——

## THIRD SUNDAY AFTER EPIPHANY.

မင်းသုမွှားပွဲနေ့နောက်တတိယတနင်္ဂနွေနေ့။

## Epistle. Rom. xii. 16—21.

သံပေါက်လူးရောမားမြို့သားတို့အားရေးထားသောဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။မိမိကိုယ်၌ မျှားစွာအတတ်အလိမ္မာရှိ၏ဟု သင်တို့သည် စိတ်နှစ်လုံးထဲ၌ မယူမထင်မှတ်ကြနှင့်။ မည်သည့်သူကိုမျှ အဆိုးကိုအဆိုးခြင်းမပြန်တုံ့ကြနှင့်။ သင်တို့သည်ပြုသည့်ကောင်းမှုတို့ကို ဘုရားသခင်ရှေ့ ရောက်မည်မျှမက ။ လူအ

ပေါင်းတို့ရှေ ၊ ထင်ထင် ရှားရှား ရှိအောင် သတိ
လုလ္လရှိကြ။ အသွယ်သွယ်အနည်းနည်းလူအပေါင်း
တို့နှင့်အသင့်တတ်ငွန်းနိုင်လျှင် မိမိ၌တတ်အားသ
မျှအသင့်ညိမ်ဝတ်စွာနေကြ ။ အလွန်ချစ်သော ညီ
အစ်ကိုယ်တို့ ။ သူတပါးသည် သင်တို့ကို ပြစ်မှား
လျှင်၊ ကိုယ်တိုင် အပြစ်ပြန်၍မတုံ့ကြနှင့် ။ သူအ
မျက်ဒေါသကိုမဆီးတားဘဲသည်းခံကြလော။ ကျမ်း
၌ ရေးမှတ်လျက်ရှိသည့် ။ ရန်တုံ့မူခြင်းသည် ၊ င
ကိုယ်အတွက် ငါဆိုင်ရာဖြစ်သည် ။ ထိုဘ်သည့်နှင့်
လျော်စွာသူတကာကိုငါပြန်ပေးပါမည်။ ဘုရားရှင်
အမိန့်တော်ရှိသည်။ သည့်မျှမက သင့်ရံသူငတ်မွတ်
ခြင်းရှိလျှင်အစားပေးကမ်းလော ။ ရေငတ်မွတ်
ခြင်းရှိလျှင် သောက်စရာပေးလော ။ ဤသို့ ပြုလျှင်
သင်ရန်သူခေါင်းပေါ်၌ အမြားမီးခဲးရဲရဲစုလမည် ။
သင်၌ အဆိုးကိုအနိုင်မပေးနှင့် ။ သင်အဆိုးကိုအ
ကောင်းအားဖြင့်အဆိုးကိုနိုင်လော။

Gospel. Matt. viii. 1—13.

သံမာတယ်အူးရေးထားသည့်ကျမ်းတုပ်
စကားတည်း။

ထိုဘ်ာလ။သခင်ယေရှုးသည်၊တောင်ပေါ်မှဆင်း
ကြွလျှင်၊ များစွာသောလူတို့ နေ့ံတော်သို့လိုက်ကြ
ကုံသည်။ထိုအခါနူဝဲသောသူတရောက်လာ၍ညွှတ်
တွားရှိခိုးလျက် ဤသို့လျှောက်၏။ အရှင်သခင်သည်

ရွှေစိတ်တော်ရှိလျှင် အကျွန်ုပ်ကိုသန့်ရှင်းစေနိုင်တော်မူသည်ဟုလျှောက်လျှင် ။ သခင်ယေရှုလက်တော်ဆန့်၍ နူဝဲသောလူကိုယ်ကိုထိလျှင် အမိန့်တော်ရှိသည်။ငါအလိုရှိ၏၊သန့်ရှင်းခြင်းဖြစ်စေသော၊ အမိန့်တော်ရှိလျှင်၊ ရှိခြင်းနူနာပျောက်၍သန့်ရှင်းခြင်းဖြစ်သည်။ သခင်ယေရှုလည်းထိုသူကိုအမိန့်တော်ရှိသည်။ သင်သတိပြုလော၊ ဖြစ်သည့်အရာကိုမည်သူတယောက်ကိုမျှမပြောနှင့်၊သွား၍ရဟန်းအားသင့်ကိုယ်ကိုပြလော ။ မှန်ကန်သောသက်သေထိုသူတို့တွင်တည်လေအောင် မိုးဇယ်မှာထားသည့်နှင့်အညီတစုံတခုလည်းကျောင်းကိုပူဇော်ပါတော့။ ထိုနောက်သခင်ယေရှုသည်၊ ကာဖျရ်နာအုရှုမြို့သို့ဝင်တော်မူပြီးမှ ၊ ခြေတော်ရင်းသို့ လူတရာအုပ်ချုပ်သောဗိုလ်တယောက်ရောက်လာလျှင်၊ ဤသို့တောင်းလျှောက်၏။ အရှင်၊ ကျွန်ုပ်သားငယ်အိမ်တွင်တုံးလုံးလဲလျက်ထုံနာစွဲ၍ပြင်းပြစွာခံရသည်။သခင်ယေရှုလည်းဤသို့ပြန်ပြောတော်မူ၏။ငါကြွလာ၍ချမ်းသာပေးပါမည်။အမိန့်တော်အချက်ကိုလူတရာအုပ်စိုးသောဗိုလ်ကြားလျှင်လျှောက်ပြန်သည် ။ အရှင်ကျွန်ုပ်အိမ်သို့ကြွဝင်တော်မူသောကျေးဇူးတော်ကိုကျွန်ုပ်မခံထိုက်။ အရှင်အမိန့်တော်တခွန်းတပါဒမျှဟောတော်မူလျှင်ကျွန်ုပ်ငယ်သားချမ်းသာပါလတန့်သည်။ ဥပမာကား၊ ကျွန်ုပ်သည်မင်းအကြီးတို့အောက်နေလျက် သူရဲမြားကိုအုပ်စိုး၍၊ တဦးကို

သွားလေဆိုလျှင်သွားပါသည် ။ လာခဲ့ဆိုလျှင်လာပါသည်၊ စေစားသသူကိုလည်းဤအမှုကိုလုပ်ဆောင်ဆိုလျှင်မငြင်းပယ်လုပ်ပါသည်။ ထိုစကားများကိုသခင်ယေရှုးသည်ကြားရလျှင်၊ အံ့အောသင့်နေသကဲ့သို့နောက်ပါသသူတို့ကိုအမိန့်တော်ရှိသည် ။ ငါသည်သင်တို့အားမြွက်ဆိုသည်အချက်မှန်လှချေ၏။ဣသရအဲလ်အမျိုး၌၊ဤမျှလောက်ယုံကြည်သသူမတွေ့ဘူးပါ ။ ထိုအတူဒင်ဤအချက်ကိုသင်တို့အားငါဟောကြားသည်။ အများသသူတို့အရှေ့အနောက်ပြည်တောင့်ကလာ၍။အာဗြဟာမ်၊ ဣဇက်၊ ယာကောနှင့်အတူ၊အထက်မိုဃ်းကောင်းကင်ရွှေပြည်တော်၌ချမ်းသာစွာနေကြရတော့မည်။ပြည်နိုင်ငံသားတို့၌ငိုကြွေးခြင်းနှင့် ပြင်းပြစွာသွားဝေဒနာရှိရာပြင်သို့ မှောင်မိုက်သောအရပ်၌ နှင်ချရတော့မည် ။ ထိုသို့ဟောတော်မူပြီးမှ၊ သခင်ယေရှုးသည် လူတရာအုပ်ချုပ်သောဗိုလ်ကို အခွင့်လွှတ်တော်မူသည် ၊ သွားလေတော့။ယုံမှတ်သည်နှင့်အညီသင့်ကိုရောက်ပါစေ။ ငယ်သားလည်း ထိုတချိန်တည်းရောဂါကင်း၍ချမ်းသာရလေသည်။

——oo——

## FOURTH SUNDAY AFTER EPIPHANY.

## မင်းသုမ္မွားပွဲနေ့နောက်စတုတ္ထတနင်္ဂနွေနေ့။

### Epistle. Rom. xiii. 8—10.

သံပေါက်လူးရောမားမြို့သားတို့အားရေးထားသောဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့၊ အချင်းချင်း ချစ်ခြင်းမေတ္တာမှတပါး၊အဘယ်ကြွေးမျှမရှိစေနှင့်။ နီးစပ်သသူတို့နှင့် ချစ်လေးမြတ်ခြင်းရှိသသူ၊ သုရားရှင် နှုတ်ကပါတ်ထော်ကုန်စင်ကျင့်လေပြီ။ အဘယ်ကြောင့်နည်း၊ ဤသို့ဘုရားသခင်ပညာတ်တော်သည်။ သုမယားကို ပြစ်မှားခြင်းမပြုကြလင့်။ မသတ်နှင့်။ မခိုးဝှက်နှင့်။ မဟုတ်မမှန်သက်သေမခံနှင့်။ သူတပါးဆိုင်ရာကိုမတပ်ငွန်းနှင့်။ သည်မှတပါး အချားပညာတ်တော်ရှိသေးလျှင် သင်နှင့်နီးစပ်သသူကိုမိမိကိုယ်ကဲ့သို့ချစ်ခြင်းရှိပါလော။ စကားတခွန်း၌ပညာတ်တော်ရှိလေသမျှပါဝင်ကြလေသည်။ နီးစပ်သသူကိုချစ်ခြင်းသည်၊ သူတပါးကိုအဆိုးတစုံတခုမျှ မပြုလျှင်အောင် ဟန့်တားသည်။ ထိုကြောင့်ပညာတ်နှုတ်ကပါတ်တော်နှင့် ညီညွတ်စွာ ကျင့်ရခြင်းသည်၊ သူတပါးချစ်ခင်ခြင်း၌၊ ပါဝင်စုရုံးလေသည်။

## Gospel. Matt. viii. 23--27.

### သိမ်မာတဲအုးရေးထားသောကျမ်းတုပ်စကား
### တည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ သင်္ဘောငယ်တစင်းတက်သို့တက်တော်မူ၍၊ တပည့်တော်တို့သည်လည်းနောက်တော်ပွင်ပါကြလေသည်။ လှိုင်းတံပိုးတို့သည်၊ ပြင်းစွာထ၍၊ သင်္ဘောငယ်အပေါ်သို့လွှမ်း၍တက်သွားလေ၏။ သခင်ယေရှုးသည်လည်းထိုအခိုက်ကျိန်းစက်တော်မူသည်။ တပည့်တော်တို့သည်လည်း၊ ကိုယ်တော်အရင်းအပါးသို့လာ၍၊ ကျိန်းစက်တော်မူရာမှ နှိုးပြီးလျှင်၊ ဤသို့လျှောက်ကြလေ၏။ အရှင်ဘုရား၊ ကျွန်ုပ်တို့သေခြင်းသို့ရောက်ခဲ့သည်။ လွတ်မြောက်အောင် ကယ်မသနားတော်မူပါ။ သခင်ယေရှုးသည်လည်း၊ လျှောက်သသူတို့ကို ပြန်ပြောလေ၏။ ယုံကြည်ခြင်းအနည်းငယ်မျှရှိသောလူတို့အဘယ်ကြောင့် ကြောက်ရွံ့ကြအံ့သနည်း။ ထိုအခါမှထတော်မူလျှင်၊ လေပင်လယ်တို့အားခြိမ်းခြောက်မြစ်တားတော်မူ၍၊ အလွန်သာယာလေ၏။ လူတို့သည်လည်း ဤအကြောင်းကိုအံ့အော၍ ဤသူကားအဘယ်သို့သောသူနည်း၊ လေပင်လယ်တို့သည်သူ၏စကားကိုနားထောင်ပါသည်ဟုဆိုကြလေ၏။

——00——

FIFTH SUNDAY AFTER EPIPHANY.

## မင်းသုမ္ဘားပွဲနေ့နောက်ပဉ္စမတနင်္ဂနွေနေ့။

## Epistle. Colos. iii. 12—17.

သံပေါက်လူး ကော်လော်သီမြို့သားတို့အားရေး
ထားသောဆုမ္ဗစာမှ နှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့သည် ဘုရားသခင်ရွေး
နှုတ်တော်မူသောသူ ၊ သန့်ရှင်းသောသူ ၊ ချစ်အပ်
သောသူကဲ့သို့အသည်းတိုင်အောင်သနားနာလိုခြင်း၊
နူးညံ့စွာသိမ်မွေ့ရခြင်း၊ နှိမ့်ချခြင်း၊ ဣန္ဒြေချုပ်တည်း
ခြင်း၊ သည်းခံခြင်းအကျင့်တို့ကိုကိုယ်၌ဝတ်စားတန်
ဆာကဲ့သို့ဆောင်ရွက်ကြကုံ ။ အချင်းချင်းထောက်
စာ၍၊ သူတပါးနှင့်ငြင်းခုံဆိုခွင့်ဖြစ်တင်ခွင့်ရှိလျှင်၊
တရောက်ကိုတရောက်လွှတ်သဖြင့် ဘုရားသခင်သည်
သင်တို့ကို ကညာလွှတ်သခဲ့သို့ သင်တို့သည် အချင်း
ချင်းကညာလွှတ်ကြကုံ ။ ထိုအရာတို့ရှိလေသမျှအ
လျှင်အဦးမှ သိမ်မွေ့နူးညံ့လွန်မြတ်သော အကျင့်ကို
စုပေါင်းထားသော ချစ်လေးမြတ်ခြင်းစွဲရှိကြကုံ ။
သင်တို့စိတ်နှစ်လုံးထဲ၌၊ သခင်ယေရှုးကရိသျှတူး
၏ငြိမ်ဝပ်ချမ်းမြေ့စွာ နေခြင်းအုပ်စိုးပါစေ ။ ထိုသို့
ငြိမ်ဝပ်စွာနေခြင်းကို သင်တို့ခံစေလို၍ ။ တလုံးတ
ကိုယ်တစုတည်း ဖြစ်စိမ့်သောငှါ သင်တို့ကို ခေါ်ရ
သည်။ ထိုကြောင့်ကျေးဇူးကိုသိမှတ်ကြကုံ ။ သခင်

ယေရှုး၏နှုတ်ကပါတ်တရားတော်သည် သင်တို့၌ ပြည့်ဝကုန်စင်စွာကျိန်းဝပ်ပါစေ ။ ပညာနှင့်လည်း ပြည့်စုံလေစေ ။ သင်တို့သည်ကာရန်ညီစွာသံပေါက် ထောမနာပရိတ်မေတ္တာအားဖြင့် အချင်းချင်းတို့ကို ဆုမ္မ တိုက်တွန်းနှိုးဆော်၍၊ နူးညွတ်သော စိတ်နှစ် လုံးနှင့် ဘုရားသခင် ချီးမွမ်းခြင်း တော်ကို စီကုန်း ရွတ်ဟောကြကုံ။ နှုတ်အကျင့်တို့ဖြင့်၊ သင်တို့သည် ဆောင်ရွက်သမျှ သခင်ယေရှုး ခရိသျှတူး နာမ တော်ကိုထောက်၍ဆောင်ရွက်ကျင့်ကြကုံ ။ ငါတို့ သခင်ယေရှုးခရိသျှတူးအမှီပြု၍ ခမည်းတော်ဘုရား ကျေးဇူးတော်ကိုဆက်တပ်ပူဇော်ကြကုံ။

Gospel. Matt. xiii. 24—30.

သံမှာတဲအရူးရေးထားသောကျမ်းထုပ်မကား တည်း။

ထိုကာလ။သခင်ယေရှုးသည်။ ဥပမာပုံစကားကို ဖေါ်ပြ၍၊ ဤသို့အမိန့်တော်ရှိသည် ။ မိုဃ်းကောင်း ကင်၌ရှိသောနိုင်ငံတော်သည်ကား။ မိမိလယ်မြေ၌ ကောင်းသောမျိုးစေ့ကို ကြဲသသူတယောက်နှင့်တူ ၏ ။ မျိုးစေ့ကြဲပြီးလျှင်၊ အစေလူတို့အိပ်၍ နေစဉ် အခိုက် သခင်ကိုမနာလိုသောရန်သူလာ၍ ကောင်း သောစပါးနှင့် လက္ခဏာတူသော မကောင်းသော မျိုးစေ့ကို ကောင်းသောစပါးမျိုးအလယ်၌ ထပ်မံ

ကြ၍သွား၏ ။ အပင်ပေါက်ရောက်၍ အသီးအနှံ ထွက်သောအခါမှစ၍ မကောင်းသော အပင်တို့သည် လည်းပေါ်လာ၏ ။ ထိုအခါ၊ အစေအပါသူတို့သည် အိမ်ရှင်ဆီသို့လာ၍ အကြောင်းကိုလျှောက်ကြကုန်၏။ သခင်ကောင်းသောမျိုးစေ့ကိုလယ်မြေ၌ကြဲရသည် မဟုတ်လော ။ ယခုမကောင်းသော အပင်တို့သည် အဘယ်ကဖြစ်လာသနည်း ၊ လျှောက်သော်။အိမ်ရှင် ကလည်း မနာလိုသောရန်သူသည် ဤအမှုကိုပြုသ တည်း။ အစေသူတို့ကလည်း ဤမကောင်းသောအ ပင်တို့ကို နှုတ်ပင်ရအောင် အကျွန်ုပ်တို့သွားစေချင် သလားမေးလျှောက်၏ ။ သခင်ကလည်းဤသို့ပြီပြော သည်။သင်တို့ပြောသည်အတိုင်းမဟုတ် ။ မကောင်း သောအပင်တို့ကိုနှုတ်ပင်လျှင်၊ ကောင်းသောစပါး အပင်တို့သည် တချက်တည်း နှုတ်ပင်ရာ ပါတော့ မည်စိုးရိမ်ပါသည် ။ မကောင်းသောအပင်နှင့်ကောင်း သောအပင်အတူတကွကြီးပြင်းအောင် သိမ်းယူရ မည်ကာလတိုင်အောင်ရှိစေဦးတော့။ သိမ်းယူရမည် ကာလရောက်မှသိမ်းယူသသူတို့ကို ဤသို့မှာမည် ။ သင်တို့မကောင်းသောအပင်တို့ကို အလျှင်သိမ်း၍ မီးတိုက်ရအောင်စုရုံးထားပြီးလျှင်။ ကောင်းသော စပါးအသီးအနှံတို့ကိုသိမ်းယူ၍စပါးကျီ၌စုပုံထား ကြတော့မှာမည်။

——oo——

SIXTH SUNDAY AFTER EPIPHANY.

ပညာရှိမင်းသုံမျှားပွဲနေ့နောက်ဆ၌ မတနင်္ဂနွေနေ့။

Epistle. 1 Thess. i. 2—10.

သံပေါက်လုုးတဲသာလောနိကမြို့သားတို့အားရေး
ထားသောဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့အပေါင်းအတို့ အစည်
မပြတ် ဘုရားသခင် ကျေးဇူးတော်ကို ချီးမွှမ်းခြင်း
ပရိတ်မေတ္တာငတို့ပြုကြသည်။သင်တို့ယုံကြည်ခြင်း
နှင့်ညီညွတ်သောအကျင့် ၊ သင်တို့ ချစ်လေးမြတ်
ခြင်းနှင့်မျှော်သောပင်ပန်းခြင်း ။ ငတို့သခင်ယေ
ရှူးကရိသျှတူး၌ သင်တို့မျှော်လင့်သည်တွင် အား
ကြီးခြင်းတို့ကို။ငတို့အဖဖြစ်တော်မူသော ဘုရားသ
ခင်ရှေ့ငတို့သည်စိတ်သတိ၌ ရေးထုပ်လျက် နက်နဲ
စွာစွဲ၍ ငတို့သည်ပရိတ်မေတ္တာပြုရာတွင် မေ့လျော့
ခြင်းမရှိ အစည်မပြတ်အောင်းမေ့ကြသည်။ ဘုရား
သခင်သည်၊ ချစ်သနားစုံမက်သော ညီအစ်ကိုယ်
တို့ ။ အဘယ်သို့သင်တို့သည်ရွေးနုတ်ကြရသည်ကို
ငတို့သည်အသိပင်ဖြစ်သည်။ သင်တို့တွင်ငတို့သည်
ရှိစည်၊သင်တို့အတွက် အဘယ်သို့သော သူဖြစ်သည်
ကို သင်တို့အသိဖြစ်သည်နှင့်အညီ၊ သင်တို့တွင်င
တို့ဟောပြောလေသည် ဧဝံဂေလိအရူးအကြောင်းကို
စကားနှင့်သာမဟုတ် ဖွင့်ရသည်မဟုတ်၊တံခိုးအာနုဘော်

တော်၊ အိစပိရိတူးသံတူးကျေးဇူးတော်အပြည့်အစုံ ငတို့သည်ဟောပြောချက်အတူတကွ ပြည့်စုံလေ၏။ သင်တို့ကိုယ်၌ ပတ်လည်ဝန်းကျင်ညှည်းဆဲနှိပ်စက်ခြင်း၊အတွင်း၌မူကား အိသပိရိတူးသံတူးဝမ်းမြောက်ခြင်းများနှာခံခြင်းနှင့်၊ ဘုရားသခင် တရားတော်ကိုယူ၍ငတို့ကျင့်သည်နည်းတူမျှမက၊ ဘုရားသခင်ထားသော ပုံသက်သေနောက်သို့လိုက်ကြကုံသည်။ ဤသို့အကျင့်ဖြင့်၊မာစေဒေါနီယ၊အာကာယပြည်တို့၌ယုံကြည်သောသူအပေါင်းတို့အားသင်တို့သည်ပုံသက်သေဖြစ်တော့သည်။ ဘုရားသခင်နှုတ်ကပါတ်တော်သည်သင်တို့ထံမှ၊ မာစေဒေါနီယအာကာယပြည်တို့၌ပြားမွမ်းသည်မျှမက။ ဘုရားသခင်၌သင်တို့ယုံကြည်ခြင်း၏သိတင်းသည်အရပ်ရပ်၌နှံ့ပြားလေ၏။ သို့ဖြစ်၍၊ ငတို့ပြောဆိုရမည်အကြောင်းမြိမြိမရှိ ။ အဘယ်သို့ သင်တို့ဆီသို့ငတို့ရောက်လာသည် ။ အဘယ်သို့သင်တို့သည် အရှင်ဖြစ်တော်မူသော ဟုတ်မှန်သောမြတ်စွာဘုရားကို ကိုးကွယ်အမှုကိုဆောင်ခြင်းငှါရှင်သေသောသူတို့အစုမှ ရှင်ပြီသော၊ ရောက်လတံ့သောအမျက်တော်၌ ငတို့လွှတ်သော ဘုရားရှင်၏ သားတော်ယေရှုသည် မိုဃ်းကောင်းကင်မှကြွလာမည်အချိန်စောင့်ငံ့ခြင်းငှါနှင့်မဟုတ်မမှန်ဆင်းတုတို့ကို ကိုးကွယ်ခြင်း ပြစ်ပယ်၍ဘုရားသခင်အထံတော်သို့ ပြောင်းလဲကြသည် အကြောင်းအရာကိုသူတပါးတို့သည်ကြားပြောကြ၏။

## Gospel. Matt. xiii. 31—35.

## သံမာတဲအရှုးရေးထားသောကျမ်းတုပ်စကား တည်း။

ထိုကာလ။သခင်ယေရှုသည်၊ သူခပ်သိမ်းတို့အားဤသို့ဥပမာပုံကိုဟောတော်မူ၏။ မိုဃ်းကောင်းကင်၌နိုင်ငံတော်သည်ကား တယောံသောသူသည်မုန်ညင်းစေ့ကိုယူသွား၍ယာခင်း၌ကြဲလေသည်နှင့်တူ၏။ထိုမုန်ညင်းစေ့သည် မျိုးစေ့တကာတို့အောက် ငယ်သော်လည်းပေါက်ရေံသည်ကာလ။ အနှစ်မှည့်သောသစ်ပင်တို့ထက်ကြီးပြင်းသည်။ ကောင်းကင်ကျေးငှက်တို့သည်လည်းလာ၍တကွအကိုင်းအခက်တို့၌ နားနေမှီခိုလောက်အောင်အပင်ဖြစ်သည်။အဆုံး၌ဤအချားသောပုံဥပမာစကားကို မိန့်တော်မူ၏။ မိုဃ်းကောင်းကင်၌နိုင်ငံတော်သည်ကား။ တဆေးကိုမိန္မတဦးသည်ယူ၍မုန့်ညက်သုံးတင်းခန့်၌ ထိုမုန့်ညက်အကုံအစင်ပေါက်ကြွထောင်လောက်အောင် ထည့်ထားသည်နှင့်တူ၏။ ယခုမှတ်သားလေသမျှကိုသခင်ယေရှုသည်သူခပ်သိမ်းတို့အားပုံဥပမာဖြင့်သာဟောတော်မူသည်။ပရောဖက်တတပါးရေးထားသည်စကားကိုပြည့်စုံအလို့ငှါပုံဥပမာနှင့်ကင်း၍ ထိုသူတို့အားဟောတော်မမူ။ ပရောဖက်တဟောချက်သည်ကား။ငါ၏နှုတ်ဖွင့်လှစ်၍ ဥပမာတို့ကိုမြွက်ဆိုအံ့။

ကမ္ဘာဦးမှသည်ယခုတိုင်ဖုံးအုပ်လျက်နေသည်နက်နဲသောအရာတို့ကိုထုပ်ဖေါ်လတန့်သည်။

——00——

## SEPTUAGESIMA SUNDAY.

## ပါသျှကူးပွဲမရောက်မှီသတ္တမတနင်္ဂနွေနေ့။

### Epistle. 1 Cor. ix. 24—x. 5.

သံပေါက်လူးတော်ရင်တိမြို့သားတို့အားရေးထားသောပဌမဆုမွစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့ ။ ကစားခြင်းအပြေးပွဲ၌ပြေးဘစားရအောင်ဝင်သသူတို့အပေါင်းသည် ပြေးကစားကြသ်သိုသော်လည်းတယောက်ပြင်ဆုကိုရသသူမရှိကြောင်းသင်တို့မသိကြလော။ ထိုကြောင့်ဆုကိုခံရလောက်အောင်ပြေးခြင်း၌အားထုပ်ကြ ။ သ်မှတပါးလက်ဖွေ့သတ်ပွဲတို့မိမိကိုယ်ကိုကျင့်သသူတိုင်းသုအကြံပျက်နိုင်သောအရာရှိလေသမျှတို့ကို သတိနှင့်တကွလုလ္လကြည့်ရှောင်သ်။ ထိုသူတို့မူကားနွမ်းရိဆွေးတတ်သော ပန်းဦးရစ်တစုံတခုကို ရအောင်ပြုကြ၏။ ငတို့မှာမနွမ်းရိမဆွေးတတ်သောအောင်ပန်းဦးရစ်ကိုစောင့်ငံ့နေကြသည်။ ထိုကြောင့်အမှတ်တမဲ့ငါပြေးသည်မဟုတ်။ အာကာသကိုသာထိုက်၍ငါထိုက်သည်မဟုတ်။ သူတပါးအားဟောပြော

ပြီးမှ။ ကေကိုယ်ဆုံးရှုံးခြင်းခံရမည်အကြောင်း။ ငါ၏ကိုယ်ကိုဆုမ္ဘကျဉ်မြောင်း၍ကျွန်ကဲ့သို့ခံနေစေသည်။ ယခုမှာညီအစ်ကိုယ်တို့၊ သင်တို့သည်ဤအချက်ကိုမသိမမှတ်ဘဲနေစေခြင်းငှါငါအလိုမရှိ ။ ငေတို့ဘိုးဘေးအပေါင်းတို့သည်မိုဃ်းတိမ်အောက်မှာရှိ၍ပင်လယ်ကိုကူးသွားကြသည်။ မိုးဇယ်အလျှင်ခေါင်းတည်၍မိုဃ်းတိမ်နှင့်ပင်လယ်၌ထိုသူတို့သည်ဆေးကြောခြင်းအမှုကဲ့သို့ခံရကြသည်။ ထိုခပ်သိမ်းသောသူတို့သည် ဝိညာဉ်အစားအသောက်တို့ကိုအတူတကွစားသောက်ကြသည်။ဤသောက်သောရေမူကား ထိုသူတို့နောက်၌လိုက်လာသောဝိညာဉ်ကျောက်မှထွက်သည် ။ ထိုကျောက်ကား ခရိသ္ဘုတူးတော်ဖြစ်သည် ။ သို့သော်လည်း ၊ ထိုသူတို့များစွာအပေါင်းတွင်ဘုရားသခင် နှစ်သက်အားရသောသူတို့ အနီးဖြစ်တော့သည်။

## Gospel. Matt. xx. 1—16.

### သံမာတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ ။ သခင်ယေရှုးသည်တပည့်တော်တို့အားဤသို့ဥပမာကိုမိန့်တော်မူ၏။ မိုဃ်းကောင်းကင်နိုင်ငံတော်သည်။အိမ်ရှင်စပျစ်ဥယျာဉ်ကိုလုပ်ဆောင်သောသူတို့ကို ငှါးအံ့သောငှါ နံနက်အခါ အိမ်မှ

ထွက်၍သွားလေသည်နှင့်တူ၏။ ထိုအိမ်ရှင်သည် သူရင်းငှါးသူတို့နှင့်တနေ့လျှင်ဒေနာရိတပျားစီပေးမည်ဟူ၍သဘောတူပြောဆိုပြီးလျှင် ထိုသူတို့ကိုထို စပျစ်ဥယည်သို့သွားစေ၏ ။ တဖန်အိမ်မှထွက်၍ နံနက် တချက်တီးခန့်အချိန်တွင် ဈေး၌ အလွတ် နေ သောသူတို့ကို မြင်လျှင်ဤသို့ဆို၏ ။ သင်တို့လည်း စေပျစ်ဥယည်သို့သွားပါချေ ၊ တော်လျော်အောင် အခကိုပေးပါမည်ဆို၍ ထိုသူတို့သည် သွားကြလေ ၏။ တဖန်နှစ်ချက်တီးသုံးချက်တီးခန့်အချိန်တို့တွင် လည်းထွက်၍ရှေ့ကဲ့သို့ပြုလေ၏။ နေမဝင်မှီတနာရီ ခန့်တွင်လည်း အိမ်မှထွက်၍ အလွတ်နေသောသူ တို့ကိုတွေ့လေသော်အဘယ်ကြောင့် တနေ့ပတ်လုံး ဤနေရာ၌ မလုတ်မဆောင်နေကြသနည်း ထိုသူတို့ ကိုဆို၏ ။ ထိုသူတို့လှဲ့ကျွန်ုပ်တို့ကို ငှါးသူတယောက် မျှမရှိ၍ အလွတ်နေရပါသည်ဆိုသော် ၊ အိမ်ရှင်က သင်တို့ငါ၏စပျစ်ဥယည်ကို သွားကြတော့ဆိုလေ ၏ ။ ညဦးယံအချိန်သို့ရောက်လျှင် စပျစ်ဥယည်ရှင် သည်မိမိဘဏ္ဍာစိုးအားဤသို့ဆို၏ ။ သူရင်းငှါးတို့ အားခေါ်၍နောက်ဝင်သသူတို့မှစ၍ ။ အလျှင်အဦး ဝင်သသူတို့အား လုပ်ဆောင်အခကိုပေးဘိမှာထား ၏။ မှာထားသည်နှင့်အညီ နေမဝင်မှီတနာရီခန့်တွင် အလုတ်ဝင်လာသသူတို့ ရောက်လာလျှင် တယောက် ဒေနာရိတပျားစီမျှရကြလေ၏။ အလျှင်အဦးငှါးသ သူတို့လည်းရောက်လျှင် သာ၍အခ ရတော့မည်ထင်

မှတ်ကြကုန်၏ ။ ထင်သော်လည်းတယောက်ဒေနာရီ
တပြားစီသာခံရကြ၏ ။ ထိုသို့ခံပြီးလျှင်အိမ်ရှင်ကို
အပြစ်တင်၍ပြောဆိုကြ၏ ။ ဤနောက်ငါးသောသူတို့
တနာရီခန့်တွင်လုပ်ဆောင်ကြသည် ။ တနေ့ပတ်လုံး
နေပူဆင်းရဲခံ၍လုပ်ကြသည့် ငါတို့နှင့်အညီအမျှသာ
ပေးခဲ့သည်ဟုဆိုကြသော် ။ အိမ်ရှင်လည်းထိုသူတို့
တွင် တယောက်သောသူကို ဤသို့ပြန်ပြောဆို၏ ။ အ
ဆွေ သင်ကိုနာကြင်အောင်ထစုံတခုမျှငါမပြု ။ ဒေ
နာရီတပြားမျှသောအခပေးမည်ငါနှင့်သင် ငါးသည်
မဟုတ်လော ။ အဆွေနှင့်ဆိုင်သောငွေကိုသာယူ၍
သွားလေတော့ ။ နောံငါးသော ဤသူကိုလည်းအ
ဆွေနှင့်အမျှပေးချင်ပါသည် ။ ငါစိတ်ရှိတိုင်းမပြု
အပ်သည်လော ။ ငါ၏နှစ်လုမ်းကောင်းမြတ်သော
ကြောင့် ပြည့်အရာကိုအဆွေမျက်စိအမြင်မတော်
ရှိရမည်လား ။ ထိုနည်းတူနောက်၌ရှိသောသူတို့သည်
အရင်အဦးဖြစ်တော့မည် ။ အရင်ရှိသောသူတို့သည်
လည်းနောက်ကျရတော့မည် ။ အဘယ်ကြောင့်နည်း
ဟူမူကား ခေါ်ရသောသူအများပင်ရှိကြ၏ ။ ရွေး
ချယ်သောသူတို့မှာအနည်းသာဖြစ်ချေသည် ။

——၀၀——

## SEXAGESIMA SUNDAY.

## ပါသျှကူးပွဲမရောက်မှီဆဌမတနင်္ဂနွေနေ့။

## Epistle. 2 Cor. xi. 19—xii. 9.

သံပေါက်လူးတော်ရင်တိမြို့သားတို့အားရေးထားသောဒုတိယ ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့သည်ပညာနှင့်ပြည့်စုံ၍အရူးတို့ကိုစေတနာစိတ်နှင့်သည်းခံကြသည်။ သူတပါးသည်အနိုင်အပိုင်သင်တို့ကိုကျွန်ပြုလျှင်၊ စားမျိုထိုးဆွတ်လျှင်၊ ဥစ္စာကိုလုယူလျှင်၊ တဖက်နေ၍ရန်ငြိုးဖွဲ့လျှင်၊ ပါးပုတ်လျှင်၊ သင်တို့သည်သည်းခံကြသည်။ သင်တို့ရှက်ဖွယ်အရာပြုခြင်းငှါ၊ ဤကဲ့သို့သင်တို့ကိုငါပြောဆိုသည်။ သင်တို့၌ဤအခွင့်တွင်၊ ငတို့ပျော့ညံ့ခွာပြုကြသည်။ အကြင့်အရာကိုသူတပါးချီးမြှောက်ဝံ့သည်အကြောင်းဖြင့် အရူးဖြစ်ကဲ့သို့ငါဆို၏။ ငါလည်းနည်းတူချီးမြှောက်ဝံ့မည်။ ထိုသူတို့သည်ဟေဗြဲအနွယ်လူလော့။ ငါသည်လည်းဖြစ်သည်။ ထိုသူတို့သည်ဣသရေလ်လူလော့။ ငါသည်လည်းဖြစ်သည်။ ထိုသူတို့အာဗြဟံအမျိုးအနွယ်လော့။ ငါသည်လည်းဖြစ်သည်။ ထိုသူတို့သခင်ယေရှုခရစ်သျှတူးအစေလွှတ်လူလော့။ ထိုသူတို့မျှမက၊ ငါသည်ဖြစ်၏ဟု အရူးလိုငါဆိုဝံ့သည်။ ထိုသူတို့ထက်ဆင်းရဲပင်ပန်းခြင်းငါခံရသည်။ သူတို့ထက်

အခါ၊သာများနှောင်အိမ်ထဲ၌လှောင်နေရသည်။ အာ
ကြောင်းမတန်ရိုက်ပုတ်ခြင်းခံရသည်။ သည့်မျှမက၊
သေရအံ့သောဘေးဖြစ်စိမ့်ငှါအကြိမ်ကြိမ်ဖြစ်ထား
ကြ၍နေရသည်။ ငါးကြိမ်ဇူဒေအရူးအမှုပြု၍ဒါဏ်
ချက်လေးဆက်တခုယုတ် ငါခံရပြီး ။ အချားသုံး
ကြိမ်တံပျာစည်းနှင့်အရိုက်ခံရသည်။တကြိမ်ကျောခံ
နှင့်ပြစ်ခြင်းခံရသည်။ သုံးကြိမ်သဘောပျက်၍မျော
ပါးရသည် ။ တနေ့တညဥ့်ပတ်လုံးနက်စွာသောပင်
လယ်အောက်အထဲ၌နေရသည်။ အကြိမ်ကြိမ်ခရီးပင်
ပန်းခြင်း ။ မြစ်၌ကြောင့်ကြစိုးရိမ်ခြင်း။ သူခိုးထါး
မြကြောင့်ကြောင့်ကြခြင်း ။ ငါ၏ဆွေမျိုးကြောင့်
ကြောင့်ကြခြင်း ။ ဇင်တိအရူးတို့ ကြောင့်ကြခြင်း ။
မြို့တို့၌ ကြောင့်ကြခြင်း ။ တောကန္တာရအလယ်၌
ကြောင့်ကြခြင်း ။ ပင်လယ်၌ ကြောင့်ကြခြင်း ။ ညီ
အစ်ကိုယ်တို့ အရောင်အဟန်သူတို့ကြောင့် ကြောင့်
ကြခြင်း ။ အရာတို့၌ တွေ့ကြိမ်ကြိုက်ရသည် ။ လုပ်
ဆောင်သွားလာပင်ပန်းခြင်း စိတ်ညှိုးငယ်ခြင်း ။ မ
အိပ်မစက်အကြိမ်များစွာနေခြင်း။ အစာမွတ်ခြင်း။
ရေငတ်ခြင်း ။ အကြိမ်များစွာဝါရှောင်ခြင်း ။ အ
ဝတ်မရှိအချမ်းအအေးခံခြင်း။ ဆင်းရဲများတို့ကိုငါ
ခံရပြီး။ ထိုအပ၌ဆင်းရဲခံရသည်မှတပါး၊နေ့အစဉ်
မပြတ် ကျောင်းအစုဘာသာတူ အပေါင်းတို့ အမှု
ဆောင်ရွက်၍ စိတ်ပူပန်ခြင်းများတို့ကြောင့် စိတ်မ
သာရှိုက်ငင်ခြင်းရှိရသည် ။ သူတပါးနွမ်ရိနာကြင်

ခြင်းရှိလျှင်။စိတ်နာကြင်ခြင်းဖြင့်ငါသည်လည်း မနှမ်ရိဘဲနေသလော။ သူတပါးစိတ်ပျက်လျှင်ငစိတ်မိုးလောင်သည်သကဲ့သို့ ငါသည်မရှိဖြစ်သလော ။ ထိုကြောင့်ချီးမြှောက်သင့်လျှင်ငါ၏နာကြင်ဆင်းရဲခံခြင်း၌ ငကိုယ်ကိုချီးမြှောက်ပါသည် ။ ငတို့သခင်ယေရှုးခရိသျှတူးခမည်းတော်ဘုရား ကာလတိုင်းအစည်ရှိသောကိုးကွယ်အပ်သောဘုရားသခင်သည် ငါမဟုတ်မမှန်စကားမပြောကြောင်းသိမြင်တော်မူသည်။ ဒါမမြို့သို့ရောက်နေစဉ်အရဲတာမင်းဧကရာဇ်ခံ့ထားသောမြို့ဝန်သည် ။ ဤမြို့ကို ငကိုယ်ကို ဖမ်းမိအောင်စောင့်စေသည် ။ သို့ရာတွင်တောင်းတလုံးထဲ၌ ဝင်ပြီးလျှင် ပြတင်းပေါက်မှ မြို့ရိုးအပေါ်က လျှော့ချသဖြင့်ထိုမင်းလက်မှငါပြေးလွတ်ရ၏ ။ မိမိကိုယ်ပလွှားသင့်လျှင်၊ မသင့်သည်ကို ငါသိလျက် နှင့်ဘုရားသခင်တန်ခိုးတော်အားဖြင့် မြင်ရကြားရသိရသည့်အကြောင်းကိုယခုစပ်၍ပြောပါမည်။ သခင်ယေရှုးခရိသျှတူးကျေးဇူးတော်ကြောင့် အဆက်ဖွားသသူတယောက်ငါသိ၏ ။ ထိုသူသည်၊ယခု၁၄နှစ်ရှိပြီး၊ အသက်နှင့် ကိုယ်တကွပါသည်မပါသည်ကိုငါမသိ ၊ ဘုရားသခင်သိမြင်တော်မူသည်။ ထိုသူပင်အထက်မိုဃ်းကောင်းကင် တတိယ ဘုံနေရာသို့ ထိုင်ချီးပင့်ဆောင်ယူရသည်။ ထိုသူသည် ၊ အသက်နှင့်ကိုယ်နှင့်တကွပါသည်မပါသည်ကို ငါမသိဘုရားသခင်သိမြင်တော်မူသည်။ ထိုသူသည်အထက်လွန်မြတ်

သော သချင်းသာကိုစံသသူတို့အရပ်တိုင်းချီးပင့် မြှော်၍ လူတို့ မပြောအပ်မပြောနိုင်သော နက်နဲသော စကားကိုကြားအကြောင်းကိုငါအတတ်သိရသည်။ ထိုသူအဘို့ငါဂုဏ်ပြုနိုင်သည်။ ငါကိုယ်ဆိုင်ရာအနေထောင်သော်ငါ၏နာကြင်ခြင်းသည်းခံခြင်းတစုံတခု၌ဂုဏ်ပြုမည်။ ငါဂုဏ်ခံလိုလျှင်ပညာရှိအရာမကြူးလွန်ဘဲအမှန်ဂုဏ်ခံအပ်လမည်။အဘယ်ကြောင့်နည်း။ငါဆိုလျှင်စကားအမှန်သာဆိုလမည်။သို့ရာတွင်သူတပါးငါ၌မြင်သည် ၊ ငါကကြားသည်ထက် အဘွန့်အမြတ်ငါသာထင်မှတ်မည်စိုးသည်။ ငါတိတ်ဆိတ်မပြောနေပါသည်။သည်မှတပါးအလွန်ကြီးမြတ်သောအရာတို့ကိုသိမြင်ခြင်း၌ နှစ်လုံးကြွားမည်စိုးသည်။ စာတန်၏တမန် ငပါးကိုပုတ်သဖြင့်ငါ၌ကိုယ်စိတ်နောက်ခြင်းကိုနှိမ့်ချခြင်းပြုရအောင်အခွင့်ရသည်။ ထိုကြောင့်၍တမန်ငါမှဖယ်ခွာသွားမည်အကြောင်းတိုသုံးကြိမ်ဘုရားသခင်မှာ အသနားခံလျှင်၍သို့မျှာဒိတ်တော်ခံရသည်။ငါမှစောင့်မခြင်းသင်၌တန်လောက်သည်။ အကြောင်းမူကား ဆင်းရဲခြင်း၌တန်ခိုးအားသည်စုံလင်တတ်သည် ။ ထိုကြောင့် သခင်ယေရှုခရိသျှတူးတန်ခိုးအားငါ၌ ကျိန်းဝပ်မည်အကြောင်း၍နှိမ့်ချဆင်းရဲခြင်း၌ ငါ၏အသရေဂုဏ်ထင်မှတ်ပါမည်။

## Gospel. Luke viii. 4—15.

### သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ များစွာသောမြို့တို့မှထွက်၍ အတိုင်း
မသိသောလူတို့သည် ။ သခင်ယေရှုးရှိရာသို့ဆော
ဆောလျှင်လျှင်ရောက်ကြ၍ စုရုံးနေကြသောအခါ
သခင်ယေရှုးသည် ဤသို့ဥပမာပုံဖြင့်ဟောတော်မူ
၏။ မျိုးစေ့ကိုကြဲအံ့သောငှါ ။ မျိုးစေ့ကြဲသောသူသည်
ထွက်သွား၍မျိုးစေ့ကိုကြဲရာတွင် ။ အချို့သောမျိုး
စေ့တို့ကို လမ်းခရီး၌ကျ၍ လူတို့သည်နင်းမိသည် ။
ကျေးငှက်တို့သည်လည်းစားကုံ၏ ။ အချို့သောမျိုး
စေ့တို့ကိုကျောက်ပေါ်၌ကျ၍ပေါက်ညားသော်လည်း
စိုစိုမရှိသောကြောင့် အပင်ချောက်တတ်၍ သေကုံ
၏ ။ အချို့သောမျိုးစေ့တို့ကို ဆူးပင်ရှိသောအရပ်၌
ကျ၍ ဆူးတို့နှင့်တကွ ပေါက်ရောက်လျှင်ဆူးတို့သည်
လွှမ်းမိုး၍သေပျောက်လေ၏။ အချို့သောမျိုးစေ့တို့
ကို ကောင်းမြတ်သောမြေ၌ကျ၍ ပေါက်ရောက်သ
ဖြင့်အဆအရာပြန်ပွားများလေ၏။ ဤသို့ဥပမာပုံကို
ဟောပြောတော်မူ၍ နားကြားသသူတို့အား သတိ
နှင့်တကွမှတ်သားကြပါတော့ဟူ၍အသံတော်ဖြင့်
ကြွေးကျော်တော်မူ၏ ။ တပည့်တော်တို့ကလည်း ။
ဤဥပမာသည်အဘယ်သို့အနက်အဓိပ္ပာယ်ရှိသနည်း
ဟုလျှောက်ကုံ၏ ။ ကိုယ်တော်သည်တပည့်တော်
တို့အားဤသို့ပြန်ပြောတော်မူ၏။ ချစ်သားတို့အထူး

သဖြင့် နက်နဲသော ဘာသာစကားတို့ကို သင်တို့သိအပ်သည် ။ သူတပါးတို့သည်မျက်စိမြင်လျက် မမြင်သကဲ့သို့ ။ နားကြားလျက်မသိမကြားနားမလည်သကဲ့သို့ဖြစ်၍ ပုံဥပမာကိုဟောပြောသတည်း။ ပုံဥပမာ၏အနက်ကားဤသို့ရှိ၏ ။ မျိုးစေ့သည်ကားဘုရားသခင်နှုတ်ကပါတ်တော်နှင့်တူ၏ ။ လမ်း၌ကျသောမျိုးစေ့တို့သည်ကား ။ ဘုရားသခင် နှုတ်ကပါတ်တော်ကိုနာယူပြီးမှ တဖန်ယုံမှတ်ခြင်း မရှိစေခြင်းငှါ ။ အကျွတ်တရားကိုမရစေခြင်းငှါ ။ နတ်ဆိုးသည်လာ၍တရားစကားတော်ကိုစိတ်နှစ်လုံးမှနှုတ်လေသည်နှင့်တူ၏ ။ ကျောက်ပေါ်၌ကျသောမျိုးစေ့တို့သည်ကား။နှုတ်ကပါတ်တော်ကိုကြားလျှင်ဝမ်းမြောက်ဝမ်းသာစိတ်နှစ်လုံး၌သွင်းပြီးမှ ။တခဏမျှသာယုံမှတ်၍ တဖန်တစုံတခု နှောင့်ရှက်ခြင်းဖြစ်လျှင်အမြစ်မှုလရင်းမရှိသကဲ့သို့ နောက်သို့ဆုတ်၍ရွေ့လျော့လေသည်နှင့်တူ၏ ။ ဆူးပင်ရှိရာအရပ်၌ကျသောမျိုးစေ့တို့သည်ကား ။ နှုတ်ကပါတ်တော်ကိုကြား၍ရှိပြီးမှ တဖန် အမှု အရာဥစ္စာ ရွှေငွေကိုလေသာ ကာမဂုဏ်တို့ကြောင့် စိတ်နှစ်လုံး မငြိမ်မဝတ်ပုမ်းလွှမ်းပြန်လေ၍ အသီးကို မသီးလေသည်နှင့်တူ၏ ။ ကောင်းမြတ်သောမြေ၌ကျသောမျိုးစေ့တို့သည်ကား ။နှုတ်ကပါတ်တော်ကိုကြား၍ဖြောင့်မတ်စင်ကြယ်သောနှစ်လုံး၌သွင်းပြီးမှမြဲမြဲစွာအားထုပ်၍ စောင့်ငံ့မျှော်လင့်ခြင်းနှင့် သဘောင်ရှက်တျှင့်

လေ့သောကြောင့် အသီးကိုသီးလေကုံသည်နှင့် တူ၏။ဟောတော်မူသည်။

——00——

QUINQUAGESIMA SUNDAY.

ပါသျကူးပွဲမရောက်မှီပညာ့မတနင်္ဂနွေနေ့။

## Epistle. 1 Cor. xiii. 1—13.

သံပေါက်လူးကောင်ရင်တိမြို့သားတို့အားရေးထားသောပဌမဆုမ္ဘစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့ ။ လူသကြွားတို့စကားမျိုးအပေါင်းငါပြောနိုင်ညားသော်လည်း၊ချစ်ခင်လေးမြတ်ခြင်းသ်ငါ၌မရှိလျှင် ကြေးမြည်သံစဉ်မြည်သကဲ့သို့ငါဖြစ်၏။နောက်ဖြစ်လတန့်သောအရာ၊နက်နဲသောဘာသာစကား၌ပွင့်လင်းစွာသိမြင်ခြင်း ၊ ရင်ပညာညာဏ်အစွန်းလေသမျှ ၊ ရင်တောင်တဘက်မှတဘက်သို့ကူးအောင်ငါ၌ဤလောက်ယုံကြည်ခြင်းရှိညားသော်လည်း။ငါ၌ချစ်လေးမြတ်ခြင်းသ်မရှိလျှင်ငါဘယ်အရာမဟုတ်။ ငါ၌ရတတ်သမျှဥစ္စာဆင်းရဲသူတို့အား အစားကျွေးဝေဌညားသော်လည်း ။ မီးလောင်စေခြင်းငှါ ကိုယ်ကို ကိုယ်အပ်နှံညားသော်လျှင်း ။ ချစ်ခင်လေးမြတ်ခြင်းသ်အလျှင်ငါ၌မရှိလျှင်ထိုအရာရှိလေသမျှငကိုဲ၌ အကြိုးဗြိဗြိမပေးမဖြစ် ။

ချစ်ခင်လေးမြတ်ခြင်းသည်ကား စိတ်ရှည်တတ်၏။ ကျေးဇူးပြုတတ်၏ ။ ချစ်ခင်လေးမြတ်ခြင်းသည် ဂုဏ်ပြိုင်ခြင်းမရှိ ၊ မလျှောက်ပတ်စွာမကျင့်တတ် ၊ ဝါကြွားခြင်းမရှိ၊ မာန်မာနမရှိ။ မိမိအကြိုးတစုံတခုမှုမရှာဖွေ။ ဝန်တိုခြင်းမရှိ။ အပြစ်ရှိသည်ဟုမထင်တတ် ၊ မတရားသောအမှု၌ ဝမ်းမြောက်ခြင်းမရှိ ၊ သမ္မာတရား၌ဝမ်းမြောက်ခြင်းရှိ၏ ၊ ခပ်သိမ်းသောအရာကိုသည်းခံတတ်၏၊ ခပ်သိမ်းသောအရာကိုယုံတတ်၏။ ခပ်သိမ်းသောအရာကိုမြော်လင့်တတ်၏။ ခပ်သိမ်းသောအရာကိုခံချိတတ်၏ ။ နောက်ဖြစ်လတန့်သောအရာဟောနိုင်ခြင်း ၊ လူမျိုးတို့စကားပြောဆိုနိုင်ခြင်း၊ အတတ်ပညာရှိသမျှတို့ကုန်စင်လမည့်။ ချစ်ခင်လေးမြတ်ခြင်းသည်ကားအလျှင်ကုန်စင်နိုင်မည်မရှိ ။ ငါတို့သည်ယခုမစုံမလင်သိတတ်ကြ၏ ။ ပရောဖက်တညာဏ်နှင့်မစုံမလင်ဟောတတ်ကြ၏။ စုံလင်ခြင်းသို့ ရောက်သောအခါမူကား မစုံလင်သမျှတို့သည်ကွယ်ပျောက်ကြလိမ့်မည်။ ငါငယ်စဉ်ကာလ ငယ်သည့်အလိုက်ပြောပေသည် ။ သူငယ်နှစ်သက်သည့်အရာအတိုင်းငါနှစ်သက်လေသည်။ သူငယ်တို့ကြံစည်ချက်အတိုင်းငါလည်းကြံစည်သည်။ ကြီးရင့်သည့်ကာလမှာ သူငယ်တို့ဆိုင်သမျှ ငါစွန့်ပြစ်သည် ။ ယခုငါတို့မှန်တွင် ရင်မှောင်၌ သဏ္ဍာန်လက္ခဏာမြင်ရသကဲ့သို့မြင်ရသည်။ ထိုကာလမှာ မျက်မှောက်မြင်ရသကဲ့သို့မြင်ရတော့မည်။ ယခုမှာ

ငါအခင်တန်အနည်းမျှသိရသည်။ ထိုကာလမူကား ဘုရားသခင်သည်ငါကိုသိသကဲ့သို့ငါသိပါမည်။ ဤတသက်၌ယုံကြည်ခြင်း မျှော်လင့်ခြင်း၊ ချစ်လေးမြတ်ခြင်းအကျင့်သုံးပါးရစ်တည်၍ မြဲစွဲမပျောက်မပျက်ရှိသည်။ သို့ရာတွင်ချစ်လေးမြတ်ခြင်းသည်ထိုသုံးပါးထက်အလွန်ကြီးမြတ်ဖြစ်သတည်း။

## Gospel. Luke xviii. 31—43.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုအခါ။ တနေ့သ၌သခင်ယေရှုးသည်တကျိပ်နှစ်ပါးသောတပည့်တော်တို့ကိုခေါ်တော်မူ၍ ဤသို့အမိန့်တော်ရှိ၏။ ယခုငါတို့သည်ဇေရုသလင်မြို့သို့သွားတော်မူမည်။ ရှေးပရောဖက်တ ရဟန္တာတို့ကျမ်းစာတွင်လူသားနှင့်ဆိုင်လေသမျှကိုမှတ်ထားသည့်အချက်အတိုင်းထိုမြို့၌အကုန်အစင်အမှန်အတန်ဖြစ်တော့မည်။ လူသားကိုဇူဒေအရူးတို့လက်မှအချားဘာသာလူတို့ကိုအပ်၍။ အချားဘာသာလူတို့သည်ကျီစယ်ခြင်း၊ ရိုက်ပုတ်ခြင်း၊ တံတွေးနှင့်ထွေးခြင်းကိုပြုပြီးမှအသေသတ်လမည်။ သေ၍တဖန်သုံးရက်တိုင်လျှင်ရှင်ပြန်လမည်။ ဤသို့ဟောပြောတော်မူသောစကားကိုတကျိပ်နှစ်ပါးသောတပည့်တော်တို့သည် တစုံတခုမျှနားမလည်။ ထိုစကားတော်သည် တကျိပ်နှစ်ပါးသော တပည့်တော်တို့၌

ကွယ်ဝှက်ဖုံးဖိတ်လျက်ဖြစ်၍ အမိန့်တော်အချက်ကိုနားမလည်နိုင်။ ထိုနောက်မှသခင်ယေရှုသည်ကြွတော်မူ၍ဇေရိကိုမြို့အနီးသို့ရောက်တော်မူလျှင်လမ်းခရီး၌လူကန်းတယောက်သည်ထိုင်၍တောင်းစားလေ၏။ထိုလူကန်းသည်ခပ်သိမ်းသောသူတို့သွားလာသည့်အသံကိုကြားလျှင်။ အကြောင်းအဘယ်သို့ဖြစ်သနည်းမေးလျှင်။ လူအအပေါင်းတို့လည်းသခင်ယေရှုနာဇရက်နှကြွလာသည်ပြောလျှင်၊ သူကလည်း ဓါဝိဒ်၏သားတော်ယေရှုသခင် တပည့်တော်ကိုကယ်မသနားတော်မူပါ ဟစ်ကျော်လျက်ဆိုသည်ကိုသခင်ယေရှုရှေ့သွားသည့်သူတို့ကမဟစ်မကျော်နှင့်တိတ်စေဆိုလျှင် ။ ထိုး၍ပြင်းစွာဓါဝိဒ်သားတော်ကယ်မပါဟူ၍ဟစ်ကျော်ပြန်လေသည်။ သခင်ယေရှုလည်းရပ်တော်မူ၍ ထိုသူကိုငါ၏ရှေ့တော်သို့လာစေအမိန့်တော်ရှိလျှင်။ လူကန်းသည်ရှေ့တော်သို့လာ၍ ၊ သင့်ကိုငါအဘယ်သို့ပြုရမည်နည်း ။ အမိန့်တော်ရှိလျှင်အရှင်ဘုရားမျက်စိမြင်အောင်တပည့်တော်အားပြုတော်မူပါလျှောက်၏ ။ သခင်ယေရှုလည်း။ သင်၏မျက်စိမြင်စေလော့ ။ သင်၏ယုံကြည်ခြင်းသည် သင်ကိုကယ်မပြီဟုမိန့်တော်မူ၏။ ထိုခဏ၌သူလည်းမျက်စိမြင်လေ၏။ ထိုသို့မြင်လျှင်သခင်ယေရှုနောက်တော်သို့လိုက်၍ဘုရားရှင်ကျေးဇူးတော် ဂုဏ်တော်အပေါင်းကို ချီးမွမ်းပြောစားလေ၏။ ခပ်သိမ်းသောသူအပေါင်းတို့

လည်းထိုအကြောင်းကိုမြင်လျှင်။ ဘုရားသခင်တန်ခိုးတော်ကိုချီးမွမ်းအံ့အောပြောကြလေ၏သတည်း။

——00——

ASH WEDNESDAY.

ဝါကြီးဝင်သည့်နေ့။

Lesson. Joel ii. 12—19.

ယောအဲလ်ပရောဖက်တရေးထားသောကျမ်းထုပ်စကားတည်း။

ဘုရားသခင်မိန့်တော်မူသည့်အချက်ကား ။ ဝါရှောင်ခြင်းငိုကျွေးညည်းတွားခြင်းဖြင့်စိတ်နှစ်လုံးအကြွင်းမဲ့ငါ့ဆီသို့ပြန်လာကြကုံ။ သင်တို့အဝတ်ကိုမဟုတ် သင်တို့နှစ်လုံးကိုဆုတ်လျက် သင်တို့ကိုအစိုးရသော ဘုရားသခင်သည့် အလွှန်ကောင်းမြတ်ခြင်းသနားသည်းခံကယ်မခြင်း၊ ငတ္တိုဆင်းရဲခံခြင်း၌ ကြင်နာခြင်းတို့ကို နှစ်လုံးတော် ရှိသောကြောင့်ဤသခင်ဆီသို့ပြန်လည်ကြကုံ ။ ဘုရားသခင်တို့သို့မျက်နှာလည်မည် ။ ငတ္တိုအပြစ်ကိုကြည့်လွှတ်မည်။ သင်တို့ ကိုးကွယ်သောသခင်ကိုလှူတန်းပူဇော်ရာရှိအောင်ကောင် အကျိုးစက်ချပေးမည်လော ။ မည်သူမျှမသိနိုင် ။ တံပိုးခရာတီးမှုတ်ပါစေကုံ ။ စင်ကြယ်သေသတ်သော ဝါရှောင်ခြင်းကိုပြုကြစေ ။ တယောက်မျှ မကြွန်မကြွင်းလူအပေါင်း စည်းဝေးစုရုံး

လျက်ရှိစေ ။ ခပ်သိမ်းသောသူတို့ကိုခေါ်၍လာပါ
စေ ။ ဤများစွာသောလူအပေါင်းတို့ကောင်းမြတ်
သောဘုရားရှင်အမှုတို့ဖြင့်အသင့်ပျင်ဆင်ရှိပါစေ၊
သက်ကြီးတို့မှစ၍ နို့စို့သူငယ်မလွတ် သူငယ်သူမျို
အပေါင်းတို့စုရုံးကြ ။ အိမ်ထောင်ဦးလူသည်အ
မြဲအိမ်နေရာမှသွာဖယ်နေစေ ။ အိမ်ထောင်ဦးမိန္ဒ
ငယ်လည်းအမြဲနေရာမှသွာရှောင်နေစေ ။ ဘုရားသ
ခင်အမှုဆောင်ရဟန်းသင်္ယာတို့ ကျောင်းဦး ဘုရား
စင်ကြားမှ မြေဦပြပ်ဝပ်၍ ငိုကျွေးခြင်း မျက်ရည်ယို
လျက်ကြီးစွာအသံဖြင့်ဤသို့ဆုတောင်းလျှောက်ပါ
စေ ။ ဘုရားသခင်ကညာလွှတ်တော်မူပါ ။ ဘုရားသ
ခင်ကိုကိုးကွယ်သောလူမျိုးတို့အပြစ်ကိုကညာလွှတ်
တော်မူပါ ။ ဘုရားသခင်အမွေဆိုင်ရာလူမျိုးအချား
လူမျိုးတို့အောက်ခံ၍ ကဲ့ရဲ့ရှက်ကွဲစရာသို့မရောက်
ပါစေနှင့်။ အချားလူမျိုးတို့သည် ထိုသူတို့ဘုရားသ
ခင်ဘယ်မှာရှိသနည်း အဘယ်ကြောင့် သို့ဆိုသည်
ကိုခံနိုင်မည်နည်း ။ ဘုရားသခင် မိမိကိုယ်ကိုးကွယ်
သောနေရာဌာဏကို အာရုံစိုးရိမ်ကြောင့်ကြခြင်းရှိ
သကဲ့သို့ဆင်ချင်တော်မူ၍ သူ၏လူမျိုးတို့အားသဒ္ဒါ
လေးမြတ်တော်မူ၍ အပြစ်ကိုကညာလွှတ်တော်မူသ
ဖြင့်ဤသို့ဗျာဒိတ်တော်ပြန်သှ် ။ ပြဥ့်စလေသံအောင်
စပါးဆံစပျစ်ရည်ဆီရောက်စေ၍။ နောက်နောင်အ
ချားလူမျိုးတို့၌ကဲ့ရဲ့ရှက်ဖွယ်ရာသင်တို့ဖြစ်အောင်။
ငါမခံပြီမိန့်တော်မူ၏။

## Gospel. Matt. vi. 16—21.

## သ်မာတဲအ္စူးရေးထားသောကျမ်းတုပ်စကား တည်း။

ထိုကာလသခင်ယေရှုးသည်။ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ သင်တို့သည်ဝါရှောင်သည့်ကာလ၊ ဤပေါ်ဘရိတတို့ကဲ့သို့သင်တို့သည်မျက်နှာညှိုးငယ်ခြင်းမရှိကြနှင့်။ လူအပေါင်းတို့သည်ဝါရှောင်ခြင်းကိုပြုပေသည်ဟူ၍သိမြင်စေလိုသောနှစ်လုံးနှင့်ထိုသူတို့သည်မျက်နှာညှိုးငယ်ခြင်းကိုပြုလေသည်။ ဟုတ်မှန်ရာသင်တို့ကိုငါမြွက်ဆိုသည်။ ထိုသူတို့သည်ရထိုက်သည့်အကျိုးကိုခံရချေပြီ။ သင်မှာဝါရှောင်သည့်ကာလ၊ ဦးခေါင်းကိုသုတ်သင်လိမ်းကျံခြင်း၊ မျက်နှာကိုဆေးကြောခြင်းဖြင့်ကျဉ်ရှောင်ဝါတော့။ သင်ဝါရှောင်သည့်အရာကိုလူတို့မသိစေရအောင်ဆိတ်ကွယ်ရာအရပ်၌ ရှိသောသင်၏အဖတပါးတည်းသာ သိမြင်မည့်အကြောင်းကို လုလ္လပြုလော။ ကွယ်ဝှက်ဖုံးပိတ်လျက်ရှိသည့်ကိုသိမြင်သောသင်၏အဖတအကျိုးပေးအံ့သည်။ ဤမြေပေါ်၌စည်းစိမ်ဥစ္စာပရိက္ခရာတို့ကိုမဆည်းဘူးမစုရုံးကြနှင့်။ ထိုအရာတို့ကိုဤလောက၌ သံချေးပိုးသတ္တဝါအကြေးအညှော်တို့နှောင့်ရှက်ဖျက်တတ်သည်။ သူခိုးတို့လည်းဖွင့်လှစ်တူးယူတတ်သည်။ မိုးယံကောင်းကင်၌စည်းစိမ်ဥစ္စာပရိက္ခရာတို့ကိုစုရုံးသိုမှီထားကြတုံ။

ထိုအရပ်၌သံချေးပိုးသတ္တဝါမနှောင့်ရှက်ရ။ သူခိုး တို့လည်းမဖွင့်မလှစ်မတူးမယူနိုင်ကုံ။ အကြောင်းမူကား ဥစ္စာပရိက္ခရာသင်ထားသောအရပ်ရှိရာ ထိုအရပ်သို့ သင်၏စိတ်နှလုံးအစည်ရောက်သည်အမှန်ဖြစ်၏။

——oo——

## FIRST SUNDAY IN LENT.

## ဝါဝင်သည်နောက်ပဌမတနင်္ဂနွေနေ့။

## Epistle. 2 Cor. vi. 1—10.

သံပေါက်လူး ကောရိန်တိမြို့သားတို့အားရေးထား သောဒုတိယဆုမ္ဗစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ဘုရားသခင်ကျေးဇူးတော်ကို အကျိုးမဲ့သင်တို့သည်မခံအောင်။ ငါတို့သည်ဖြည်း ညှင်းသာယာသင်တို့အားတိုက်တွန်းကြသည်။ ပရောဖက်တနုတ်ဖြင့်ဘုရားသခင်၏သို့အမိန့်တော်ရှိသည်။ တော်သင့်မြတ်နိုးသောအချိန်၌၊ သင်တို့တောင်း လျှောက်တိုင်းငါသည်စောင်မပြဲ့စုံစေသည်။ ကျွတ် လွတ်ခြင်းချမ်းသာပေးတတ်သောနေ့၌ငါသည်သင် တို့အားကယ်ဆယ်တော်မူပေသည်။ ယခုတော်သင့် မြတ်နိုးသောအချိန်၊ ကျွတ်လွတ်ခြင်းချမ်းသာပေး တတ်သောနေ့၏နေ့တိုပင်ဖြစ်တော့သည်။ ငါတို့သည် ဆောင်ရွက်သည်အမှု၌၊ သူတပါးမထိမဲ့မြင်မပြုရ အောင်နှောင့်ရှက်ရှုံ့ရှာခြင်း၊ ခလုတ်မခင်စေခြင်း

ဌါငတို့သည်မစ၍သတိလုလ္လပြုရမည်။ ဤမျှမကဘု ရားသခင်စေလွှတ်သူတို့နှင့် ထိုက်လျော်စွာဆောင် ရွက်သဖြင့်၊ များစွာသောသည်းခံခြင်း၊ ညှည်းဆဲခံ ခြင်း၊ ဆင်းရဲခြင်း၊ မလွတ်နိုင်သောဘေးဥပါတ်နှင့် တွေ့ခြင်း၊ အရိုက်အပုတ်ခံခြင်း၊ နှောင်အိမ်ထဲ၌ ထားခြင်း၊ ပြစ်ရှာသောင်းကြန်းပြုခြင်း၊ လုပ်ဆောင် မှု၌ပင်ပန်းစေခြင်း၊ မအိပ်မစက်နေခြင်း၊ ဝါရှောင် ခြင်းအမှုတို့၌အရှည်သည်းခံခြင်းဖြင့်ဤမှတပါးစိတ် နှစ်လုံးစင်ကြယ်ခြင်း၊ပညာရှိခြင်း၊စိတ်ရှေခြင်းအအ မှုတွင်စိတ်ရှည်စွာစွဲ၍ အိစပိရိတူးသံတူးပြည့်စုံစွာ စွဲ၍အပေါ်ပြင်ပမဟုတ်၊ စိတ်နှစ်လုံးမှလာသောအ တိုင်းချစ်လေးမြတ်ခြင်းစွဲ၍၊ ဟုတ်မှန်သောတရားစ ကားဟောပြော၍ဘုရားရှင်ဂုဏ်ကျေးဇူးကိုပြသ၍ လက်ျာလက်ဝဲဟုတ်မှန်သောတရားစကားကို လက် နက်ကဲ့သို့စွဲကိုင်၍ သူတပါးတို့ကိုထင်ရှားပြုသည် ဖြစ်စေ၊ ယုတ်ညှန့်သိမ်ငယ်ပြုသည်ဖြစ်စေ၊ အရှက် ကွဲသည်ဖြစ်စေ၊ ချီးမွမ်းမြှောက်စားသည်ဖြစ်စေ၊ တော်ဖြောင့်ခြင်းဖြစ်လျက် လှည့်ဖြားတတ်သောသူ ကဲ့သို့သူတပါးငတို့ကိုထင်လျှင်၊ အသိအထင်ဖြစ် လျက်မသိမထင်ရောင်ပြုလျှင်၊အရှင်ဖြစ်လျက်သေ လုနီးထင်ယူကြလျှင်၊ သေလောက်အောင်မဟုတ်၊ နာကျင်စွာရိုက်သတ်ပုတ်သည်ကာလ၊ ငတို့စိတ်၌ ဝမ်းမြောက်ခြင်းနေသှ်ကို ညှိုးငယ်မကောင်းအများ သူရတတ်အောင်ပြုလျက်ကိုအလွန်ဆင်းရဲခြင်း ။

အရာရာပြည့်စုံလျက်၊ အလျှင်တစုံတခုမရှိသကဲ့သို့ လူတပါးတို့ထင်မှတ်သည့်ကာလမှစ၍၊အမှုကိစ္စရှိ သမျှတို့၌ ဟုတ်မှန်သောချာစွာဘုရားသခင်အမှုတော် တို့သည့်ဆောင်ရွက်ကြောင်းထင်ရှားပြသရမည်။

## Gospel. Matt. iv. 1—11.

### သံမာတဲအရေးရေးထားသောကျမ်းထုပ်စကား တည်း။

ထိုကာလ။ နတ်ဆိုး၏နှောင့်ရှက်ခြင်းကိုခံအံ့ သော၄ါကန္တာရအရပ်သို့အိစပိရိတူးသံတူးသည်သ ခင်ယေရှုကိုဆောင်ယူရလေသည်။ သခင်ယေရှု လည်း၊အရက်၄၀ညည့်၄၀ပတ်လုံး၀ါရှောင်တော်မူ ပြီးမှ၊အဆုံးစွန်၌ဆာမွတ်တော်မူ၏။ ထိုအခါနှောင့် ရှက်တတ်သောနတ်ဆိုးသည် အထံတော်သို့ရောက် ၍ဤသို့လျှောက်၏။ သခင်ဘုရားရှင်သားတော်မှန် လျှင်ဤကျောက်ခဲကိုပေါင်မုံ့ဖြစ်အောင်အမိန့်တော် ရှိပါလျှောက်လျှင်၊ သခင်ယေရှုလည်းဤသို့ပြန် ပြောတော်မူ၏။ ပေါင်မုံ့သာလျှင် လူတို့အသက်ကို ရှင်စေနိုင်သည်မဟုတ်။ ဘုရားသခင်ရွေနှုတ်တော် ထွက်ဖြင့်လည်း လူတို့အသက်ကိုရှင်စေနိုင်၏ဟု ကျမ်းတွင်မှတ်သားလျက်ရှိသည်။ ထိုအခါနတ်ဆိုး သည် သခင်ယေရှုကိုသန့်ရှင်းသောမြို့သို့ဆောင်ယူ ၍မြင့်လှသောကျောင်းအရပ်ပေါ်တွင်တင်ထားပြီး

လျှောင်ဤသို့လျှောက်ပြန်၏။ ကျမ်းစာတွင်ပါသည်။ သကြားတို့ကိုကိုယ်တော်မြွတ်အပ်တော်မူသည်။ သကြားတို့လည်း လက်ဖြင့်ချေတော်ကိုကျောက်အစရှိသည်တို့ဖြင့်မထိမခိုက်ရအောင်မစချီပင့်လမည်။ ထိုကြောင့်ဘုရားရှင်သားတော်မှံလျှောင် ဤမြင့်သောအရပ်မှအောက်သို့ကိုယ်ကိုချလောဆိုလျှောင်။ သခင်ယေရှုးသည်၊ သင်၏အရှင်ဘုရားရှင်ကိုစုစမ်ခြင်းဖြင့်မရှိမသေမပြုလင့် ရေးမှတ်လျက်တချက်ရှိပြန်သည်မိန့်တော်မူ၏။တသစ်တဖံနတ်ဆိုးသည်သခင်ယေရှုးကိုယ်တော်ကို မြင့်လှစွာသောတောင်ပေါ်သို့ပင့်ဆောင်၍သွားလေ၏။ထိုအရပ်ကလည်းကမ္ဘာတွင်ရှိသောပြည်နိုင်ငံဟူသမျှမှစ၍ထိုပြည်နိုင်ငံ၌စံရသည့်စည်းစိမ်ဂုဏ်သရေတို့ကို ခင်းကျင်း၍ပြပြီးလျှောင်ဤသို့လျှောက်၏။ သခင်သည်ညွတ်ပြပ်လျက်ငအားရှိခိုးကိုးကွယ်လျှောင်၊ ယခုပြလေသမျှကိုပေးအပ်မည်ဆိုလျှောင်။ သခင်ယေရှုးလည်းအနှောင့်အရှက်ပြုတတ်သသူသင်သွားလေလော ။ သင်၏အရှင်ဖြစ်တော်မူသောဘုရားသခင်အား ရှိသေကိုးကွယ်ရမည်။ ဤသခင်တပါးတည်းကိုသာလည်းအစေခံရမည့်ကျမ်းစာ၌မှတ်သားလျက်ရှိသည် မြွက်တော်မူ၏။ ထိုအခါမှနတ်ဆိုးသည်မနှောင့်မရှက်ဝန့်ဘဲဆုတ်ဆဲလေသည်။ ထိုခဏခြင်းသကြားတို့ချဉ်းကပ်၍အလိုတော်ရှိသောအရာတို့ကိုကပ်ကြကုံ၏။

## SECOND SUNDAY IN LENT.

## ဝါဝင်သည်နောက်ဒုတိယတနင်္ဂနွေနေ့။

### Epistle. 1 Thess. iv. 1—7.

သံပေါက်လူးတဲသာလောနိကမြို့သားတို့အားရေး
ထားသောပဌမဆုမ္ဗစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့ ။ ဘုရားသခင်မျက်နှာတော်ရ
အောင်အဘယ်သို့ကျင့်ဆောင်ရမည်ကို ငတို့သည်
သွန်သင်၍ သင်တို့သည်သိပြီးမှတိုးပွားသည်ထက်
တိုးပွား၍အကောင်းအမြတ်ပြည့်ဝမည်အကြောင်း ။
ငတို့ဆုမ္ဗသည်နှင့်အညီဆင်ခြင်ခြင်းအနေကိုထိန်း
သိမ်းမည်အကြောင်း သခင်ယေရှုခရိသ္ဗုတူးမျက်
နှာတော်ကိုထောက်၍ ငတို့သည်သင်တို့ဖြည်းညှည်း
သာယာစွာအခွင့်ဆောန္နိုးဖန်ဆိုသည်။သခင်ယေရှု
များဒိတ်အမှာတော်ရှိသည်နှင့်အညီ သင်တို့ကိုငါ
ပညာတ်ထားသည်အချက်ကိုသင်တို့သည် အသိပင်
ဖြစ်သည်။ ဘုရားသခင်ရွှေစိတ်တော်အချက်သည်
ကား။သင်တို့သည်ရာဂကြူးလွန်ခြင်းကိုကြည်ရှောင်၍
မလျော်ပတ်သောစိတ်အလို ဘုရားတရားမသိသော
ဇာတိအူးတို့ပြုသကဲ့သို့သင်တို့မလိုက်ဘဲ မိမိကိုယ်
သန့်ရှင်းစင်ကြယ် ကောင်းမြတ်သောတရားနှင့်အ
ညီထိန်းသိမ်းလေ့ကျက်၍ အလွန်အကောင်းအ
မြတ်သင်တို့သည်ဖြစ်စိမ့်သောရွှေစိတ်တော်တည်း။

သည့်မှတပါးမိမိကိုယ်နှာကြွင်အောင်ဖြစ်ရှာနှောင့်ရှက်အမှုမည်သူမပြုစေနှင့်။ ထိုအဖြစ်ရှိသမျှတို့ကိုနှုတ်တော်ထွက်နှင့်အညီငါတို့သည်အမှန်သက်သေပြောခံသည့်အတိုင်းဘုရားသခင်သည်ရန်တုံ့မူလမည်။ ဆိုးညစ်ညှမ်းသောအရာ၌ ငါတို့သည်နေဝပ်မည်မဟုတ်။ အလွန်ကောင်းမြတ်ဖြစ်စိမ့်မည်ဘုရားသခင်သည်ငါတို့ကိုရွေးခေါ်နှုတ်ယူတော်မူသည်။

## Gospel. Matt. xvii. 1—9.

## သံမာတဲအရှူးရေးထားသောကျမ်းထုတ်စကား တည်း။

ထိုကာလ။ တနေ့သ၌သခင်ယေရှုသည် ပေတရုး၊ ယာကော၊ ယာကောညီဖွင်။ ဤသုံးယောက်သောတပည့်တို့ကိုအတူခေါ်တော်မူ၍ လူဆိတ်ညံ့ရာအရပ်ဖြစ်သော မြင့်လှသောတောင်သို့ ဆောင်ယူကြွတော်မူ၏။ တောင်ထိပ်ရောက်လျှင်ထိုတပည့်တော်တို့ရှေ့ ထူးခြားသော ကိုယ်တော်သဏ္ဍာန်ကို ယူတော်မူ၏ ။ မျက်နှာတော်သည်ကားနေကဲ့သို့ထွန်းတောက်၏။ အဝတ်တော်သည်ကားဖြူစင်စွာသောဆီပေါက်နှင့်တူ၏ ။ ထိုခဏခြင်းမိုဇယ်နှင့်ဧလိယရောက်လာလျှင် သခင်ယေရှုနှင့်အတူတကွပြောဟောလျက်နေသည်ကိုတပည့်တော်တို့မြင်ကြကုံသည်။ ထိုအခါ ပေတရုးသည် သခင်ယေရှုအားလျှောက်၏။ သခင်ဘုရားဤအရပ်၌နေဖွယ်ရှိ၏။ နေတော်မူ

လိုသ်ရွှေစိပ်တော်ရှိလျှင်နေရုံအရပ်တဲသုံးဆောင် ။ အရှင်ဘုရားကျိန်းဝပ်ရာတဆောင်။ မိဇယ်ကျိန်းဝပ်ရာတဆောင်။ လေိယကျိန်းဝပ်ရာတဆောင်ဆောက်လုပ်ကြအံ့လျှော်၏။ ဤသို့ပေတရုးလျှော်ဆိုသည်အတွင်း၌အရောင်ဖြင့်ထွန်းတောံသောတိမ်သည်ထိုတပည့်သုမ္ပားတို့အပေါ်၌လွှမ်းမိုး၏ ။ တိမ်ထဲမှထွက်သောအသံတော်လည်းဤသို့ကျွေးကျော်၏။ ဤသူအားငါချစ်လေးမြတ်ခြင်း အလွှန်နှစ်သက်အားရခြင်းရှိသောငါ၏သားတော်ပင်ဖြစ်သည်။ သူ၏နူတ်တော်ထွက်အတိုင်းဆောင်ရွက်နာခံကြကုံ။ ထိုအသံကိုတပည့်တော်တို့ကြားလျှင်မြေပေါ်၌ မျက်နှာအပ်လျက်ရှိ၍မိန်းမောတွေဝေ၏။ ကြောက်လန့်တုန်လှုပ်ခြင်းဖြင့်ရှိကြလေ၏။ သခင်ယေရှုးသည်ထိုသူတို့အပါးသို့ကြွတော်မူ၍ လက်တော်ဖြင့်ထိုသူတို့အပေါ်၌တင်၍ ထကြကုံမကြောက်ရွံ့လင့် မိန့်တော်မူ၏။ တပည့်တော်တို့လည်းမော်၍ကြည့်ကြတုန်သဖြင့်သခင်ယေရှုးမှတပါးမည်သသူကိုမျှ မမြင်ရှိသည်။ အတူတကွတောင်မှဆင်းသောအခါ၌လည်း သခင်ယေရှုးသည် ထိုတပည့်တို့ကိုဤသို့မြစ်တားတော်မူသည်။ သင်တို့မြင်သောအကြောင်းကိုလူ၏သားတော်သေသောသူတို့အစုမှရှင်တော်မမူမှီ မည်သသူကိုမျှမပြောနှင့်ဟုပညာတ်တော်မူ၏။

——၀၀——

## THIRD SUNDAY IN LENT.

## ပါဝင်သည့်နောက်တတိယတနင်္ဂနွေနေ့။

### Epistle. Ephes. v. 1—9.

သံပေါက်လူးအဲဖဲသုမြို့သားတို့အားရေးထားသော
ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့အားဘုရားသခင်သည်
ချစ်လေမြတ်သည့်သားဖြစ်၍ ဘုရားသခင်နည်းတူ
ကျင့်အောင်အားထုတ်ကြကုံ။ ငတို့ကိုအလွန်ချစ်ခင်
၍ဘုရားသခင်ရှေ့မွှေးကြိုင်စွာအနံ့လျှုတန်ပူဇော်ရုံမိ
မိကိုယ်တော်မြတ်ကိုငတို့အတွက် ဆက်ကပ်သောသ
ခင်ယေရှုးခရိသျှတူးပုံသေထားသောနေဒံသို့လိုက်
၍ချစ်ခင်လေးမြတ်ခြင်းတရားနှင့်အညီဆောင်ရွက်
ကြကုံ။ သင်တို့တွင်ရာဂကျူးလွန်ခြင်းအရာရာ၌ဆိုး
ညစ်ခြင်းအကြောင်း၊ မသင့်လောဘကြီးခြင်းအမှု
တို့ကိုစကားမျှသင်တို့၌မကြားစေနှင့်။ ဘုရားသခင်
နှင့်ချည်းကပ်၍အလွန်ကောင်းမြတ်သောသူတို့နှင့်
ထိုအမှုအရာတို့ကိုအဝေးမှကွာပယ်သင့်ပါသည် ။
အကြီးမဲ့ကဲ့ရဲ့သင်းကျိုးပျက်ချော်သီလအရာ ညစ်
ညမ်းစေတတ်သောအခွင့်တို့ကိုမပါရောက်စေနှင့်။
ဘုရားသခင်ကျေးဇူးတော်ကို ချီးမွမ်းသောစကား
ကိုသာ၍သုံးကြကုံ။ ကာမရာဂကျူးလွန်သသူ၊ မ
လျှောက်ပတ်ညစ်ညမ်းစွာကျင့်သသူ၊ လောဘတပ်

ငွန်းခြင်းအားကြီးသသူ၊ ဤသူအကျင့်သည်မလူပမ်း
မှန်ဆင်းတုတို့ကိုကိုးကွယ်ခြင်းနှင့်ပင်တူဖြစ်၍ သ
ခင်ယေရှုးခရိသျှတူးနှင့် ဘုရားသခင်နိုင်ငံ၌ ဖြစ်
သောအမွေတော်ကိုအစုမခံရကြောင်းကျင်ဟဉ်းမြဲ
မြဲမှတ်သိကြကုံ။ အမြစ်အရင်းကင်းသောစကားတို့
ဖြင့်မည်သူတယောက်မျှသင်တို့ကိုရွှေလျော့လှည့်ဖျား
ခြင်းမပြုစေနှင့်။ ထိုမဟုတ်သောအမှုအပြစ်တို့
ကြောင့်ယုံမှတ်နိုင်ခဲ့သောလူတို့အပေါ်၌ ဘုရားသ
ခင်အမျက်ဒေါသရောက်သည်။ ထိုကြောင့်ဤသူတို့
နှင့်မည်သည်အခွင့်ဖြင့် မစပ်မရှက်မနည်းမတူသည်၊
နှင့်၊ အထက်အလျှင်သင်တို့သည်မှောင်အလယ်
တွင်ရှိကြသည်။ ယခုမှာဘုရားသခင်ကျေးဇူးတော်
ဖြင့်အလင်းအရောင်ပတ်လည်သင်တို့၌ အပြည့်ရှိ
သည်။ ထိုကြောင့်အလင်းရောက်သောသားတို့ကဲ့သို့
ကျင့်သွားလောကြ။ ထိုအလင်းသည်ကောင်းမြတ်
ဟုတ်မှန်တော်ဖြောင့်သောတရားနှင့်အညီ သင်တို့
၌ကုန်စင်စွာကျင့်ဆောင်နိုင်အောင်မစသဖြင့်များစွာ
အကျိုးပေးလမည်။

Gospel. Luke xi. 14—28.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလသခင်ယေရှုးသည်။ တယောက်သောသူ
၏ကိုယ်မှနတ်ဆိုးကိုနှင်လိုက်၏။ ထိုသူ၌နတ်ဆိုးရှိ
စဉ်၊အသောကဲ့သို့စကားမပြောနေသည်။နတ်ဆိုးကို

နှင်ထုတ်ပြီးမှ အလျှင်မပြောမဆိုနိုင်ရှိလျက် နေ၍ ပြောဆိုနိုင်လျှင်၊ လူခပ်သိမ်းတို့အံ့အောသတ်၍ရှိကြကုံသည်။ ထိုလူအပေါင်းတွင်အချို့သောသူတို့သည်ဘဲလ်ဇေဘုတ်နတ်ဆိုးအကြီးအတတ်ဂုဏ်နှင့်နှင်လိုက်ကြောင်းကိုကတိုက်ပြောဆိုကြ၏။ အချို့လည်းမိုဃ်းကောင်းကင်၌တစုံတခုသောတန်ခိုးပြမှုအကြောင်းကိုနှောင့်ရှက်ပြောဆိုကြ၏။ သခင်ယေရှုးလည်း ထိုသူတို့အကြံကိုစိတ်ထဲ၌သိမြင်၍ဤသို့အမိန့်တော်ရှိသည်။ ပြည်နိုင်ငံတိုင်းလူတို့အချင်းချင်းမသင့်ကွဲပြားကြလျှင်၊ ပျက်စီးခြင်းသို့ရောက်လမည်။တအိမ်ပြိုပျက်လဲလျှင်လည်း၊ အနီးရှိသောတအိမ်ကိုဖိစီးလမည်။ ထိုအတူလည်းကောင်း၊နတ်ဆိုးသည်မိမိကိုယ်နှင့်မသင့်ကွဲပြားလျှင် ဘယ်သို့သူ၏ပြည်နိုင်ငံမပျက်ခံနိုင်မည်လော။ သို့ဖြစ်ညားသော်လည်း၊သင်တို့သည်ဘဲလ်ဇေဘုတ်နတ်ဆိုးအကြီးအတတ်ဂုဏ်နှင့်နတ်ဆိုးတို့ကိုငါသည်နှင်လိုက်ကြောင်းကိုဆိုကြသည်။ငါသည်ဘဲလ်ဇေဘုတ်အတတ်ဂုဏ်နှင့်နတ်ဆိုးတို့ကိုနှင်ထုပ်လိုက်သဖြင့်၊သင်တို့အမျိုးအနွယ်သားတို့သည် ဘယ်အတတ်နှင့်နှင်ထုပ်သနည်း။ သို့ဖြစ်သောကြောင့်သင်တို့အမျိုးအနွယ်သားတို့သည်၊ တနေ့သ၌သင်တို့အပြစ်ကိုဖေါ်ထုပ်၍ပြလမည်။ သို့မဟုတ်၊ဘုရားသခင်တန်ခိုးအားနှင့်နတ်ဆိုးတို့ကိုငါသည်နှင်လိုက်သည်မှန်လျှင် သင်တို့တွင် ဘုရားသခင်နိုင်ငံတော်ရောက်သည်အမှန်ဧကံ

တဖြစ်သည်။ သူရဲသည်လက်နက်ကရိယာနှင့်အိမ်ဦးတွင်စောင့်နေလျှင်၊ မိုင်လေသမျှဥစ္စာတို့သည်ငြိမ်ဝပ်စွာရှိသည်။ ထိုသူရဲထက်အားရှိသောသူ၊ နိုင်သောသူလာရောက်လျှင်၊ မိမိကိုးစားသောလက်နက်ကရိယာတို့ကိုသိမ်းယူသဖြင့်ရသောဥစ္စာတို့ကို ခွဲဝေပေးလမည်။ ငါနှင့်အတူမနေသသူငအရောကိုဖျက်သည်။ ငါနှင့်အတူမသိမ်းသသူငဥစ္စာကိုကြဲဖြန့်သည်။ ဆိုးညစ်သောနတ်သည်၊ နေမြဲလူကိုယ်မှထွက်၍မစွတ်မစိုသောအရပ်၌ ငြိမ်ဝပ်စွာနေရာဌာနကိုရှာသော်ရ၍၊ တဖန်မိမိနေဟောင်းအိမ်သို့ပြန်တော့မည်ဆို၍ပြန်လာလျှင်၊ သန့်ရှင်းစင်ကြယ်စွာတန်စာဆင်သောနေရာကိုတွေ့၍မိမိထက်ဆိုးညစ်သော၇ယောက်သောနတ်ဆိုးတို့ကိုခေါ်၍ဝင်နေကြကုံလျှင်၊ ထိုသူသည်ရှေးကာလထက်နေခံဆိုးညစ်ခြင်းဖြစ်ပြန်လေသည်။ ထိုအကြောင်းများကိုသခင်ယေရှုဟောတော်မူစဉ် မိမ္ဗတရောက်သည် ပရိသတ်တို့တွင်ကြီးစွာအသံဖြင့်ဟစ်ကျော်လျက်ဤသို့လျှောက်၏။ သခင်ကိုဆောင်သောဝမ်းသည်အလွန်မြတ်သည်၊ စို့သောနို့သည်လည်းအလွန်မြတ်သည်ဟုကျွေးကျော်လျှင်၊ သခင်ယေရှုလည်းဤသို့မိန့်တော်မူ၏။ ဘုရားသခင်နှုတ်ကပါတ်တော်ကိုနားဥာခံယူ၍ ဝမ်း၌မိုက်သသူတို့အထူးသဖြင့်အလွန်ကောင်းမြတ်သည်ဟု မိန့်တော်မူ၏။

——oo——

## FOURTH SUNDAY IN LENT.

## ဝါဝင်သည့်နောက်စတုတ္ထတနင်္ဂနွေနေ့။

## Epistle. Gal. iv. 22—31.

### သံပေါက်လူးဂါလတာမြို့သားတို့အားရေးထား သောဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။အာဗြဟံသားနှစ်ယောက်တွင် တယောက်ကားကျွန်မယားမှ၊ တယောက်ကားအလွတ် သကောင်းမယားမှဖွားမြင်ကြောင်း။ကျွန်မယားမှရ သောသားသည် ကိုယ်အသားမှဖြစ်မြဲဓမ္မတာနှင့်အ ညီဖြစ်ကြောင်း ။ အလွတ်သကောင်းမယားမှရ သောသားမူကား၊ ဘုရားသခင်နုတ်တော်ထွက်အ တိုင်း ကုန်စင်စွာဖြစ်စိမ့်သော၄ာ ဖွားမြင်ကြောင်း ကျမ်း၌ရေးမှတ်လျက်ရှိသည်။ ဤသို့စကားသည်ပုံ ပမာကဲ့သို့ခင်းကျင်းလျက်ရှိ၍ သဟာယနှစ်ကြိမ်ဖွဲ့ ညွှန်လေသည်။ အလျှင်ရှိသောတောင်အပေါ်၌ဖွဲ့ သည်။ ကျွန်အဖြစ်မကင်းခြင်းတကြိမ်မှာအာဂါရှိ သဏ္ဍာန်ဖြစ်သည်။ အာဘယ်ကြောင့်နည်း၊ သိနာ တောင်သည်အာရဗ်ပြည်၌ဤလောကဇေရုသလင် မြို့အနီးအစပ်တည်နေသောတောင်ဖြစ်သည်။ ထို ဇေရုသလင်မြို့မှစ၍ မိမိသားတို့ကျွန်အဖြစ်နှင့်ခံရ သောမြို့တည်း။အထက်မိုဃ်းကောင်းကင်မှဖြစ်သ ကဲ့သို့ထင်မှတ်ရမည့် ဇေရုသလင်မြို့မူကား လွတ်

ရှင်းသန့်စင်လေသည်။ ထိုဇေရုသလင်မြို့လည်း၊ ငါ
တို့အမိဖြစ်သည်။ ဤအချက်၌ဤသို့ရေးမှတ်လျက်ရှိ
သည်။ အလျှင်၌အမြုံကဲ့သို့သားမမြင်ရာရွှင်လန်း
ခြင်းစိတ်နှင့်ရှိစေ၊ လင်မဲ့သောသူလင်ရှိသောသူ
ထက်သားမြေးများသောကြောင့်အလျှင်သားမမြင်
ဘူးသောသူအသန်ကိုဝမ်းမြောက်ဝမ်းသာခြင်းနှင့်
ကြွေးပါစေ။ ထိုကြောင့်ညီအစ်ကိုယ်တို့၊ ငါတို့သည်
ဣဇာက်ကဲ့သို့ဘုရားသခင်နှုတ်ပေးတော်မူသည်နှင့်အ
ညီ၊ အသီသားအရာဖြစ်ကြသည်။ ဣဇာလက်ထက်
ကိုယ်အသားဇာမွေ့တာဖြစ်မြဲနှင့် အညီရှိသသူရုပ်
ကင်းရာမှ တန်ခိုးအားဖြင့်ဖြစ်သောသူ လိုက်လံပြစ်
ရှာသကဲ့သို့ယခုငတို့တွင်နည်းတူဖြစ်သည်။ သို့ရာ
တွင်ကျမ်း၌အဘယ်သို့ငတို့သွန်သင်သနည်း။ ကျွန်
မနှင့်သားကိုနှင်ထုပ်တော့။ ကျွန်မသားနှင့်ကောင်း
ခင်ပွန်းသားနှင့်အတူအမွေခံရမည်မဟုတ်။ ယခုမှာ
ညီအစ်ကိုယ်တို့၊ ငတို့သည်ကျွန်မသားမဟုတ်။ အ
လွတ်သကောင်းမယားသားဖြစ်သည်။ ဤအလွတ်သ
ကောင်းသားအရာသည်၊ ငတို့သခင်ယေရှုးကရိသျှ
တူးကျေးဇူးတော်ဖြင့်ငတို့၌ပြည့်စုံရသည်။

Gospel. John vi. 1—15.

သံဇွင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ တိဘေရိယအ
မည်တွင်သောဂါလိလေအပင်လယ်ကူး၍ ကြွတော်

မူလျှင်၊ အတိုင်းမသိသောသူတို့သည်၊ သူနာတို့အား ချမ်းသာပေးသောတန်ခိုးတော်ကိုမြင်၍ နေခံတော် သို့လိုက်ကြလေ၏။ သခင်ယေရှုးလည်းတရသော တောင်သို့တက်တော်မူ၍ ထိုတောင်ပေါ်၌ တပည့် တော်တို့နှင့်အတူထိုင်နေတော်မူ၏။ထိုကာလသည် ဂျုဒေအရှုတို့ဘာသာ ရန်သူလက်မှလွတ်သည်ကိုအ ကြောင်းပြု၍ခံသောပွဲနေ့အချိန်အနီးဖြင့်သည်။ သ ခင်ယေရှုးသည် မျက်စိတော်ကိုဖွင့်လှစ်၍ ကြည့် တော်မူလျှင်၊ အတိုင်းမသိသောလူတို့လာကြသည် ကိုမြင်တော်မူလျှင်၊ဖိလိပ်တပည့်ကိုမေးတော်မူသည်။ ဤလူအပေါင်းတို့စားလေခံအောင် ပေါင်မုန့်ဘယ် မှာဝယ်၍ရအံ့နည်း၊သခင်ယေရှုးသည်တပည့်စိတ် ကိုစုံစမ်း၍ဤသို့မေးတော်မူ၏။ ကိုယ်တော်မြတ် မှာအဘယ်သို့ပြုရမည်ကိုသိတော်မူလျက် မေးသ တည်း။ ဖိလိပ်တပည့်ကလည်းနှစ်ပိသာမျှသောငွေ ဖြင့်ဝယ်သောပေါင်မုန့်သည်၊အနည်းငယ်တယောက် တဆိတ်စီမျှမလောက်လျောက်၏။ တပည့်အပေါင်း တို့တွင်၊သိမောင်ပေတရုအစ်ကိုယ်အန္ဒြေအားအ မည်ရှိသောတပည့်တယောက်သည်သခင်ယေရှုးအား လျှောက်၏။ဤလူအပေါင်းတို့တွင်သူငယ်တယောက် ရှိသည်။ ထိုသူငယ်၌မုယောမုန့်ငါးလုံးနှင့်ငါးနှစ် ကောင်ရှိသည်။သို့ရှိရာတွင်ဤလူအပေါင်းတို့ဘို့အ ဘယ်သို့လောက်ငံနိုင်မည်နည်းလျှောက်လျှင်၊ သခင် ယေရှုးလည်း ဤလူအများတို့ကိုထိုင်နေပါစေ မိန့်

တော်မူ၏။ ထိုအရပ်၌မြက်ပင်တို့သည်များသည်ဖြစ်၍ငါးထောင်ခန့်ရှိသောလူတို့သည် မြက်ပေါ်၌ထိုင်နေကြကုံ၏။ သခင်ယေရှုလည်း ထိုမုန့်ကိုလက်တော်ဖြင့်ကိုင်တော်မူ၍ ဘုရားသခင်ကျေးဇူးတော်ကိုဆင်ခြင်တော်မူ၏။ ထိုင်နေသောသူတို့အားဝေတော်မူ၏။ ငါးကိုလည်းအလိုရှိတိုင်းပေးတော်မူ၏။ ထိုသူတို့လောက်အောင်စားသောက်ပြီးသော် တပည့်တော်တို့အား အကြွင်းအမှုန့်အဖျင်းကို မပျောက်မဖျက်ရအောင် သိမ်းထားကြ မိန့်တော်မူလျှင်၊ တပည့်တော်တို့လည်းမုယောပေါင်မုန့်မှပွားသည်အရာကိုထိုလူများတို့စားသောက်ပြီးမှအကြွင်း ၁၂ တောင်းသိမ်းထားရသည်။ ထိုလူများလည်းသခင်ယေရှုပြသောတန်ခိုးတော်ကိုမြင်လျှင်၊ ဤသခင်သည် ကမ္ဘာတွင်လာရမည်ပရောဖက်တသခင်ကော်ဖြစ်သည်ဟုပြောဆိုကြသည်။ သခင်ယေရှုလည်း ထိုသူတို့သည် မင်းအရာ၌ တည်မည်အကြောင်းကိုဖန်ဆီးတားအံ့သောငှါလာမည်အချက်ကိုသိတော်မူ၍ တပါးတည်းတောင်အချားသို့ထွက်သွားတော်မူ၏။

———၀၁———

K

## PASSION SUNDAY.

## ဝါဝင်သည်နောက်ပဉ္စမတနင်္ဂနွေနေ့။

## Epistle. Heb. ix. 11—15.

### သံပေါက်လူးအဲဘရဲ့အရှုတ္တိုအားရေးထားသော ဆုံမ္မစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ခရစ်တော်သခင်သည်ဤလော ကန္ဒြကြွလာလျှင် နောက်ခံရလတန့်သောဆုကျေးဇူး တို့ကိုရဟန်းအကြီးဖြစ်၍လူတို့လက်ဖြင့်ကြံစည်ခြင်း လူတို့တွင်ဓမ္မတာသဘောဖြစ်မြဲလုပ်သည်မဟုတ် ၊ အလွန်ကြီးမြတ်သောတဲကျောင်းဖြင့် ။ ဆိတ်နွား ငယ်အသွေးကိုဆောင်ရှက်လျက်နှင့်မဟုတ် ၊ မိမိ အသွေးတော်ကိုဆောင်ယူ၍ ထိုသို့လည်းမကုန်နိုင် သောကျွတ်လွတ်ခြင်းချမ်းသာရ၍ တကြိမ်ကျောင်း အတွင်းတွင် ဘုရားရှင်ကျိန်းဝပ်ရာဝင်တော်မူလေ သည် ။ ဆိတ်နွားအသွေးနှင့်နွားမငယ်ဖုတ်သော ပြာရောနှောခြင်းဖြင့်ဖက်ဆေးကြော၍ အညစ်အကြေးအ ညွှော်ရှိသသူတို့ကိုယ်အပဉ္စ သန့်ရှင်းစေတော်သည် မှန်လျှင်။ ဤမျှမကအဓိသဝိရိတူးသံကူးတန်ခိုးတော် အားဖြင့် အထူးစင်ကြယ်သန့်ရှင်း သောလျှုတန်ပူ ဇော်ရံကဲ့သို့ ဘုရားသခင်ကို မိမိအလျှောက်ဆက် ကပ်သည့်ခရစ်တော်သခင်အသွေးတော် ၊ အရှင် ဖြင်တော်မူသောဘုရားသခင်အမှုတော်ကို၊ မှန်ကန်

စွာငတို့ဆောင်ရွက်စိမ့်သောငှါ၊ ငတို့အသက်နှစ်လုံးထဲ၌ပါသောအသေမကောင်းအကျင့်တို့ကိုသန့်ရှင်းဆေးကြောလမည်။ ထိုကြောင့်အသစ်သဟာယဖွဲ့ရာ၌သခင်ယေရှုးသည်ကိုယ်စားဖြစ်တော်မူ၍အသက်အသေခံတော်မူသဖြင့် အလျှင်သဟာယဖွဲ့ရာ၌လွန်မိသောအပြစ်ကျွတ်လွတ်ခြင်းခံပြီးမှ၊ ဘုရားသခင်သည်ခေါ်ရွေးနှုတ်သောသူတို့သည် ဗျာဒိတ်တော်နှင့်အညီမကုန်နိုင်သောအမွေတော်ခံစားခြင်း၏သခင်အကြောင်းရင်းဖြစ်တော့သည်။

Gospel. John viii. 46—59.

သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလသခင်ယေရှုးသည်။ များစွာသောဂျုဒေအရှုးတို့အားအမိန့်တော်ရှိသည်။ သင်တို့တွင်မည်သူငါ၏ကိုယ်ထဲ၌အပြစ်ရှိသည်ကိုပြနိုင်အံ့နည်း။ ငါသည် သင်တို့အားဟောပြောသည်စကားကိုမှန်လျှင်အဘယ်ကြောင့်မယုံမကြည်ရှိကြသနည်း ။ ဘုရားသခင်မှဖြစ်သောသူသည်၊ ဘုရားသခင်စကားတော်ကိုနား၌သွင်းယူသည်။ သင်တို့သည်ဘုရားသခင်ကမဟုတ်သောကြောင့်ဘုရားသခင်စကားတော်ကိုနား၌မသွင်းမယူဖြစ်သည်ဟုမိန့်တော်မူ၏။ ဂျုဒေအရှုးတို့ကလည်းသင်သာမရိတန်အမျိုးဖြစ်သည်။ နတ်ဆိုးလည်းသင်၌စွဲသည်၊ ငတို့ပြောချက်မဟုတ်လောဟုပြန်ပြော၍တိုက်ခိုက်ဆို၏။ သခင်ယေရှုးလည်းမိန့်တော်

မှုသည်။ ငါ၌နတ်ဆိုးမရှိ၊ ငါ၏ခမည်းတော်ဂုဏ်
ကျေးဇူးတော်ကိုသာငါရှာမှီသည်။ သင်တို့သည်
ကားငါအားယုတ်ညံ့သူကဲ့သို့ပြုသည်။ ငါသည်ကိုယ်
ဂုဏ်အသရေရှိစေခြင်းငှါရှာသည်မဟုတ်။ ငါ၏
ဂုဏ်အသရေကိုရှာမည်သူရှိသည်။ ငါ၏အကြောင်း
လက္ခဏာကိုတင်ရှားပြမည်သူလည်းရှိသည်။ ငါ
ဟောပြောသောအချက်သည်ဟုတ်မှန်လှသည်။ ငါ
၏နှုတ်တော်ထွက်အတိုင်းကျင့်ဆောင်သောသူကား
အလျှင်ပြီပြီ သေခြင်းကိုမတွေ့မမြင်ရ မိန့်တော်မူ
လျှင်။ ယုဒအရူးတို့ကလည်းဤသို့ဆိုကြ၏။ သင့်ကိုယ်
၌နတ်ဆိုးရှိကြောင်းကိုယခုအလင်းငါတို့သိရသည်။
အာဘရဟာမ် သေလွန်သှ်ရှေးပရောဖက်တရဟန္တာ
အပေါင်းလည်းသေလွန်ကြသည်။ သင်သည်ကား
ငါ၏နှုတ်တော်ထွက်အတိုင်း ကျင့်ဆောင်သောသူ
တို့သည်အလျှင်ပြီပြီသေခြင်းကိုမတွေ့မမြင်ရဆိုပြန်
သှ်။ သင်သှ်ငတို့အဖအာဘရဟာမ်သေလွန်သောရှေး
ပရောဖက်တရဟန္တာတို့ထက်ကြီးမြတ်သည်လော၊
သင့်ကိုယ်ကိုအဘယ်သို့ပြောသနည်းဆိုကြကုံ၏။
သခင်ယေရှုလည်း၊ ငါ၏ကိုယ်ကိုထင်ရှားစိမ့်သော
ငှါချီးမြှောက်လျှင်ငါ၏ဂုဏ်အသရေသည် အချည်း
နှီးဖြစ်၏။ ငါ၏ခမည်းတော်သည်ငါအားထင်ရှားစိမ့်
သောငှါချီးမြှောက်တော်မူသည်။ ဤသခင်ကိုသင်
တို့ဘုရားသခင်ဖြစ်ကြောင်းကို ဆိုညားသော်လည်း
ထိုဘုရားသခင်ကိုသင့်တို့သှ်မသိကြ၊ ငါမူကားသိ၏။

မသိဆိုလျှင် သင်တို့ကဲ့သို့မဟုတ်မမှန်မှုသားပြော တတ်သသူဖြစ်လတန့်သည်၊ ငါသည်ခမည်းတော် ကိုသိ၏။ ရွှေစိတ်တော်ရှိတိုင်းငါဆောင်ရွက်သည်။ သင်တို့အဘအာဗြဟံသည် ငါကြွလာရမည့်နေ့ ကိုသိမြင်လိုသောစိတ်နှင့်ရွှင်မြူးသည်။ သိမြင်ရ လျှင်အထူးသဖြင့်အလွန်ဝမ်းမြောက်သည်ဟုမိန့်တော် မူလျှင်။ ဂျူဒေအရူးတို့ကသင်သည်အနှစ် ၅၀ ခန့်မျှမရှိဘဲ လျက်အဘယ်သို့ အာဗြဟံနှင့်တွေ့ကြုံကြိုက် သနည်းဆိုလျှင်။ သခင်ယေရှုလည်း၊ငါပြောသော စကားသည်ဟုတ်မှန်လှသည်။ တမှာတွင်အာဗြ ဟံမပေါ်ထွန်းမှီကာလ ငါရှိ၏ဟုမိန့်တော်မူလျှင်။ ဂျူဒေအရူးတို့လည်းပြစ်ခတ်အံ့သောငှါအချပ်ကျောက် ကိုကိုင်စွဲကုံ၏။သခင်ယေရှုလည်းမထင်မရှားသော ကိုယ်တော်ဖြင့်ကျောင်းတော်မှထွက်၍ ကြွတော်မူ ၏။

———00———

PALM SUNDAY.

ဝါဝင်သည်နောက် မေတ္တာပန်းဝေသောတနင်္ဂနွေနေ့။

The first Gospel. Matt. xxi. 1—9.

သံမာတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလသခင်ယေရှုသည်။တပည့်တော်တို့နှင့် တကွဇေရုသလင်မြို့အနီးသို့ချည်းကြွ၍ သံလွင်ပင်

တောင်ခြေရင်း၌ ရှိသောဘတ်ဖချေရွာသို့ရောက်တော်မူလျှင်၊ သခင်ယေရှုသည်တပည့်နှစ်ပါးကိုစေလွှတ်၍ဤသို့မှာတော်မူ၏။ သင်တို့ရှေ့မှရှိသောရွာသို့သွား၍ ထိုရွာသို့ရောက်သဖြင့်သားနှင့်အတူတကွမြည်းမချည်နှောင်လျက်တွေ့လမည်။ ကျိုးကိုဖြေ၍ငါဆီသို့ယူခဲ့ကြလော။ သူတထူးဆစုံဆခသင်တို့အားဟန့်ဆိုလျှင်အရှင်ဖြစ်သောသူအလိုရှိသည်ဟုဆိုကြလော။ ထိုသို့ဆိုလျှင်အသောတလျှင်ဆောင်ယူသွားစေလတန့်။ ဤအရာရှိသမျှပရောဖက်တတပါးဟောကြားသည့်အချက်အကုန်အစင်ရောက်ကြောင်းဖြင့်ဆောင်ရွက်ရသည်။ အချက်သည်ကားသိအံ့သွီးကိုပြောဆိုကြကုံလော။ သင်၏နူးညွှံ့သိမ်မွေ့သောအရှင်ကြေရောဇ်သည်၊ မြည်းမစေသောမြည်းမသားကိုစီး၍ ကြွလာသည်ကိုကြည့်ရှုလောဟုအချက်ဖြစ်သည်။ တပည့်တော်တို့လည်းသွား၍သခင်ယေရှုအမိန့်တော်အတိုင်း ဆောင်ရွက်ကြလေကုံ၏။ မြည်းမကိုသားနှင့်တကွဆောင်ယူခဲ့ပြီးမှသားအမိကြောပေါ်၌မိမိတို့အဝတ်ကိုတင်၍၊ သခင်ယေရှုအားစီးနေကြောင်းတောင်းပံသည်ကိုစီးတော်မူ၏။ အတိုင်းမသိသောလူတို့လည်းမိမိအဝတ်တို့ကိုလမ်း၌ခင်းကြကုံ၏။ အချို့လည်းသစ်ပင်တို့မှအခက်အလက်တို့ကိုဖြတ်ချသဖြင့် လမ်းတွင်ခင်းကြကုံ၏။ ရှေ့နောက်လိုက်သွားကြသောသူတို့လည်း၊ ဩသာနဒါဝိဒ်သားတော်၊ ဘုရားရှင်နာမတော်နှင့်

ကြွလာတော်မူသောသခင် ကျော်စောထင်ရှားခြင်း
ဖြစ်၍ အလွန်မြင့်မြတ်သောမိဃ်းကောင်းကင်အ
ရပ်တို့၌ရှိသေလေးမြတ်ခြင်းရှိပါစေဟုကြွေးကျော်
ပြောဆိုကြ၏။

**Epistle. Philip ii. 5—11.**

သံပေါက်လူးဗိလိပိမြို့သားတို့အား ရေးထားသော
ဆုမွစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သခင်ယေရှုးနှစ်လုံးတော်၌အ
ဆင်အချင်အစွဲအနေရှိသကဲ့သို့သင်တို့၌ ရှိအောင်
အားထုပ်ကြကုံ ။ သခင်ယေရှုးသည်ကားဘုရားသ
ခင်သဏ္ဌာန်အဖြစ်တော်နှင့်ပြည့်စုံ၍၊ ဘုရားသခင်
နှင့်အတူမိမိကိုယ်တော်ကိုပြုသည်အရာခိုးယူခြင်း
အမှုအရာမဟုတ်ဟုထင်မှတ်လျက်ပင်မိမိအသရေ
ကိုစွန့်၍ အစေခံကျွန်၏သဏ္ဌာန်ကိုယူဆောင်သဖြင့်
လူတို့နှင့်နည်းတူမိမိကိုယ်တော်ပြုနေတော်မူ၍သူ၌
အပပြင်မြင်လေသမျှလူကဲ့သို့ သူခပ်သိမ်းတို့သည်
ထင်မှတ်၍ သူ၏အနေအရာ တိမ်းငဲ့နှိမ့်ချတော်မူ
လျက်အသက်ကိုအသေခံသည်မျှမက၊ တံကျင်၌ခံ
ခြင်းရွေ့စိတ်တော်နှင့်အညီ ၊ ဆောင်ရွက်၍မိမိ
ကိုယ်တော်မြတ်ကိုနှိမ့်ချတော်မူသည်။ ဤအကြောင်း
ဖြင့်ခမည်းတော်ဘုရားသည် သားအားချီးမြှောက်
တော်မူ၍အမည်နာမရှိလေသမျှထက်၊ ကြီးမြတ်စွာ
နာမခေါ်ဝေါ်ရခြင်းပေးသနားတော်မူ၍၊ ယေရှုးသ
ခင်နာမတော်ကိုမိဃ်းကောင်းကင် မြေအပြင်အောံ

နိမ့်နေရာအရပ်တို့၌ လူအပေါင်းတို့သည်ညွတ်ဦး
ထောက်ရသည့်။ အမျိုးတကာလူမျိုးတို့နှုတ်လျှာ
လည်း၊ သခင်ယေရှုးသည်ခမည်းတော်ဘုရားလွန်
မြတ်သောနေရာ၌ရှိကြောင်းကို အမှန်ဝန်ခံပြောဆို
ကြလေ၏။

**Gospel.** *The Passion of our Lord Jesus Christ, according to* **Matt. xxvi.** *and* **xxvii.**

သံမာတဲအရူးရေးထားသောကျမ်းမှထုတ်၍ငတို့သ
ခင်ယေရှုးကရိသ္တုဒုက္ခစရိယာကျင့်ခံ
တော်မူသောအကြောင်းတည်း။

ထိုကာလသခင်ယေရှုးသည်။ တပည့်တော်တို့
အားဤသို့အမိန့်တော်ရှိသည်။ နှစ်ရက်လွန်မှပါ
သ္ခါကပွဲနေ့ပြုရမည်။ ထိုအခါသားတော်သည်တံကျင်
၌လျှိုစိမ့်သောငှါအပ်နှံရမည်သိကြလော။ ထိုအခါ
ရဟန်းအကြီးတို့နှင့်လူကြီးတို့သည်၊ ကာဒိဖာအမည်
ရှိသောရဟန်းအကြီးအိမ်ဦး၌ စုရုံးပြီးမှဆန်းကြယ်
သောအတတ်ပညာအကြံဖြင့် သခင်ယေရှုးကိုဖမ်း
ယူသတ်အံ့ဟုတိုင်ပင်ပြောဆိုကြ၍။ လူအပေါင်း
တို့မညီမ်မဝ်ရှိမည်စိုးသောကြောင့် ပွဲနေ့၌မပြုအပ်
ဟုအချင်းချင်းဆိုကြသည်။ သခင်ယေရှုးသည်ဗေ
တာနိယအရပ်တွင်နူဝဲသောသိမောင်အိမ်၌ရှိစဉ်၊
မိန်းမတယောက် သည်ကျောက်ဖြူဗူးဖြင့် အဖိုးထိုက်
သောဆီမွှေးကိုယူခဲ့၍၊ ကိုယ်တော်ရင်းသို့ရောက်

လျှောင်ပွဲတွင်နေတော်မူရာ၌ ခေါင်းတော်ပေါ်မှဆီကို သွန်းလောင်း၏။ တပည့်တော်တို့လည်းထိုအကြောင်း ကိုမြင်လျှင်မကြည်မသာစိတ်နှစ်လုံးရှိကြ၍၊ ဤဆီ ကိုသွန်း၍ ဆုံးခြင်းဖြင့်အဘယ်အကျိုးရှိအံ့နည်း။ ရောင်းချလျှင်များသောအဖိုးရ၏။ ဆင်းရဲနွမ်းရိ သောသူတို့အားပေးလျှင်လည်းကောင်း၏ဟု ပြော ဆိုကြ၏။ သခင်ယေရှုလည်းတပည့်တော်တို့အောင်း မေ့သောအချက်ကိုသိတော်မူ၍ ဤသို့အမိန့်တော်ရှိ သည်။ အဘယ်ကြောင့်ဤမိန္မအားသင်တို့သည်နှောင့် ရှက်ခြင်းအမှုကိုပြုကြသနည်း။ ငါ၏ကိုယ်တော်ကို ရိုသေခြင်းဖြင့် ကောင်းသောအမှုကို ပြုပေသည်။ ဆင်းရဲသောသူတို့သည် သင်တို့နှင့်တကွအစည်ရှိ သည်။ ငါ၏ကိုယ်တော်မူကားထိုကဲ့သို့အစဉ်မရှိရ။ ဤကဲ့သို့ဤမိန္မသည် ငါ၏ကိုယ်တော်၌သွန်းခြင်းသည်၊ ငါ၏အလောင်းတော်သင်းဂြိုဟ်ရာအမှုကို ရည်မှတ် ၍ပြုခြင်းဖြစ်သည်။ ငါသည်သင်တို့ကိုအမိန့်ရှိသည် အချက်ဟုတ်မှန်လှသည်။ ဤဧဝံဂေလိအရာတရား တော်ကိုမြေအပြင်၌ဟောပြောရမည်။ ပြည်အရပ် တိုင်းတွင်ငါ၏ကိုယ်တော်၌ရိုသေသောစိတ်ဖြင့်ဤ မိန္မပြုသောအမှုသည်၊ သူ၏နာမကျော်စောထင်ရှား ခြင်းဖြစ်စေလို၍ပြောဆိုရလမည်။ ထိုအခါတကျိပ် နှစ်ပါးအဝင်ဟုဒအိသျှကာရိအုပ်အမည်ရှိသောသူ သည်၊ ရဟန်းအကြီးတို့ထံသို့သွား၍ပြောဆိုသည်။ အကျွန်ုပ်သည် ရဟန်းတို့အားသူ၏ကိုယ်ကိုအပ်ပေး

ပါမည်။ အေအားအာယ်အရာဆုကိုပေးချမည်နည်းဆိုလျှင်။ ရဟန်းအကြီးတို့လည်းအသပြာ၃၀ပေးအံ့ဟုချုပ်ဆိုပြောကြ၏။ ထိုအချိန်မှစ၍တပည့်ဖူဒသ်၊ ပေးအပ်ရမည့် တော်သင့်သောအချိန်ကာလကိုရှာဖွေစောင့်ငံ့နေ၏။ တဆေးမဲ့ပေါင်မုန့်ကိုစားဦးနေ့၌ တပည့်တော်တို့သည်သခင်ယေရှုအနီးသို့လာရောက်ကြ၍လျှောက်ကြ၏။ ဤပါသျှကာပွဲ၌စားရမည့်အရာအသာယ်အရပ်တွင် ခင်းချင်းပြင်ဆင်လိုသနည်းလျှောက်သော်။ သခင်ယေရှုလည်းဤသို့မှာတော်မူ၏။ မြို့တွင်တစုံတယောက်ဆီသို့သွား၍ဤသို့ပြောဆိုကြလော။ ဆရာတော်မှာလိုက်သည်၊ ငါ၏အချိန်နီးပြီး။ ငါ၏တပည့်တော်တို့နှင့်တကွသင့်အိမ်၌ပါသျှကာပွဲကိုခံပါမည်မှာတော်မူလို၏။ တပည့်တော်တို့လည်းသခင်ယေရှုမှာတော်မူသည်အတိုင်းဆောင်ရွက်၍ ပါသျှကာပွဲတို့အလိုရှိသောအရာတို့ကိုခင်းချင်းပြင်ဆင်ကြ၏။ သခင်ယေရှုလည်းညဦးမှ်အချိန်သို့ရောက်သော်တကျိပ်နှစ်ပါးသောတပည့်တော်တို့နှင့်တကွစားပွဲတွင်ထိုင်နေတော်မူ၏။ စား၍နေကြစဉ်အတွင်း၌ သခင်ယေရှုသည် တပည့်တော်တို့အားမိန့်တော်မူ၏။ ငါ၏နှုတ်တော်ထွက်စကားသည်ဟုတ်မှန်လှသည်။ သင်တို့တွင်တယောက်သောသူသည်ငါကိုရန်သူလက်သို့အပ်ပေးလမည်။ တပည့်တော်တို့လည်း ဤအမိန့်တော်စကားကြားလျှင် အလွန်မကောင်းညှိုးငယ်သောစိတ်နှင့်ရှိကြ၍၊ အသီးသီး

သခင်ကျွန်ုပ်ဖြစ်သည့်လောဟူ၍ထာမေယောဒိစ်ထိုမှချ၍ လျှောက်မေးကြကုံသည်။ သခင်ယေရှုလည်းပုထာံ တွင်ငါနှင့်အတူလက်နှိက်စားသောသူကြောအပ်နှံမည်။ လူသားတော်သည် ကျမ်းတွင်သူ၏အကြောင်းရေး မှတ်လျက်ရှိသည့်အချက်အတိုင်းပြန်သွားရသည်။ ထိုရာတွင်လူသားတော်ကိုယ်ကိုရောင်း၍ အပ်မည့် သူသည်၊ အလွန်မကောင်းသောအပြစ်အထူးကိုခံရ လမည်။ ထိုသူမဖွားမမြင်သဖြင့်သာ၍ကောင်းသည် ဤသို့အမိန့်တော်ရှိလျှင်။သခင်ယေရှုကိုယ်ကိုအပ် နှံသောသူရှုဒကားဆရာတော်သခင်ကျွန်ုပ်ဖြစ်သည် လောမေးလျှောက်လျှင်၊ သခင်ယေရှုလည်းသင်ဆို ဆိုလေပြီးဟုအမိန့်တော်ရှိ၏။

ထိုစားစည်အခိုက်တွင်သခင်ယေရှုသည်ပေါင်း မုန့်ကိုကိုင်တော်မူလျက် ဆုကျေးဇူးတောင်းလျှော်ံ တော်မူသဖြင့်တပည့်တော်တို့အားဖဲ့ဝေ၍ ဤသို့အ မိန့်တော်ရှိသည်၊ယူစားကြကုံ။ ဤအရာသည်ကားငါ ၏ကိုယ်တော်ဖြစ်သည်ဟုမိန့်တော်မူပြီးမှ၊ဖလှက်ကို ကိုင်စွဲတော်မူသဖြင့် ကျေးဇူးတော်ကိုချီးမွမ်းခြင်း မေတ္တာပြု၍တပည့်တော်တို့အားပေးလျှင် ဤသို့မိန့် တော်မူ၏။ သင်တို့အပေါင်းဤအရာကိုသောက်ကြ ကုံလော။ဤအရာသည်ကားလူအများတို့အပြစ်လွှင်း လွှတ်စေခြင်းငှါ သွန်ရလတ္တန့်သော အသစ်ထား သောတရားတော်နှင့်အညီ ငါ၏အသွေးတော်ပင် ဖြစ်သည်။ ငါ၏နှုတ်တော်ထွက်စကားရှိသည်။ ဤ

စပျစ်ရည်မျိုးကိုသင်တို့နှင့်အတူ ငါ၏ခမည်းတော် နေရာနိုင်ငံ၌ အသစ်မသောက်မှီနေ့တိုင်အောင် တဖန်ငါမသောက်ရပြီးမိန့်တော်မူပြီးမှ၊ ကျေးဇူးတော်ကိုချီးမွမ်းသော မေတ္တာပြုကြသဖြင့် သံလွင်ပင်၏ တောင်အရပ်သို့ထွက်ကြကုံ၏။

ထိုအခါသခင်ယေရှုးသည်တပည့်တော်တို့အား အမိန့်တော်ရှိသည်။ ငါ၏အမှုတွင်ဤညည့်၌သင်တို့ အပေါင်းတို့သည် စိတ်၏ဇဝက်နှောင့်ရှက်ရှုံရှာခြင်း ရှိကြလမည်။သိုးဆိတ်တို့ကျောင်းသောသူကိုသတ်ပုတ်လမ္မ။ တစွေလုံးသိုးတို့လည်းပြေးလွင့်ပျောက် ပျက်ထော့မည်ဟုကျမ်းမှာရေးထားချက်ရှိသည်။သို့သော်လည်း ရှင်တော်မူပြန်သောနောက်တာလ၌ဂါလိလေအနိုင်ငံသို့အလျှင်သွားနှင့်ပါမည်။ ဤသို့မိန့်တော်မူသော်ပေတရူးအလျှင်တင်၍လျှောက်သည်။ တပည့်တော်အပေါင်းတို့သည်ကိုယ်တော်အမှု၌ဇဝက်နှောင့်ရှက်ခြင်းရှိကြသော်လည်း၊ အကျွန်ုပ်ဇဝက်နှောင့်ရှက်ခြင်း အလျှင်ပြီးပြီးမရှိရ လျှောက်လျှင်။ အမှန်အကံငါ၏စကားကိုသင်မှတ်လော၊ ဤညည့်၌ကြက်မတွန်မှီ၃ကြိမ်ငါကိုမသိဟုသင်သ်ငြင်းခုံလမည်ဟုသခင်ယေရှုးအမိန့်တော်ရှိ၏။ ပေတရူးသည်လျှောက်ပြန်သည်။ သခင်နှင့်အတူအကျွန်ုပ်သေရအံ့သောအကြောင်းရှိသော်လည်း သခင်ကိုမသိဟုမငြင်းမခုံဝန့်။ ထိုအတူဝင်တချားသောတပည့်အပေါင်းတို့သည် အသီးအသီးလျှောက်ကြကုံ၏။

ထိုအခါသခင်ယေရှုသည် ထိုသူတို့နှင့်အတူတကွ ဂျဲသေမာနီအမည်တွင်သောအရပ်သို့ရောက်တော်မူ၍တပည့်တော်တို့ကိုဆိုတော်မူ၏။ မေတ္တာပြုအံ့ဟု ထိုအရပ်သို့ငါသွားသည်အတွင်း၊ ဤအရပ်၌သင်တို့ နေရစ်ကြကုန်လောအမိန့်တော်ရှိ၏။ ပေတရုနှင့်ဇေ ဗေဒဲအရှုးသားနှစ်ယောက်၊ ဤသုံးယောက်သောတပည့် တို့ကိုအတူခေါ်တော်မူလျှင်။ ထိုမှစ၍နှစ်လုံးတုန် လှုပ်ညှိုးငယ်ခြင်းနှင့်ရှိတော်မူ၏။ထိုအခါသုံးယောက် သောတပည့်တို့အား ငါ၏အသက်သေအံ့ဆဲဆဲကဲ့သို့ တုန်လှုပ်နာကြင်ညှိုးငယ်ခြင်းနှင့်ရှိသည်။ သင်တို့ ဤအရပ်တွင်နေရစ်ကြလော။ ငါနှင့်အတူမအိပ်ဘဲ စောင့်နေကြကုန်လောအမိန့်တော်ရှိ၏ ။ ထိုနောက် အလျှင်ထက်ကွာသောအရပ်သို့ကြွ၍မျက်နှာတော် မြေသို့ချအပ်လျက်ဤသို့တောင့်တဆိုတော်မူ၏။ ငါ၏ခမည်းတော်ဤအရာသည်တော်သင့်လျှင် ဤဖံခွက် သည်ငါနှင့်ဖယ်ခွာလျက်အဝေး၌ရှိပါစေ။ သို့ရာ တွင်ငါ၏စိတ်အလျောက်မဟုတ်၊ ရှေ့စိတ်တော်ရှိ တိုင်းဖြစ်ပါစေဆုယူတောင့်တတော်မူပြီးမှ တပည့် တော်တို့ဆီသို့လာ၍ အိပ်လျက်နေတွေ့တော်မူလျှင် ပေတရုကိုအမိန့်တော်ရှိသည်။ အဘယ်ကြောင့် သင်တို့သည် တနာရီခန့်မျှငါနှင့်အတူ မအိပ်မစက် မနေနိုင်ရှိသလော။ နှောင့်ရှက်ခြင်းတွင်မဝင်မပါရ အောင်မေတ္တာပြု၍မအိပ်မစက်နေကြကုံ။ အသက် ဝိညည်စေတနာရှိညားသော်လည်း ကိုယ်အသား၌မူ

ကားအားနည်းသည့်မိန့်တော်မူပြီးမှ၊တကြိမ်ကြွ၍ဤ သို့မြွက်တော်မူသဖြင့်တောင့်တတော်မူပြန်၏။ ငါ ၏ခမည်းတော်ဤဖံခွက်သည် ငါမသောက်ဘဲလျှက်မ ကွာနိုင်ရှိလျှင်ရွှေစိတ်တော်အတိုင်းဖြစ်ပါစေတော့ ဆုယူတောင်းတော်မူပြီးမှ တပည့်တော်တို့ဆီသို့တ ဖန်ကြွလာလျှင် မျက်စိလေးလံခြင်းရှိ၍ အိပ်စက် လျက်တွေ့ပြန်၏။ တွေ့လျှင်မည်သို့မဆိုတပည့်တော် တို့ဖါသာထားခဲ့၍ တဖန်ကြွတော်မူသဖြင့် အလျှင် မြွက်ဆိုသောနည်းကဲ့သို့ တကြိမ်တောင့်တတော်မူ ပြန်၏။ ထိုနောက်မှတပည့်တော်တို့ဆီသို့ကြွလာ၍ အမိန့်တော်ရှိသည်။ အိပ်၍နေရလျှင်အိပ်ကြလော။ ငြိမ်သက်စွာနေကြလော။ ဆိုးညစ်ရှန်းရင်းသော လက်သို့ လူသားတော်အပ်ပေးရမည့်အချိန်နာရီနီး ချေပြီ။ ထကြွကုံလောသွားကြစို့ ငါကိုအပ်နှံမည့်သူ သည်အပါးအနီးရောက်ချေပြီ။

သခင်ယေရှုသည်ဤစကားများကိုမိန့်တော်မူစဉ် တကျိပ်နှစ်ပါးအဝင်ရှုဒနှင့်အတူ ရဟန်းအကြီးလူ ကြီးတို့က စေလိုက်သောလူတို့သည် သံလျက်ဒုတ် လက်စွဲကုံသဖြင့်လာကြကုံသည်။ သခင်ယေရှုကို ရန်သူလက်သို့အပ်ပေးသောသူသည်၊ ထိုသူတို့ကိုအား မှတ်ပေး၍ဤသို့ဆို၏။ ငါဖက်ယမ်းချင်းကိုပြုသော သူဤသူပင်ဖြစ်သည်၊ ဖမ်းယူကိုင်ထားကြကုံ။ ထိုခ ဏ၌ရှုဒသည် သခင်ယေရှုကိုယ်တော်ရင်းသို့ရောက် ၍ဆရာတော်သခင်ကျမ္မာပါ၏လောဆို၍ ဖက်ယမ်း

နှမ်းရှုပ်လေ၏။ သခင်ယေရှုးသည်းရှုဒကိုပြောဆိုတော်မူ၏။ အဆွေအဘယ်ကိစ္စကြောင့်လာသနည်းမေးတော်မူသည်အတွင်း ရှုဒနှင့်အတူပါသောသူတို့သည်အနီးအပါးသို့ရောက်၍သခင်ယေရှုးကိုယ်တော်ပေါ်၌လက်ဖြင့်ရောက်၍ဖမ်းကိုင်ထားကြကုံ၏။ သခင်ယေရှုးနှင့်အတူပါသောသူတို့တွင်တယောက်သည် လက်ရုံးကိုဆန့်သဖြင့် အိမ်မှဓါးကိုထုတ်၍ ရဟန်းအကြီးအချုပ်က စေလွှတ်သောသူတယောက်ကိုခုတ်လျှင်နားရွက်ပြတ်လေ၏။ ထိုအခါသခင်ယေရှုးသည် ခုတ်သောသူကို၍သို့အမိန့်တော်ရှိ၏။ သင့်ဓါးကိုထားမြဲအိမ်၌သွင်းထားလော။ ဓါးကိုကိုင်ယူသောသူအပေါင်းတို့ဓါးနှင့်သေထိုက်သည်၊ ငါ၏ခမည်းတော်ကို ငါတောင်းလျှောက်နိုင်သည်ကို၎င်တောင်းလျှောက်လျှင် အဆောတချင်သကြားဆယ်နှစ်တပ်မက ငထံသို့စေလွှတ်တော်မူမည်ကိုင်သင်ခဲသည်မထင်သည်လော။ သို့ပြုရလျှင်၍ကဲ့သို့ဖြစ်လတ္တန့်သောအကျင့်အရာတို့ကိုကျမ်းအချက်တို့နှင့်အညီအဘယ်သို့အကုန်အစင်ရောက်အံ့နည်းမိန့်တော်မူပြီးမှ တချက်တည်းဖမ်းလာကုံသော လူအတွေတို့အားသခင်ယေရှုးသည် စကားလှည့်၍ငကိုဖမ်းယူအံ့ဟုသူခိုးကဲ့သို့ ဓါးဒုတ်လှံကန်စွဲလျက်လာကြသည်။ ကျောင်းတော်၌နေ့တိုင်းမပြတ်ဆုမ္မသွန်သင်၍ သင်တို့အလယ်တွင်ထိုင်နေစည်ကာလ ငကိုမဖမ်းမကိုင်ကြစဘူးမိန့်တော်မူ၏။ ၍အရာတို့ရှိလေ

သာမျှကိုပရောဖက်တတို့ရေးထားသည့်ကျမ်းစကား တို့နှင့်အညီ၊ အကုန်အစင်ဖြစ်အောင်ရောက်ကြ လေသည်။ ထိုအခါထပည့်တော်အပေါင်းတို့သည် သခင်ယေရှုကိုပြစ်ထားခဲ့၍ပြေးလေကုံ၏။

ထိုဖမ်းလာသောသူတို့သည် သခင်ယေရှုကိုကိုင် ၍ ကာအိဖါရဟန်းအကြီးနှင့် ကျမ်းတတ်သောလူ ကြီးတို့စုရုံးနေသောအရပ်သို့ဆောင်ယူသွားကြလေ ၏။ ပေတရုလည်းရဟန်းအကြီးအိမ်ဦးတိုင်အောင် အဝေးမှနောက်ဆိုင်းလျက်လိုက်သည်။ နောက်အိမ် ထဲသို့ဝင်၍ဤအမှုအရာသည်အပြီးအဘယ်သို့ရောက် လတ္တန့်နည်းသိမြင်လိုသဖြင့်အိမ်တွင်စေသောသူတို့ နှင့်အတူထိုင်နေ၏။ရဟန်းအကြီးအချုပ်တို့နှင့်စုရုံး နေသောသူအပေါင်းတို့က သေထိုက်သောအရာကို စီရင်မည်အကြောင်းမမှန်သောသက်သေစကားကို ရှာ၍ထိုသက်သေအများလာညားသော်လည်းတော် လျော်သင့်တင့်သောသက်သေတို့မရ။ နောက်အ ဆုံး၌မမှန်သောသက်သေနှစ်ယောက်လာ၍။ ဤသူ သည် ဘုရားရှင်ကျောင်းတော်ကိုဖျက်၍ သုံးရက် တွင်အပြီးတည်လုပ်နိုင်၏ ဆိုဘူးသည်အချက်ရှိသည် လျှောက်ကြ၏။ထိုသို့လျှောက်ရာတွင်ရဟန်းအကြီး ထ၍ ဤလူနှစ်ယောက်လျှောက်ထားသောသင်အပြစ် ကိုကျေစင်အောင်တခွန်းမျှမဆိုပြီးလောမေးလျှင် ။ သခင်ယေရှုလည်း ပြန်၍မဆိုမပြောနေတော်မူ၏။ ရဟန်းအကြီးတို့ကသင်သည် ကရိသျှတူးဘုရားရှင်

သားတော်ဖြစ်သည့်မှန်လျှင်ငတို့အားပြောလော။အရှင်ဖြစ်တော်မူသောဘုရားရှင်ဘုန်းအရှိန်နှင့် သင့်ကိုငါသည်အမိန့်တော်ရှိသည်ဟုဆိုလျှင်။ သခင်ယေရှုးလည်းဤသို့ပြန်ပြောတော်မူ၏။ သင်ယခုဆိုပြီးသည်အတိုင်းမှန်ပေ၏။ သည်အရာတွင်တနေ့သ၌လူသားတော်သည် ဘုရားသခင်အာနုဘော်တော်လက်ျာဘက်တထိုင်နေတော်မူ၍ မိုဃ်းကောင်းကင်မှတိမ်ရံလျက်ဆင်းလာသည်ကိုမြင်ရလတ္တံ့သည်။ ငါသင်တို့ကိုဆိုသည်။ ထိုအခါရဟန်းအကြီးတို့သည်မိမိအဝတ်သင်္ကန်းကိုဆုတ်ဖြတ်၍ဆိုသည်။ ဘုရားသခင်ကိုထိပါး၍ ဆိုချေပြီးသည်ပြင် အချားသက်သေတို့လိုသည်လောဟု ဘုရားသခင်အားထိပါး၍ဆိုသောစကားကို သင်တို့ကြားလေပြီး အဘယ်သို့ထင်ကြသနည်းဆိုလျှင်။ စုရုံးနေသောသူတို့ကလည်း၊ သေလောက်သောအပြစ် ဤသူတွင်ရှိသည်ဟု ပြန်ပြောကြသည်။ ထိုအခါသခင်ယေရှုးမျက်နှာတော်ကိုတံတွေးနှင့်ထွေးခြင်းလက်သီးနှင့်သတ်ခြင်းအချို့ကလည်းလက်နှင့်ပါးကိုပုတ်ခြင်းပြုကြ၍။ ကရိသ္တုးသခင် သင်အားမည်သူရိုက်ပုတ်သနည်းဟောပါကြိုယ်ဆိုကြ၏။ ထိုအတူပေတရုးသည်အိမ်ပြင်ဝင်၌ထိုင်၍နေစဉ်။အခစေအပါမိန္မတယောက်သည်အနီးအပါးသို့လာ၍။ သင်သည်ယေရှုးဂါလိလေအရှုးနှင့်အတူပါသည်ဟုဆိုလေ၏။ ပေတရုးလည်းလူအပေါင်းတို့ရှေ့ညင်းခုံ၏။ သင်သည်အဘယ်သို့

ဆိုသည့်ကိုငါမသိဆို၍ ပေတရုလည်းတခါးပြင်သို့ ထွက်သွားလျှင်အခြေမိမ္ဘတယောက်မြင်ပြန်၍။ ဤသူသည် ယေရှုနာဇရေနှင့်အတူတကွရှိသည်ဟု ထိုအရပ်တွင်ရှိသောသူတို့ကိုပြောဆို၏။ ပေတရုလည်းကျိန်ဆို၍ ဤသူကိုငါမသိဟုငြင်းခုံ၏။ ထိုနောက်မျှားမကြာ ထိုအရပ်တွင်ရှိသောသူတို့သည် ပေတရုအပါးသို့လာကြ၍။ သင်ပြောသောစကားသံသည်ထိုသူတို့အစုကသင်ဖြစ်ကြောင်းကိုထင်ရှားစွာပြသည်အမှန်ဖြစ်သည်ဆိုကြလျှင်။ ပေတရုလည်း ဤသူကိုမသိကြောင်းကို ကျိန်ဆိုသဖြင့် ဘုရားရှင်အားထိပါး၍ပြောဆို၏။ ပြောပြီးလျှင်တချက်တည်းကြက်တွန်၏။ ထိုအခါသခင်ယေရှုလည်းကြက်မတွန်မှီ ငါအားသုံးကြိမ်ငြင်းခုံလမည် ပြောသည့်အချက်ကိုသတိရ၍ပြင်သို့ထွက်သဖြင့်ပြင်းစွာငိုကြွေးလေ၏။ မိုးလင်းသောအခါရဟန်းအကြီးတို့နှင့်လူကြီးတို့စုရုံးပြန်၍ သခင်ယေရှုအားသတ်စိမ့်သောငှါအခ်ရမည့်အကြောင်းကိုတိုင်ပင်ပြီးမှ ။ သခင်ယေရှုကိုချည်နှောင်လျက်ပုံစိဦးပိလာတုအမည်ရှိသောမင်းအထံသို့ဆောင်သွား၍ အပ်ထားလေ၏။ ထိုကာလ သခင်ယေရှုအားရဟန်းအကြီးတို့လက်သို့အပ်သောတပည့်ဂျုဒသည် ။ မိမိဆရာသေရအံ့သောအစီရင်ချက်ကိုသိမြင်လျှင် လွန်မိသောအရာကြောင့်စိတ်နာ၍ လူကြီးတို့ထံသို့အလျှင်ရသောအသပြာ ၃၀ ကိုယူခဲ့၍ဤသို့ဆို၏။ ငါသည်ဖြောင့်မတ်

သောသူသွေးကိုရောင်းလျှင် အဖြစ်ရောက်အံ့သော အမှုကိုပြုမိချေပြီးဆို၏။ ထိုသူတို့ကလည်းငတို့၌အ ဘယ်အခွင့်အရာရှိသနည်း။သင့်အမှုသာဖြစ်တော့ သည်ဆို့ကြလျှင်ယုဒလည်းကျောင်းတွင်ထိုအသပြာ ငွေကိုပြစ်ခဲ့၍ ထွက်သွားသဖြင့် လည်၌ကြိုးတပ်၍ သေလေ၏။ ရဟန်းအကြီးတို့လည်းထိုငွေကိုယူ၍အ သွေး၏အဖိုးဖြစ်သောကြောင့် ကျောင်းဥစ္စာနှင့်အ တူမထားအပ်ဆို၍အချင်းချင်းတိုင်ပင်ပြီးမှအိုးသည် ၏မြေအကွက်ကိုလူမျိုးတပါးတို့သင်းဂြိုင်းအလို့ငှါ ထိုငွေဖြင့်ဝယ်ကြလေ၏။ ထိုအကြောင်းဖြင့်ယနေ့ တိုင်ထိုအကွက်ကို အစဲဒမသွေးမြေကွက်ဟုထင် ရှားလေသည်။ ထိုကာလပရောဖက်တဇေရမိယ ကျမ်းတွင်ရေးထားသောအချက်။ ဣသရေအဲသား တို့ကအဖိုးထား၍ ရောင်းသောသူတို့၏ကိုယ်ဖိုးငွေ အသပြာ ၃၀ ကိုယူ၍အိုးသည်၏မြေကွက်ကိုဝယ်ရ အောင်ဘုရားသခင်သည် ငါ့အားဟောပြောရမည့်အ မိန့်တော်ရှိသည်အတိုင်းပေးကြကုံသည်။

၏အချက်အကုန်အစင်ရောက်သည်။ သခင်ယေ ရှုးလည်းအချုပ်အစိရင်မင်းရှေ့ရောက်လျှင်။ သင် သည်ယုဒဒေအရှုးလူမျိုးတို့၏မင်းကြေရဇ်လော၊ မင်းအ စိရင်ကမေးစစ်ကျောလျှင်။ သခင်ယေရှုးလည်းသင် ယခုဆိုလေပြီးသည်မိန့်တော်မူ၏။ ရဟန်းအကြီးတို့ နှင့်လူကြီးတို့ဂုဏ်းတိုက်ပြောကြသည့်ကိုသခင်ယေ ရှုးသည်မည်သို့မျှမိန့်တော်မမူ။ ထိုအခါ ပိလာတုးမင်း

လည်း။ သင်၏ကိုယ်အပေါ်၌အပြစ်ကိုသက်သေ
နှင့်တကွအဘယ်မျှလောက်ထင်ကြသည်ကိုမကြား
လောဆိုလျှင် သခင်ယေရှုးသည် တခွန်းတပါတမျှ
ပြန်ပြောတော်မမူ။ အစိုးရမင်းသည်မိန်မှိုင်တွေး
တောလျက်အံ့သြသင့်၍နေရ၏။ ပွဲကြီးနေ့၌လူ
အပေါင်းတို့ နှောင်အိမ်ထဲမှာရွေးချယ်သောလူတ
ယောက်မြို့ဝန်အစိုးရကလွှတ်မြဲဖြစ်သည်။ ထိုအ
ခါနှောင်အိမ်တွင် ဘာရာဘာအမည်ရှိသောသူတ
ယောက်ရှိ၏။ သို့သောကြောင့်လူအပေါင်းတို့ရုံး
လျက်ရှိ၍ပိလာတူးမေး၏။ အဘယ်သူကိုလွှတ်စေ
ချင်သနည်း။ ဘာရာဘာကိုလော။ ခရိသ္ဘုတူးခေါ်
ဝေါ်သောယေရှုးကိုလော။ မနာလိုခြင်းဖြင့်သခင်
ယေရှုးအပ်ကြောင်းကိုသိ၍မေး၏။ ထိုအခါပိလာ
တူးရာဇပလ္လင်၌ထိုင်နေစဉ်။ သူ၏ခင်ပွန်းကဖြောင့်
မတ်သော၍သူအခွင့်တွင်ဝင်၍ အလျှင်းပြီးပြီးမစီ
ရင်ပါနှင့်။ ယနေ့ထိုသူကြောင့်အိပ်မက်တွင်အတိုင်း
မသိအကျွန်ုပ်ခံရသည်မှာ၍စေလိုက်၏။ ရဟန်းအ
ကြီးတို့နှင့်လူကြီးတို့လည်း ဘာရာဘာကိုလွှတ်စေရ
မည်အကြောင်း။ သခင်ယေရှုးကိုသတ်၍ပြစ်မည်
အကြောင်းကိုတောင်းပန်စိမ့်သော၄ါခပ်သိမ်းသော
သူတို့ကိုနားသွင်း၍ပြောဆိုကြ၏။ အစိုးရမင်းက
လည်း ၍သူနှစ်ယောက်တွင်အဘယ်သူကိုလွှတ်စေ
လိုသနည်းမေးသော်။ ဘာရာဘာကိုအလိုရှိသ်ဟုသူ
တို့ဆိုကြကုံ၏။ပိလာတူးမင်းလည်းခရိသ္ဘုတူးခေါ်

သောယေရှူးကို ငါအဘယ်သို့ပြုရမှန်နည်းမေးသော်။ ထိုသူတို့ကလည်းတံကျင်လျှိုလေလောဆိုကြကုံ၏။ အစိရင်မင်းက တဖန်ယေရှူးသည်အဘယ်အပြစ်ကို ကြူးလွန်သနည်းဟုမေးလျှင်။ တံကျင်၌လျှိုစေလော ဟု ထိုသူတို့ကတိုးပွါး၍ ဟစ်ကျော်လျက်လျှောက် ကြကုံ၏။ ပိလာတူးမင်းလည်းမိမိစကားကိုအကျိုးမ ခံရသည်မှုမကတိုးပွါး၍ရောက်ရက်ခတ်ပြုကြသည် ကိုမြင်လျှင်။ ရေဖြင့်ထိုလူအပေါင်းတို့ရှေ့လက်ဆေး ၍ဤသို့ဆိုလေ၏။ ဤဖြောင့်မတ်သောသူ၏သွေးကို သွန်ရာ၌ငါသည်အပြစ်မရှိ၊ သင်တို့သာဆင်ခြင်ရ မည်။ ထိုလူအပေါင်းတို့လည်းဤသူ၏အသွေးသည် ငတို့မှစ၍သားမြေးခေါင်းပေါ်၌ တည်ရှိပါစေပြန် ပြောကြ၏။ ထိုအခါထိုသူတို့အလိုသို့လိုက်၍ဘာ ရာဘာကိုလွှတ်သည်။ သခင်ယေရှူးကိုရိုက်ပုတ်ပြီး မှတံကျင်လျှိုလိုသော်လျှိုစေ ထိုသူတို့လက်သို့အပ် ပေးလေသည်။ ထိုကာလမြို့ဝန်အစိရင်စစ်သူရဲတို့ သည် အချားစိရင်မြံရုံးသို့သခင်ယေရှူးကို ဆောင် သွား၍ မိမိတို့အဖေါ်အပေါင်းတို့အားစုရုံးပြီးလျှင် အဝတ်သဃ်ာန်းကိုချွတ်ယူ၍ အပေါ်၌သတ္တုလတ်နီ အဝတ်ကိုဖုန်းလွှမ်းကြ၏။ ဆူးခွေကိုလည်းဦးပေါင်း တန်ဆာကဲ့သို့ ဆင်ပြီးလျှင်ခေါင်းတော်၌ တင်၍ ပြောင်းပင်ကိုလက်ျာ၌စွဲစေ၍သခင်ယေရှူးရှေ့တွင် တုပ်ကွလျက်ဤသို့ကျီစယ်ပြောဆိုကြ၏။ ဇူဒေအရူး လူမျိုးတို့အရှင်ကေရာဇ် ချမ်းသာပါစေ ဆိုသဖြင့်

မျက်နှာပေါ်၌တံထွေးထွေး၍ ပြောင်းပင်ကိုနှိပ်ယူ ပြီးလျှင်ခေါင်းတော်ကိုရိုက်ကြလေ၏။ ထိုသို့ကျိစယ်ညှဉ်းဆဲပြီးမှသက္ကလတ်အဝတ်နီကိုချွတ်၍ဝတ်မြဲအဝတ်ကိုဝတ်ပြန်သဖြင့် တံကျင်၌လျှိုအံ့သောငှါယူသွား၏။ ပြင်သို့ထွက်ကြလျှင်စိရနဲမြို့မှ သိမောင်အမည်ရှိသောသူတယောက်ကိုတွေ့၍ သခင်ယေရှုး လျှိုလတ္တံ့သောတံကျင်ကို အနိုင်အမိုင်ပြုကြ၍ထမ်းစေသည်။ ထမ်းလျက်ဂေါလ်ဂေါတအရိုးစုတွင်သောအရပ်သို့ရောက်ကြသော်၊ သည်းခြေနှင့်ရောသောစပျစ်ရည်ကိုသခင်ယေရှုးအားပေးကြ၍ လျှာတော်ဖြင့်မြည်းပြီးလျှင် မသောက်ဘဲနေတော်မူ၏။ တံကျင်၌လျှိုပြီးလျှင်မူကား။ အဝတ်တော်ကိုဆုတ်ဖဲ့၍အနှံတွက်ခြင်းဖြင့်ဝေငှကြကုံ၏။ ဤအရာအကြောင်းကို ပရောဖက်တတပါး ဟောသောအချက်သည်ကား။ ငါ၏အပေါ်ဝတ်တို့ကိုဝေငှကြလေကုံသည်။ ငါ၏အတွင်းဝတ်ကိုလည်းအနှံတွက်ခြင်းကိုပြု၍ယူကြသည်ဟု အကုန်အစင်ရောက်မည်အကြောင်းတည်း။ ထိုသူတို့လည်းစောင့်ငုံ့ကြည့်ရှုလျက်ထိုင်နေကြကုံ၏။ ခေါင်းတော်ပေါ်၌ဤသူသည်ဂျုဒေအရှုးလူမျိုးတို့မင်းကေရာဇ်ဖြစ်သည်။ အပြစ်တင်သောအချောက် ကမှည်းစာရေးထား၏။ ထိုကာလ သခင်ယေရှုးနှင့်အတူ သူခိုးနှစ်ယောက်ကိုတယောက်ကားလက်ျာ၊ တယောက်ကားလက်ဝဲတံကျင်လျှိုထားကြကုံ၏။ တံကျင်၏ရှေ့မှာသွားလာ

သောသူတို့လည်းခေါင်းလှုပ်သဖြင့်ခြိမ်းခြောက်ဆဲဆိုကြ၍။ သင်ဘုရားရှင်ကျောင်းတော်ကိုဖျက်၍သုံးရက်မျှဆောက်၏။ မိမိကိုယ်ကိုယ ချမ်းသာပေးပါလော။ ဘုရားရှင်သားတော်မှန်လျှင်ဤတံကျင်မှဆင်းပါလော။ ထိုအတူငရယှင်းအကြီးတို့နှင့်လူကြီးတို့ကဲ့ရဲ့ပြောဆိုကြကုံ၍။ သူခပ်သိမ်းအားချမ်းသာပေးသည်။ မိမိကိုယ်ကိုချမ်းသာမပေးနိုင်။ အိသရေဲလမင်းဧကရာဇ်မှန်လျှင် ဤတံကျင်မှယခုဆင်းပါစေ။ ငတို့ယုံမှတ်တော့မည်။ ငါဘုရားရှင်သားတော်ဖြစ်သည်ဟုဆိုဘူး၍ ရှိပြီးသူ၌ဘုရားရှင်စောင့်ရှောက်ခြင်းရှိသဖြင့်နှစ်သက်တော်မူသည်နှင့်အညီ သူ၏ကိုယ်ကိုလွှတ်ပါစေ။ ဤကဲ့သို့စကားတို့ကိုတံကျင်၌သခင်ယေရှုနှင့်အတူ တနေရာတည်းလျှိုလျက်ရှိသောသူခိုးသည်ထိပါး၍ဆိုကြ၏။ မွန်းတည့်မှသုံးချက်တီးအချိန်တိုင်အောင် တကမ္ဘာလုံးမြေအပြင်အမိုက်အာတိဖြစ်လေသည်။ သုံးချက်တီးခန့်အချိန်သို့ရောက်လျှင်သခင်ယေရှုအသံတော်ဖြင့် ဧလိ၊ ဧလိ၊ လမ္မာသပက္ကာနိ။ ငါ၏ဘုရားသခင်၊ ငါ၏ဘုရားသခင်၊ ငအားအဘယ်ကြောင့်ပြစ်ထားသနည်း။ ဆိုလိုသောစကားဖြင့်ကြွေးကြော်တော်မူ၏။ ထိုအရပ်၌ရှိသောအချို့သောသူတို့သည် ကြွေးကြော်သောအသံကိုကြားလျှင် ဤသူသည်ဧလိယကိုခေါ်သည်ဆိုကြ၏။ ထိုသူတို့တွင်တယောက်သောသူလည်းအဆောတလျှင်သွား၍တစုံတခုသောရေမြှို၌ပုံးရည်အာ

ပြည့်ဝါးများ၌တင်၍သောက်စေအံ့ဟုပေး၏။ ခဝ်သိမ်းသောသူတို့လည်းရှိစေဦး။သူ၏ကိုယ်ကိုလွှတ်ရအောင်ဖေလိုယလာအံ့ဟု စောင့်ငံ့နေကြပါစေပြောဆိုကြကုံ၏။ သခင်ယေရှုးလှံ့းတဖန်အသံတော်ဖြင့်ကျွေးကျော်လျှင်အသက်တော်ကိုလွှတ်လေ၏*။ထိုအချိန်ကာလ၌ ကျောင်းတွင်ဘုရားစင်ရှေ့ ကာဗိတ်လျက်ရှိသော ပိုး၍အဝတ်တို့သည် အထက်မှအောက်တိုင်အောင်နှစ်ဖြာကွဲလေ၏။ တကမ္ဘာလုံးမြေတုန်လှုပ်ခြင်းဖြစ်လေ၏။ ကျောက်လုံးကျောက်ဖျာတို့သည်လည်းကွဲကြလေသည်။ သင်းဂြိုင်းတို့သည်လည်းတန်ခိုးတော်အားဖြင့်ပွင့်လစ်၏။ သေလွန်ပြီးသောသန့်ရှင်းရဟန္တာတို့အလောင်းလည်းထကြ၍ သခင်ယေရှုးရှင်ပြန်တော်မူသည့် နောက်ကာလ၌ တွင်းများမှထွက်ကြ၍ ဘုရားသခင်မြတ်နိုးသောမြို့တွင်းသို့ဝင်ကြ၏။ လူအများတို့အားထင်ရှားကြလေသည်။ လူတရာအုပ်ချုပ်သော ဗိုလ်တယောက်နှင့်အတူပါသောသခင်ယေရှုးကိုကြည့်ရှုစောင့်ငံ့နေကြသောသူတို့သည်။ မြေတုန်လှုပ်ခြင်းမှစ၍ဖြစ်လေသမျှသောအကြောင်းတို့ကိုမြင်လျှင်အလွန်ထိတ်လန့်ကြောက်ရွံ့၍ဤသခင်သည် ဘုရားရှင်သားတော်ဟုတ်မှန်လှသည်ဟုဆိုကြကုံ၏။ ထိုအရပ်၌အဝေးမှကြည့်ရှု

---

* ဤအရာသို့ရောက်လျှင်တခဏမျှဒူးထောက်၍ထိတ်ဆိတ်အောင်းမေ့လျက်နေရမည်။

နေသော ဂါလိလေအနိုင်ငံက သခင်ယေရှုးနောက်တော်သို့အလုပ်အကျွေးလိုက်သော အမျိုးမိန္မတို့ရှိ၏။ ထိုမိန္မတို့တွင်မာရိယားမာဒါလေနား။ ဇာဘေဘာမာရိယား၊ ရှုဇယ်အမိ။ ဇေဘေဒယ်အရူးသားတို့၏အမိလည်းပါလေ၏။ နေဝင်အံ့ဆဲဆဲတွင် အရိမာထေအမြို့မှ ရှုဇယ်အမည်ရှိသောစည်းစိမ်နှင့်ပြည့်စုံသောသူတဦးသည် သခင်ယေရှုးတပည့်ဖြစ်၍ ပိလာတူးအထံသို့ခ၍သခင်ယေရှုးအလောင်းတော်ကိုတောင်း၏။ ပိလာတူးလည်းအလောင်းတော်ကိုပေးစေသည်။ ရှုဇယ်လည်းအလောင်းတော်ကိုယူ၍ဖြူစင်သောအဝတ်ဖြင့်ရစ်သုတ်၏။ ကျောက်၌မိမိအလို ါ အသ ်တူးသောတွင်းတွင် ချ၍ထားပြီးလျှ ်တွ ်းအဝ၌ ကြီးစွာသောကျောက်ဖျာဖုမ်းအုပ်၍သွားလေ၏။ မာရိယားမာဒါလေနားနှင့်အချားသောမာရိယားလည်း ဤအရပ်၌သင်းဂြိုင်းတော်ကိုမျက်နှာဖြ ်ထိုင်နေကြကုံ၏။

စနေနေ့ပွဲအလို ါပြင်ဆင်ပြီးသည့်မှနောက်တနေ့ရဟန်းအကြီးတို့နှင့်ဖာရိသယ်အရူးတို့လည်းစုရုံးတိုင်ပင်ကြ၍ ပိလာတူးအထံသို့လာကြသဖြင့် သခင်ငါတို့သတိရသည်။ ဤလှည့်ဖြားတတ်သောသူသည်အသက်ရှိစည် ကာလသေ၍ခရက်မြောက်လျှင်ရှင်ပါမည်ဆိုဘူးသည်။ ထိုကြောင့်သူ၏တပည့်တို့သည်ညည့်အချိန်လာ၍ သေသောအလောင်းကို ခိုးယူ၍နောက်လူအပေါင်းတို့အား သေပြီးမှရှင်ပြန်သော

အကြောင်းကို ဟောပြော၍ရှေးအလျှင်ထက် နေ့၌ အမှားကြီးမည်ဆိုးသောကြောင့်။ ခုရက်တိုင်တိုင် သင်းဂြိုဟ်ကိုစောင့်နေစေရအောင် အမိန့်တော်ရှိပါ လျှောက်လျှင်။ ပိလာတုးလည်းစောင့်ခြံသူတို့သင် တို့တွင်ရှိသည်။ သင်တို့စိတ်အလိုအတိုင်းသွား၍ စောင့်နေပါစေတော့မိန့်တော်မူသည်။ ထိုသူတို့လည်း အခွင့်ရလျှင် သင်းဂြိုဟ်တော်သို့သွားသဖြင့် ဆိုးရိမ် ကြောင့်ကြမရှိလျှင်အောင် ကျောက်ဖျာ၌ တံဆိပ် ခပ်၍လူအများအစောင့်ထားကြကုန်၏။

——oo——

## MAUNDY-THURSDAY.

သခင်ယေရှုးသည် ကိုယ်တော်မြတ်သက္ကရမင်ကူး ကိုစီရင်ထားတော်မူသည် ကြာသပတေးကြီးနေ့။

Epistle. 1 Cor. xi. 20—32.

သံပေါက်လူး ကောရင်တိမြို့သားတို့အား ရေးထား သောပဌမဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။သင်တို့တွင် အလေ့ထုံးစံရှိတိုင်း စုရုံးကြလျှင်သခင်ရှင်ညအစာစားရိုးမကြပြီး။ အ သီးအသီးသူတပါးကိုမစောင့်မင်္ဂ မိမိတို့ဆောင်ယူ ခဲ့သည်၊ညအစာစားကြသည်။ ထိုသို့ပြုကြလျှင်တချို့ ကားဆာမွတ်လျက်၊ တချို့ကားစားသောက်ကျူး လျက်ရှိကြ၏။ ဤသို့လျှင်စားသောက်ရအောင်သင်

တို့အသိမ်မရှိကြလော။ ဘုရားရှင်ကျောင်းတော်ကိုမ
ခန့်မညားပြု၍ဆင်းရဲသူတို့အရှက်ကွဲအောင်ပြုကျင့်
ကြသည်လော။ ဤအမှု၌ငါသည်သင်တို့ကိုအဘယ်
သို့ဆိုရအံ့လော။ ချီးမွမ်းရအံ့လော။ အမှန်အကန်ဤအ
မှု၌ငါသည်သင်တို့ကိုမချီးမွမ်း။ သင်တို့ကိုငါဆုံးမ
သွန်သင်ချက်သည်ဘုရားသခင်ဗျာဒိတ်တော်ကိုရသ
ဖြင့်ငါသိရသည်။ ဗျာဒိတ်တော်အချက်သည်ကား။
သခင်ယေရှုသည် မိမိကိုယ်တော်ကိုသေရအံ့အပ်
မည့်ညဥ့်၌ပေါင်မုန့်ယူ၍ ကျေးဇူးတော်ကိုချီးမွမ်းခြင်း
ဆုယူတော်မူပြီးမှဖဲ့၍ တပည့်တော်တို့အားဤသို့အ
မိန့်တော်ရှိသည်။ ယူ၍စားကြလော။ ဤအရာသင်တို့
အဖို့ငါပေးရမည့်ငါ၏ကိုယ်တော်ပင်ဖြစ်သည်။ ဤ
နည်းတူ ငါ၏အောင်းမေ့ယူတခြင်းဖြင့် ပြုကျင့်ကြ
ကုံ။ ထိုအတူညစာဖုန်းပေးပြီးမှ ခွက်ကိုယူ၍ဤသို့
မြွက်ဆိုတော်မူသည်။ ဤခွက်သည် ငါ၏အသွေးတော်
၌အသစ်သောသဘာယဖြစ်သည်။ နောက်သောက်
မည့်အခါတိုင်း ဤအမှုငါ၏အောင်းမေ့ယူတခြင်း
ဖြင့်ဆောင်ရွက်ကြကုံ။ ဤပေါင်မုန့်စားမည်၊ ဤခွက်
မှသောက်မည့်အခါတိုင်းလည်း ဘုရားရှင်သည်အ
သေကိုခံတော်မူသည်အကြောင်း နောက်တဖန်ကြွ
လာမည့်တိုင်အောင် သင်တို့ဟောကြားကြလမည့်။
ထိုကြောင့်အပြစ်မစင်ကြယ်ဘဲဤပေါင်မုန့်ကိုစားမိ
သသူ၊ ဤခွက်တော်မှသောက်မိသသူရှိလေတိုင်းဘု
ရားသခင်ကိုယ်တော်အသွေးတော်ကိုမလေးမခံ့ပြစ်

မှားခြင်းအဖြစ်ထိုဘ်လမည်။ သို့ဖြစ်၍မိမိ၌ကိုယ်ကို အသီးအသီးမေးသောလူသားစင်သင်ပြီးမှ ဤပေါင်မုန့်ကိုစားစေ၊ ဤခွက်မှသောက်ပါစေ။ အကြောင်းမူကား မထိုက်တဲ့ သေန့်ရှင်းတဲ့ စားသောက်သည်သူတိုင်းဘုရားသခင်ကိုယ်တော်ကိုမိုင်းချား၍ မသိသောကြောင့် မိမိဆုံးရှုံးစီရင်ခြင်းကို စားသောက်ရာရောက်သည်။ ဤအကြောင်းဖြင့်သင်တို့တွင်အားနည်းသောသူ၊ မကျန်းမမာသောသူအများနှင့်၍သေသောသူအများလည်းရှိကြ၏။ ငါတို့အလျောက် ငါတို့အမှု၌စီရင်ကြလျှင်၊ဘုရားသခင်အစီရင်တော်လွတ်တော့မည်။ ယခု ငါတို့အစီရင်ခံရလျှင်မူကား ဤလောက အတူတကွ ဆုံးရှုံးခြင်းလွတ်အောင် ဘုရားသခင်စီရင်ခြင်းဖြစ်တော်မူသည်။

## Gospel. John xiii. 1—15.

## သံဖွင်ရေးထားသောကျမ်းထုပ်စကားတည်း။

ပါသကာပွဲနေ့မတိုင်မှီသခင်ယေရှုသည် ဤလောကမှ ခမည်းတော်အထံသို့ ပြောင်းလဲရမည်အချိန် ရောက်သည်ကိုသိတော်မူလျှင်။ ဤလောက၌ဆိုင်သင့်သောသူတို့အား အလျှင်ချစ်သနားသောစိတ်တော်နှင့်အညီနောက်အဆုံး၌လည်းချစ်သနားတော်မူသည်။ ထိုကြောင့်ညဥ့်အစာဖုန်းပေးပြီးလျှင်ကိုယ်တော်ကိုအပ်နှံမည်အကြောင်း နတ်ဆိုးသည်သိမောင်အိသျှကာရိအုပ်၏သားယုဒနှစ်လုံးထဲ၌ အကြံသွတ်

သွင်း၍ရှိလျှင်။ ယေရှုသည်ခမည်းတော်သည်
ရှိလေသမျှကို သူ၏လက်တို့အောက်၌ ပေး၍ ဘုရားသခင်
မှထွက်လာသည်နှင့်အညီ ဘုရားသခင် အထံတော်
သို့ပြန်သွားရအံ့သောအခါ သိတော်မူသဖြင့် စားပွဲမှ
ထတော်မူ၍ အ တ်တော် တ်တော်မူပြီးလျှင်
ခါး၌ ဝါ ည် တော်မူ၏။ ထိုနောက်မှအင်း၌ရေ
ထည့်၍တပည့်တော်တို့ခြေ ရေဖြင့်ဆေးပြီးလျှင်
စည်းသောပဝါနှင့်သုတ်တော်မူ၏။ သိမောင်
ပေတရုဆီသို့ရောက်လာလျှင်၊ သ တပည့်တော်
ခြေကိုဆေးအံ့လောလျှောက်သော်။ သခင်ယေရှု
သည် အမိန့်တော်ရှိသည်၊ ငါပြုသောအမှုကိုယခု
သင်မသိ၊ နောက်ကာလမှသင်သိလတ္တံ့မိန့်တော်မူ
သော်။ ပေတရုလည်းအလျှင်ပြီးပြီးခြေဆေးသည်
ကိုမခံဝံ့ပါလျှောက်လျှင်။ သခင်ယေရှုလည်းသင့်
ခြေကိုငါမဆေးရလျှင် သင်သည်ငါ၏အမွေတော်
ကိုမခံရအမိန့်တော်ရှိသည်။သိမောင်ပေတရုလည်း
သခင်ခြေကိုမျှမက လက်ခေါင်းတို့ကိုလည်း ဆေး
တော်မူပါ။ သခင်ယေရှုလည်းရေချိုးပြီ သောသူ
သည်ခြေကိုသာဆေးလိုသည်။ တကိုယ်လုံးမှာမူကား
သန့်ရှင်းသည်။ သင်တို့စင်ကြယ်ရှိသောသော်လည်း
သင်တို့၌အားလုံးမစင်ကြယ်။သခင်ယေရှုသည်မည်
သသူသည် သူ၏ကိုယ်တော်ကို ရောင်းအပ်လတ္တံ့
သည်ကိုသိတော်မူ၍သင်တို့၌အားလုံးမစင်ကြယ်ဟု
မိန့်တော်မူသည်။ တပည့်တော်တို့ခြေကိုဆေးတော်မူ

ပြီးလျှင်တဖန်အဝတ်ကိုယူ၍ ထိုင်တော်မူပြန်လျက် အမိန့်တော်ရှိသည်။ သင်တို့ကိုငါပြုလေသည်အရာ တို့သိကြသည်လော။ သင်တို့သည်ငါ့ကိုဆရာတော် သခင်ဟု ဆိုကြသည်။ သင်တို့စကားဟုတ်မှန်၏။ အ ယင်ငါသည်ဆရာသခင်မှန်သည်။ ယခုငါသည်ဆရာသ ခင် ဖြစ်လျက် သင်တို့ခြေကိုဆေးသကဲ့သို့ သင်တို့အ ချင်းချင်း လည်းခြေဆေးရမည်။ ငါပြုသောနည်းကဲ့သို့ သင်တို့ပြုစေခြင်းငှါ သင်တို့အားပုံသက်သေ ပညတ် ထားသည်။

——*00*——

GOOD FRIDAY.

သခင်ယေရှုသည်အသေခံတော်မူသည်သောကြာ ကြီးနေ့။

The Passion of our Lord Jesus Christ, according to St. John xviii—xix. 1—24.

သံဖွင့်ရေးထားသောကျမ်းမှထုတ်၍ငါတို့သခင် ယေရှုကရိသျှတူးဒုက္ခရိယာကျင့်ခံတော် မူသောအကြောင်းတည်း။

ထိုအခါ။ သခင်ယေရှုသည်တပည့်တော်တို့နှင့်စေ ဒရုန်အမည်ရှိသောချောင်းတဘက်သို့ကြွတော်မူ၏။ ထိုအရပ်၌ရှိသောဥယျာဉ်သို့တပည့်တော်တို့နှင့်အတူ သခင်ယေရှုကြွလာမြဲအကြောင်းကို ရံသူလက်သို့ အပ်မည်ကြံသောတပည့်ယုဒသည် သိသည်ဖြစ်သော

ကြောင့်။ ရှုဒသည်စစ်သူရဲအများနှင့်ရဟန်းအကြီးဖာရိသယ်အရူးတို့အစေအပါလူတို့ကိုခေါ်၍ မီးအိမ်မီးရှူတိုင်းလက်နက်ကရိယာလက်စွဲလျက်လာသည်၊ သခင်ယေရှုလည်းကိုယ်တော်၌ဖြစ်လတ္တံ့သောအရာရှိလေသမျှကို အကုန်အစင်သိတော်မူ၍ ဆီးကြိုသဖြင့်လာသည်သူတို့ကို အမိန့်တော်ရှိသည်။သင်တို့အဘယ်သူကိုရှာသနည်းမေးတော်မူလျှင်။ ယေရှုနာဇရေနူဟုလျှောက်သည်။ သခင်ယေရှုလည်းငါဖြစ်သည်အမိန့်တော်ရှိသည်။ ထိုသူတို့နှင့်သခင်ယေရှုကိုအပ်နှံသောရှုဒလည်း အတူတကွရပ်လျက်နေသည်။ ငါဖြစ်သည်သခင်ယေရှုမိန့်တော်မူသည်။ ထိုသူတို့လည်းနောက်သို့ဆုတ်၍မြေပေါ်၌လဲကြကုန်၏။ တဖန်သခင်ယေရှုလည်းမည်သသူကိုရှာကြသနည်းမေးပြန်လျှင်၊ ယေရှုနာဇရေနူဟုထိုသူတို့သည်ပြောဆိုသည်။ သခင်ယေရှုလည်းငါဖြစ်ကြောင်းကိုအလျှင်ဆိုလေပြီး ထိုကြောင့်ငါကိုရှာလျှင် ဤသူတို့သွားပါစေ။ ငါ့ကိုအပ်ပေးသောသူတို့တွင် တယောက်မျှပျက်စီးလျှင်အောင်ငါမပြု အလျှင်အမိန့်တော်ရှိသည်အချက် အပြီးအစင်ရောက်အောင် ဤစကားကိုဆင်ချင်တော်မူ၍အမိန့်တော်ရှိသည်။ သိမောင်ပေတရုလည်း ဓါးပါ၍အိမ်မှဓါးကိုထုပ်သဖြင့်ရဟန်းအချုပ်ကစေသော သူတယောက်ကိုခုတ်၍ လက်ျာနားရွက်ပြတ်လေ၏။ ဤသူအမည်ကား မာလခုတည်း။ သခင်ယေရှုလည်းအိမ်၌ဓါးကိုသွင်းထား

လော။ ခမည်းတော်သနားသောဖလားကိုမသောက်ရပြီးလောပေတရုအားအမိန့်တော်ရှိ၏။ စစ်သူရဲအကြီးနှင့်ရှုဒေအူးတို့စေလိုက်သောငယ်သားတို့သည် သခင်ယေရှုးကိုဖမ်းဆီး၍ချည်နှောင်ပြီးလျှင် ရှေးဦးစွာအန္နာဆီသို့ဆောင်ယူသွားလေသည်။ အန္နာသည် ထိုနှစ်တွင် ကာဒိဖာအမည်ရှိသောရဟန်းအကြီးအချုပ်၏ယောက္ခမတည်း။ ကာဒိဖမူကား ရှုဒေအူးတို့အားလူအပေါင်းချမ်းသာလွတ်အောင် တယောက်သောသူကို သတ်အံ့ သတ်သင့် သတ်ကောင်းသည် အကြံပေးသောရဟန်းတည်း။ သခင်ယေရှုးကိုခေါ်ယူသွားလျှင် သိမောန် ပေတရုနှင့် အချားသောတပည့်တော်တယောက်သည်နောက်မှလိုက်ကြ၏။ ထိုတပည့်တော်တယောက်သည် ရဟန်းအချုပ်နှင့်အသိအကျွမ်းဖြစ်၍ သခင်ယေရှုးနှင့်အတူရဟန်းအချုပ်အိမ်ဦးသို့ဝင်သည်။ ပေတရုမူကားပြင်ဝင်တံခါးတွင်နေ၏။ ရဟန်းအချုပ်နှင့်အကျွမ်းဝင်သောတပည့်သည် ထွက်၍ အစောင့်မိန်းမအားအခွင့်ဆို၍ ပေတရုကိုအတွင်းသို့သွင်းသည်။ အစောင့်မိန်းမလည်းပေတရုအား ထိုသူတပည့်တို့အစုမှသင်ဖြစ်သည်လောမေး၏။ ပေတရုလည်းတပည့်မဟုတ်ဆို၏။ အစေအပါယ်သားတို့သည် ချမ်း၍မီးတိုအနိမ့်လှုံနေကြသည်တွင် ပေတရုလည်းအတူရပ်လျက်လှုံနေ၏။ သခင်ယေရှုးကိုရဟန်းအချုပ်လည်း တပည့်တော်တို့အကြောင်းဆုံးမသွန်သင်သည့်အကြောင်းတို့ကိုမေး၏။ သခင်ယေ

ရှုးလည်း ဤသို့ပြန်ပြောတော်မူ၏။ ငါသည်လူအာ ပေါင်းတို့အား ပွင့်လင်းထင်ရှားစွာဟောပြောသည်။ ငါသည် အစည်းမပြတ်ဓမ္မဇရပ်မှစ၍ ကျောင်းကြီး တွင်ရှုဒေအရှူးအပေါင်းစုရုံးလာသောနေရာတို့၌ဆုံမ္မ သွန်သင်တော်မူသည်။ ဆိတ်ကွယ်ရာတခွန်းမျှငါမ ဟောပြောငါကိုအဘယ်ကြောင့်မေးသနည်း။ ကြား သသူတို့အားအဘယ်အကြောင်းအရာကိုဟောပြော သနည်းထိုသူတို့အားမေးပါလော။ ငါ၏နှုတ်မှအ ဘယ်သို့ထွက်ကြောင်းကို သူတို့သိသည် ။ ဤအ ကြောင်းများကိုသခင်ယေရှုးပြန်ပြောစည်။ အပါး အရင်းတွင်ရှိသောအစေအပါတယောက်သည် သ ခင်ယေရှုး၏ပါးတော်ကိုပုတ်သဖြင့်ဤကဲ့သို့ရဟန်း အကြီးအချုပ်ကိုပြန်ပြောရမည်လောဆို၏။ သခင် ယေရှုးလည်း မကောင်းသောစကားကိုငါဆိုသဖြင့် မကောင်းကြောင်းကိုပြလော။ ကောင်းသောစကား ကိုဆိုသဖြင့် အဘယ်ကြောင့်ပါးကိုပုတ်သနည်းဆို တော်မူ၏။ ထိုနောက်မှအန္နာသည်သခင်ယေရှုးကို ကာဒိဖရဟန်းအချုပ်ဆီသို့ပို့၏။ ထိုအခါသိမောင် ပေတရုသည်ရပ်လျက်မီးလှုံနေ၏။ အတူနေသောသူ တို့ကပေတရုကိုထိုသူတပည့်အစုကသင်လည်းဖြစ် သည်လောမေးဆိုလျှင်အကျွန်ုပ်မဟုတ်ဖူးဟုငြင်းဆို ၏။ပေတရုသည်နားရွက်ကိုပြတ်သောသူ၏ပေါက် ဖေါ်ဖြစ်သော ရဟန်းအချုပ်၏ ကျွန်တယောက်က လည်း ဥယည်တွင်ထိုသူနှင့်အတူနေသည်ကို ငါမ

မြင်လောဆိုလျှင်ပေတရုတဖန်ငြင်းဆန်ပြန်၏။ထိုခ
လာကြက်တွန်၏။ သခင်ယေရှုကိုကာဣဖအိမ်မှမြို့
အစီရင်ရုံးသို့ဆောင်ယူသွား၏။ ထိုအချိန်နံနက်ဖြစ်
၍ပွဲ၌စားရမည်အရာများကိုစားရနိုင်မည်အကြောင်းနှင့်
အညစ်အကြေးစွဲအံ့ဘိုး၍ ရှုဒေအရူးတို့သည်ရုံးအတွင်း
သို့မဝင်သောကြောင့်ပိလာတူးမင်းသူတို့ဆီသို့ပြင်မှ
ထွက်လာ၍ဤသို့ဆို၏။ ဤသူ၌အဘယ်အပြစ်ပြော
ဆိုဖွယ်ပါသနည်းမေးလျှင်။ထိုသူတို့လည်း၊ဤသူဆိုး
ညစ်သောသူမဟုတ်လျှင် သခင်အားငါတို့သည်အပ်
ပေးမည်လောလျှောက်လျှင်။ ပိလာတူးမင်းလည်းတ
ဖန်သင်တို့ယူ၍ သင်တို့တရားရှိအတိုင်း အပြီးစီရင်
ကြဆို၏။ ရှုဒေအရူးတို့ကလည်းအကျွန်ုပ်တို့သည်တ
ယောက်သောသူကိုမျှမသတ်အပ်လျှောက်၏။ဤအ
ချက်များကိုသခင်ယေရှုသည်အဘယ်သို့အကြောင်း
ဖြင့်သေရမည်ဟောပြောသည်သောလ္တတ်တော်ထွက်
အတိုင်းအကုန်အစင်ရောက်အောင်အချက်ဖြစ်သည်။
ပိလာတူးမင်းသည်ရုံးအတွင်းသို့ဝင်ပြန်၍သခင်ယေ
ရှုကိုခေါ်သဖြင့်မေး၏။ သင်သည်ရှုဒေအရူးလူမျိုး
တို့သခင်အရှင်လောမေးလျှင်။ သခင်ယေရှုလည်း
ဤစကားကိုသင်၏အလျှောက်မေးသည်လော။ သူ
တပါးတို့၏အကြောင်းကို သင့်အားပြောသည်လော
ဆို၏။ ပိလာတူးမင်းလျှင်ငါရှုဒေအရူးတို့အမျိုးလော၊
သင့်အမျိုးရဟန်းအကြီးတို့အပ်ပေးသည်။ အဘယ်
အပြစ်သင်ပြုမိသနည်းမေးလျှင်။သခင်ယေရှုလည်း

ဤလောကမှငါ၏နိုင်ငံရှိသည်မဟုတ်။ ဤလောကမှငါ၏နိုင်ငံရှိလျှင်ဇူဒေအရှူးတို့ဘိုမပေးမအပ်ရအောင်ငါ၏အစေအပါတို့သည်တားလတ္တန့်သည်။ ယခုငါ၏နိုင်ငံသည်ဤလူတို့နေရာမှရှိသည်မဟုတ်ဟုဆိုတော်မူ၏။ ပိလာတူးလည်းတဖန်၊ သို့ဖြစ်လျှင်သင်သည်ရှင်ဘုရင်လော။ သခင်ယေရှူးလည်းသင်သည်ယခုဆိုပြီးငါသည်ရှင်ဘုရင်ဖြစ်သည်။ ဟုတ်မှန်သောသက်သေဖြင်စေလို၍ငါဖွားမြင်သည်။ ဤလောက၌ငါသည်ဟုတ်မှန်သောစကားကို မြတ်နိုးသောသူတိုင်းငါ၏နှုတ်တော်ထွက်ကိုနားထောင်သည် အမိန့်တော်ရှိလျှင်။ ပိလာတူးမင်းလည်းဟုတ်မှန်သောအရာဆိုသည်ကားအဘယ်အရာနည်း ဆိုပြီးမှတဖန် ဇူဒေအရှူးတို့ရှိရာပြင်သို့ထွက်၍ဆို၏။ ဤသူ၌ငါသည်မည်သည်အပြစ်တခုကိုမျှမတွေ့၊ ဤပါသကာပွဲ၌တယောက်သောသူကိုလွှတ်မြဲထုံးစံရှိသည်။ ဇူဒေအရှူးတို့ရှင်ဘုရင်ကိုသင်တို့လွှတ်စေလိုသလောမေလျှင်။ ဇူဒေအရှူးလူအပေါင်းတို့လည်းဤသူကိုမဟုတ်ဘာရာဘာဟုဟစ်ကျွေးကြကုန်၏။ ဘာရာဘာသည်ကားသူခိုးတည်း။ ထိုအခါပိလာတူးမင်းလည်း သခင်ယေရှူးကို ကိုင်ငင်ရိုက်ပုတ်စေသည်။ စစ်သူရဲတို့သည်ဥဘောင်းကဲ့သို့ဆူးခွေလုပ်၍ခေါင်းတော်၌တင်ပြီးလျှင်နီသောအဝတ်ကိုလွှမ်း၍အပါးသို့လာသဖြင့် ဇူဒေအရှူးတို့မင်းကောင်းချမ်းသာပါစေဆို၍ ပါးကိုပုတ်ကြ၏။ ထိုနောက်မှ တဖန်ပိလာတူးမင်းပြင်သို့ထွက်၍ ဇူဒေ

အရူးတို့ကိုဆိုပြန်၏။ ဤသူ၌အပြစ်တခုမျှမရှိကြောင်း သင်တို့သိရအောင်၊ သင်တို့မြင်စေခြင်းငှါပြင်သို့ ထုတ်သည်။ သခင်ယေရှုးကိုဆူးခွေးဘောင်းတင် လျက်၊ အနီအဝတ်ဖုမ်းလွှမ်းလျက်ပြင်သို့ထွက်စေ ၍ပိလာတူးသည်ဇုဒေအရူးတို့အားဆို၏။ ဤသူကိုကြည့် မြင်ကြ။ ရဟန်းအကြီးတို့နှင့်အခစားအပေါသူတို့သည် မြင်ရလျှင်။ ဤသူကိုတံကျင်လျှိုလေလျှိုလေဟုဟစ် ကြော်ညာကြ၏။ ပိလာတူးမင်းလည်းသင်တို့ယူ၍ အလျောက်တံကျင်လျှိုကြ။ ငါမှာသူ၌အပြစ်တခုမျှ မတွေ့ဆိုလျှင်။ ဇုဒေအရူးတို့လည်းအကျွန်ုပ်တို့တွင်တ ရားရှိသည်။ ဤသူသည်မိမိကိုယ်ကိုဘုရားရှင်သား တော်ပြုသောကြောင့် တရားနှင့်အညီသေရလတ္တန့် သည်လျှောက်ကြ၏။ ဤစကားများကိုပိလာတူးမင်း ကြားလျှင်လွန်၍ကြောက်ခြင်းရှိသည်။ သို့ဖြစ်၍တ ဖန်ရုံးသို့ဝင်သဖြင့်သခင်ယေရှုးကိုပြသည်။ သင်အ ဘယ်အရပ်မှနည်းမေးသည်ကို သခင်ယေရှုးသည် တခွန်းမျှမပြန်ပြောရှိလျှင် ပိုးလာတူး တဖန်ဆိုပြန် သည်။ သင်အဘယ်ကြောင့်ငအားမပြန်မပြောသ နည်း။ ငါသည်တံကျင်၌လျှိုပိုင်၊ လွှတ်ပိုင်သောအခွင့် အကြောင်းကိုသင်မသိလောမေးပြန်လျှင်။ သခင် ယေရှုးသည်အထက်အရပ်ကအခွင့်မပြေသမျှသင် ငါ၏ကိုယ်၌အခွင့်တခုမျှမရှိဖြစ်ကြောင်း။ ငကိုသင့် အားအပ်သသူသည် သာ၍အပြစ်ကြီးသည်ဆိုတော်မူ ၏။ ထိုနောက်မှပိလာတူးသည်သခင်ယေရှုးကိုလွှတ်

ရမည်အကြောင်းရှာဖွေစုံးစမ်း၏။ ဗုဒ္ဓအုံးတို့လည်း ဟစ်ကြော်၍ဤသူကိုလွှတ်လျှင်သခင်နှင့်ဘုရင်ချုပ် သည်အကျွမ်းမဝင်မသင့်ဖြစ်တော့မည်။ မင်းကေ ရာဇ်လက်ရုံးပြုသသူတိုင်း ဘုရင်ချုပ်ရန်သူဖြစ်သည်။ ဤစကားတို့ကိုပိလာတူးကြားပြီးလျှင် သခင်ယေရှုး ကိုပြင်သို့ထုတ်၍ဘေရဲအုံးအလိုဖြင့်ဂါဗါတာခေါ် သည့်နေရာတွင်ပလ္လင်၌ ပိလာတူးမင်းထိုင်နေသည်။ ထိုအချိန်သည်ကား ပါသကာပွဲအလို၄ါ ပြင်ဆင် သောနေ့မွန်းမတည့်မှီအချိန်တည်း။ ဗုဒ္ဓအုံးတို့အား ပိလာတူးမင်းသည် သင်တို့မင်းကေရာဇ်ကို ကြည့်ရှုကြ ဟုဆို၏။ ထိုသူတို့လည်းယူလေ၊ယူလေ၊တံကျင်လျှို လေ၊ကြော်ညာကြ၏။ ပိလာတူးလည်းသင်တို့မင်းကေ ကရာဇ်ကိုတံကျင်လျှိုအံ့လောဟုမေး၏။ ရဟန်းအ ကြီးတို့ကလည်း ဘုရင်ချုပ်မှတပါး ငါတို့အရှင်မရှိ ဟုပြန်ပြောကြ၏။ ထိုကာလ၌ထိုသူသည်တံကျင်လျှို စိမ့်သော၄ါ သခင်ယေရှုးကိုအပ်ပေး၏။ ထိုသူတို့ လည်း ယူသဖြင့်ပြင်သို့ထုတ်၍ သူ၏တံကျင်ထမ်း ဂေါလ်ဂေါတအရိုးစုတောင်သို့ထွက်သွား၍ရောက် လျှင်။ သူခိုးနှစ်ယောက်ကိုတယောက်တဖက်သခင် ယေရှုးကိုအလယ်တံကျင်လျှိုထား၏။ ပိလာတူးလှ်း ကမ္ပည်းစာမှတ်၍ ခေါင်းတော်ပေါ်၌ထား၏။ က မ္ပည်းစာကား၊ ယေရှုးနာဇရေနှဗုဒ္ဓအုံးတို့ရှင်ဘုရင် တည်း။ ဤကမ္ပည်းစာသည်ဘေရဲအုံး၊ဂရဲခု၊လတင် ဘာသာအလိုဖြင့် ရေးထား၏။ သခင်ယေရှုကိုတံ

ကျင်လျှိုရာအရပ်သည်၊ မြို့၏အနီးဖြစ်၍ဂူဒေအရူးတို့
အများ၏ငမ္ဘည်းစာကိုဖတ်ပြီးမှဂူဒေအရူးတို့ရဟန်း
အကြီး ပိလာတူကိုလျှောက်သည်။ ဂူဒေအရူးတို့ရှင်
ဘုရင်မရေးပါနှင့်။ ဤလူသည်ဂူဒေအရူးတို့ရှင်ဘုရင်
ဖြစ်သည်ဆိုသည်ဟုရေးပါလျှောက်လျှင်။ ပိလာတူး
လည်းရေးမည်အရာကိုရေးပြီးပြီ။ စစ်သူရဲတို့လည်း
သခင်ယေရှုကို တံကျင်လျှိုပြီးလျှင် အဝတ်တော်
ကိုယူ၍လေးဖြာခွဲသဖြင့် တယောက်တဖြာစီယူကြ
၏။ အတွင်းဝတ်ကိုလည်းမချုပ်ဖဲ့အထက်အောက်
အလုံးစုံရက်လျက်ရှိသောကြောင့် ထိုသူတို့အချင်း
ချင်းမခွဲမဖဲ့ထိုက်သူရအောင် အနှံစာတွက်ကြအံ့ဆို
၏။ကျမ်းစကားငါ၏အဝတ်တို့ကိုခွဲယူကြလေသည်။
ငါ၏အတွင်းသင်္ကန်းပေါ်၌ အနှံစာတွက်၍ယူကြ
သည်။အပြီးအစင်ရေံအောင်ဤကဲ့သို့စစ်သူရဲတို့ပြု
ကြသည်။ သခင်ယေရှုတံကျင်အပါးသူ၏မယ်တော်
နှင့် မယ်တော်အမိ ညီမမာရိယားကလေအော်ဖေ၊
မာရိယားမာဒါလေနားတို့သည်မတ်တတ်ရပ်လျက်
နေကြသည်။ သခင်ယေရှုမှာမယ်တော်နှင့်ချစ်လေး
မြတ်သောတပည့် မတ်တတ်ရပ်လျက် မြင်တော်မူ
လျှင်။ မယ်တော်ကို၊ မိန္မ၊ ဤသူသင်၏သားတည်းဟု
ဆိုတော်မူ၏။ ထိုနေ့ံမှတပည့်ကို၊ ဤမိန္မသည်သင်၏
အမိတည်းဟုဆိုတော်မူပြန်၏။ဤမှစ၍တပည့်သည်
မယ်တော်ကိုသိမ်းယူ၏။ ထိုနေ့ံမှသခင်ယေရှုသည်
ရှိလေသမျှ အဘုန်အစင်ရောက်သည့်ကိုသိတော်မူ

လျှင်။ကျမ်းစကားအပြီးရောက်အောင်ရေငတ်သည်ဟုမြွက်တော်မူ၏။ စစ်သူရဲတို့လည်းပုံးရည်နှင့်ပြည့်သောအိုးတည်လျက်ရှိသည်ကို ရေမှိုတကလေးကိုပုံးရည်၌နှစ်၍ဝါးဖျားဦးတင်၍နှုတ်သီးတော်၌ထိုးအပ်၏။ သခင်ယေရှုးပုံးရည်ကိုမြိပြီးမှ။ ရှိလေသမျှကုန်စင်ပြီးအမိန့်တော်ရှိသည်။ ထိုနောက်မှခေါင်းတော်ကိုညွတ်၍အသက်တော်လွှတ်တော်မူ၏ *။

စနေနေ့ပွဲမရောက်မှီ ပွဲအလို့ငှါပြင်ဆင်သောနေ့ဖြစ်သည်။ ဤစနေနေ့သည်ပွဲကြီးလှသောကြောင့်အလောင်းတို့တံကျင်၌မရှိစေခြင်းငှါ ရှုဒေအားတို့သည်တံကျင်၌ ရှိသောသူတို့၏ခြေကိုချိုး၍ သေသောအလောင်းတို့ကို တံကျင်မှချရမည်အခွင့် ပိလာတုးကိုတောင်း၏။ ပိလာတုးအခွင့်ပြုလျှင်စစ်သူရဲတို့သည်သွား၍ အလျှင်တွေ့သောသူတယောက်ခြေကိုချိုးသည်။နောက်တယောက်သခင်ယေရှုးနှင့်အတူတံကျင်လျှိုသောသူကိုလည်း ဤသို့သို့ချိုးသည်။ သခင်ယေရှုးဆီသို့လာ၍ အသက်မရှိကြောင်းမြင်လျှင်ခြေတော်ကိုမချိုးကြ။ စစ်သူရဲတယောက်သာလှံဖြင့်နံဘေးတော်ကိုထိုး၍ သွေးရေတို့သည်ထွက်လာ၏။ ဤအရာကိုမြင်သောသူသည် သက်သေပြုသည်။သူ၏သက်သေလည်းဟုတ်မှန်လှသည်။သင်တို့

---

* ဤအရာသို့ရောက်လျှင် တခဏမျှဒူးထောက်၍ တိတ်ဆိတ်အောင်းမေ့လျက်နေရမည်။

ယုံမှတ်ရအောင် ပြောသောအရာ ဟုတ်မှန်ကြောင်းကိုလည်းသူသိ၏။ အရိုးကိုမချိုးစေရ။ ထိုး၍ပဲ့ပေါက်သောသူတို့မြင်ရကြလတ္တံ့မည်။ ကျမ်းတွင်ရှိသော အချက်များကို အကုန်အစင်ရောက်အောင်ဤကဲ့သို့ ဖြစ်လေသည်။

ထိုနောက်မှအရိမာထေအမြို့မက၊ ယုဒယသည်ယု ဒေအရူးတို့ကိုကြောက်၍မထင်မရှားသောအဖြစ်နှင့် သခင်ယေရှုးတပည့်ဖြစ်၍ ပိလာတူးအားအလောင်း တော်ကိုယူရမည့်အကြောင်းလျှောက်၏။ ပိလာတူး အခွင့်ပေးသဖြင့်လာ၍အလောင်းတော်ကိုယူ၏။ အ ထက်က ညဉ့်အခါအလျင် သခင်ယေရှုးအထံသို့ လာသောနိကောဒေမုလည်း အမွှေးအကြိုင်အချိန်အ ခွက်သုံးဆယ်ခန့် ဆောင်ခဲ့၍ရောက်လာ၏။ သခင် ယေရှုးအလောင်းတော်ကိုယူ၍ အမွှေးအကြိုင်နှင့် တကွအဝတ်ဖြင့်ယုဒေအရူတို့နည်းရစ်ထုတ်သည်။ သ ခင်ယေရှုးကိုတံကျင်လျှိုရာအရပ်၌ဥယည်ရှိ၏။ ထို ဥယည်တွင် တယောက်မျှမသင်းဂြိုဟ်ဘူးသောတွင်း သစ်ရှိ၏။ စနေနေ့ပွဲအလိုငှါပြုပြင်ရမည့်နေ့ဖြစ်၍အ နီးအပါးရှိသော၍တွင်း၌ အလောင်းတော်ကိုသွင်း ထားကြကုံ၏။

———॥———

## EASTER SUNDAY.

### သခင်ယေရှုးရှင်တော်မူပြန်သောတနင်္ဂနွေနေ့။

### Epistle. 1 Cor. v. 7—8.

သံပေါက်လူး ကောဝ်ရင်တိမြို့သားတို့အား ရေးထားသောပဌမဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုတို့။သင်တို့တဆေးမှကင်းလျက်ရှိကြသည်နှင့်အညီ၊အသစ်သန့်ရှင်းသောမုန့်ဖြစ်နိုင်အောင်၊သင်တို့၌ရှိသောတဆေးဟောင်းကိုပြစ်ပယ်ဆေးကြောကြကုန်။ ငါတို့ပသ္ခါ ဖြစ်တော်မူသောသခင်ယေရှုးကရိသ္ခူးသည်။ ငါတို့အကျိုးဖြစ်စိမ့်သောငှါ၊အသေခံတော်မူပြီး။ ထိုကြောင့်၊အဟောင်းတဆေးဖြင့်မဟုတ်။ ပေါက်မျက်ကောက်ကျစ်သောစိတ်တည်းဟူသော တဆေးဖြင့်မဟုတ်၊ ရိုးဖြောင့်မတ်သောဇတ်နှင့်၊တဆေးမဲ့သောမုန့်ဖြင့်ဤပွဲကိုဖြည့်ခံကြစို့။

### Gospel. Mark xvi. 1—7.

သံမာရကူး ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ မာရိယားမာဒလယ်နား၊ ဇာကောဗ်၏အမိမာရိယား၊ သာလောမယ်၊ ဤသုံးဦးသောမိမ္မမြှတ်တို့သည်အမွှေးအကျိုင်တို့ကိုဝယ်၍၊သခင်ယေရှုးအလောင်းတော်ကို၊ လိမ်းကြံအံ့ငှါ၊ လာကြကုန်

၏။ ခုနှစ်ရက်တွင်၊ အဦးဖြစ်သောနေ့နံက်စောစော ထွက်လာကြ၍၊ နေထွက်သောအချိန်တွင်၊ သင်းဂြိုင်းတော်သို့ ရောက်လာကုန်သည်။ ခရီး၌၊ သင်းဂြိုင်းတော်တွင်းအဝ ပိတ်ဆို့သောကျောက်ဖျာကို၊ မည်သူသည်ငါတို့ကိုဖွင့်လှန်ပေးပါမည်နည်းဟုအချင်းချင်းပြောဆို၍ သွားကြ၏။ ရောက်သောအခါ ကြည့်ရှုကြလျှင်၊ ကျောက်ဖျာဖွင့်လှန်သည်ကိုတွေ့မြင်ကြ၏။ ထိုကျောက်ဖျာသည်ကား။ အလွန်ကြီးမားသောကျောက်ဖျာတည်း။ ထိုမိန္မမြတ်တို့သည်၊ သင်းဂြိုင်းတော်သို့ဝင်သည်နှင့်၊ လက်ျာဘက်မှာထိုင်နေသောပျိုရွယ်နုနယ်လျက်ဖြူစင်စွာသောအဝတ်ဝတ်သောလုလင်ယောက်ကိုမြင်ရလျှင်၊ ကြောက်ရွံ့ထိတ်လန့်ခြင်းနှင့်၊ အံ့အားသင့်ရှိကြကုန်သည်။ ထိုပျိုရွယ်နုနယ်သောသူသည်၊ မိန္မမြတ်တို့အားဤသို့ဆို၏။ သင်တို့မကြောက်ရွံ့ကြလင့်။ တံကျင်လျှိုသောနာဇရက်မြို့သား၊ သခင်ယေဇူးကို၊ သင်တို့ရှာကြကုန်သည်။ ရှင်တော်မူပြန်၍၊ ဤအရပ်တွင်မရှိပြီ။ အလောင်းတော်ထားကြသောအရာဌာနကိုသာကြည့်ရှုကြကုန်။ သို့ရာတွင်၊ သင်တို့သွား၍ဘုရားရှင်ကိုယ်တော်သည် ဂါလိလေအားနိုင်ငံသို့ အလျှင်ရှေ့ကြွတော်မူကြောင်းကို၊ တပည့်တော်တို့နှင့် ပေတရုးအားပြောဆိုကြ။ ထိုကာလ၊ ဂါလိလေအား၌အလျှင်ဗျာဒိတ်တော်နှင့်အညီ၊ ကိုယ်တော်မြတ်ကိုဖူးမြင်တွေ့ကြရလမည်။

——oo——

## QUASIMODO, OR LOW SUNDAY.

## သခင်ယေရှုးရှင်တော်မူပြန်သောပွဲနေ့နောက် ပဌမ တနင်္ဂနွေနေ့။

### Epistle. 1 John v. 4—9.

### သံဇွှင် ဘာသာသူအပေါင်းတို့အား ရေးထားသော ပဌမဆုမ္မစာမှနုတ်သောစကားတည်း။

အလွှန်မြတ်နိုးသောဘာသာသူတို့။ ဘုရားသခင်မှအသစ်ဖွားမြင်သော သူခပ်သိမ်းတို့၊ ဤလောကကိုအောင်မြင်ကြသည်။ ဤလောကကိုနိုင်ရာသောအောင်မြင်ခြင်းသည်ကား၊ငါတို့ယုံကြည်ခြင်းတည်း။ သခင်ယေရှုးသည် ဘုရားရှင်သားတော်ရှိကြောင်းယုံကြည်သသူမှတပါး၊ ဤလောကကိုမည်သူအောင်မြင်နိုင်အံ့နည်း။ ယေရှုးကရိသ္ျတုးသည်ကား၊ ရေနှင့်အသွေးနှင့်တကွကြွလာသောသခင်တည်း။ ရေနှင့်သာကြွလာသည်မဟုတ်၊ အသွေး၊ ရေနှင့်တကွကြွလာတော်မူသည်။သခင်ယေရှုးကရိသ္ျတုးသည်၊ ဟုတ်မှန်ဖြောင့်မတ်ရာ ရှိကြောင်း၊ အချွားမဟုတ်၊ အိသပိရိတုးသည်သက်သေပြတော်မူသည်။ မိုဃ်းကောင်းကင်၌သက်သေခံတော်မူကုန်သော ခမည်းတော်၊ နုတ်ကပတ်တော်၊ အိသပိရိတုး၊ ဤသုမ္မွားတည်း။ဤသုမ္မွားတို့လည်းတလုံးတဝတည်းဖြစ်သည်။ မြေအပြင်၌လည်း၊အိသပိရိတုး၊ရေ၊အသွေး၊သက်

သောခံသောဤသူမွားတည်း။ ဤသူမွားတို့လည်းထို အဘူတဝတည်းဖြစ်သည်။ လူတို့ခံသည်သက်သေ ကို၊ ငါတို့သည်ယူယုံရလျှင်၊ ဘုရားရှင်ပြုသောသက် သေအလွန်ကြီးမြင့်မြတ်၍မပယ်မရှားသင့်။ ဤကြီး မြင့်မြတ်သောသက်သေသည်ကား၊ သူ၏သားတော် အတို့ ဘုရားသခင်ခံသောသက်သေတည်း။ ဘုရား ရှင်သားတော်၌ယုံကြည်လေးမြတ်ခြင်းရှိသသူ၊ ဘု ရားသခင်၏သက်သေးထိုသူ၌စွဲရှိလေသည်။

## Gospel. John xx. 19—31.

### သံဖွင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ ခုနစ်ရက်တွင်၊ အဦးသောနေ့နှင့်တ နေ့တည်း။ညနေအခ နှ်၌၊တံခါးပိတ်နေလျှက် ဂျူဒေ အနူးတို့ကိုကြောက်ရွံ့၍ တပည့်တော်တို့ စုရုမ်းနေ သောအခန်းသို့၊ သခင်ယေရှုးသည်ကြွလာတော်မူ ၍၊ အလယ်တွင် ကိုယ်တော်ထင်ရှား ပြတော်မူ လျှက်၊ ဤသို့အမိန့်တော်ရှိသည်။ ငြိမ်သက်စွာရှိနေ ကျကုန်။ ဤသို့မြွက်ဆိုတော်မူပြီးမှ၊လက်တော်ဖြင့်၊ နံဘေးတော်၌ ထိုးရာကိုညွှန်ပြတော်မူ၏။ တပည့် တော်တို့လည်း မိမိသခင်ကိုမြင်ရလျှင်၊ ကြည်လင် ရွှင်မြူးခြင်းပတ်ရှိကြကုန်၏။ တဖန်၊ ထိုသူတို့အား အမိန့်တော်ရှိပြန်၏။ ငြိမ်သက်စွာရှိနေကြကုန်။ ခ မည်းတော်သည်ငါကိုစေလွှတ်တော်မူသကဲ့သို့၊ သင် တို့ကို၊ငါစေလွှတ်တော်မူသည်။ဤသို့မိန့်တော်မူပြီး

မှ၊ ထိုသူတို့အပေါ်၌ခံတွင်းမှလေလွှတ်တော်မူ၍အမိန့်တော်ရှိပြန်သည်။ သင်တို့သည်၊ အဲသပိရိတူးသီတူးကိုယူခံကြလော့။ အပြစ်ရှိသောသူတို့အား၊ သင်တို့သည်အပြစ်ကိုကညာလွှတ်လျှင်၊ ထိုအပြစ်များတို့လွှတ်ရှိလမည်။ သင်တို့သည်အပြစ်တို့ကိုမလွှတ်ထားကြလျှင်၊ ထိုအပြစ်တို့သည်မလွှတ်ရှိလမည်။ တကျိပ်နှစ်ပါးအဝင်၊ ဒိဒိမူအမည်ရှိသောတောမသည်ကား။ သခင်ယေရှုကြွလာတော်မူသည်ကာလ၊ အချားတပည့်တော်တို့နှင့် အတူမရှိ။ တချားသောတပည့်တော်တို့လည်း တောမအားဆိုကြ၏။ ငါတို့သည်၊ သခင်ကိုဖူးမြင်ကြပြီး။ တောမကလည်း၊ လက်ဝါးတော်တွင်၊ သံပေါက်ရာကိုငါမမြင်ရလျှင် ထိုသံပေါက်ရာ၌လက်ညှိုးဖြင့်မထိုးရလျှင်၊ နံဘေးတော်၌ လက်ဖြင့်မထိမတင်ရလျှင်၊ အကျွန်ုပ်မယုံပါဟုဆိုသည်။ နောက်ရှစ်ရက်မြောက်၌တဖန်၊ ထိုနေရာတွင်ပင်၊ တပည့်တော်တို့ စုရုမ်းရှိကြလျက်၊ တောမလည်းအတူတကွပါသည်။ ထိုသို့ရှိစဉ်တွင်၊ တံခါးပိတ်ရှိသော်၊ သခင်ယေရှုကြွလာတော်မူ၍ တပည့်တော်တို့အလယ်၌၊ ရပ်နေလျက်၊ ငြိမ်သက်စွာနေကြကုန်။ အမိန့်တော်ရှိပြီးမှ၊ တဖန်၊ တောမအား၊ သင်သည်ဤမှာတွင်၊ လက်ညှိုးသွင်းလော့။ ငါလက်တော်ကိုကြည့်ရှုလော့။ သင်လက်ဆန့်၍ငါ၏နံဘေးတော်၌ထည့်သွင်းလော့။ မယုံမကျည်ဘဲမရှိစေသင့်။ ယုံကြည်ခြင်း၌တည်စေလော့ဟုအမိန့်တော်

ရှိ၏။ တော်မာတလည်း ဤသို့ပြန်လျှောက်သည်။ အ
ကျွန်ုပ်၏သခင်၊ အကျွန်ုပ်၏ဘုရားသခင်ဟုလျှောက်
ဆိုလျှင်။ သခင်ယေရှုလည်းတဖန်၊ တော်မာ၊ သင်
သည် ငါ့ကိုမြင်ရသောကြောင့်၊ ယုံမှတ်ခြင်း ရှိချေ
သည်။ မမြင်ဘဲလျက်ယုံမှတ်ခြင်းရှိသသူတို့၊ အလွန်
ကောင်းမြတ်ရှိကြသည်ဟု မိန့်တော်မူ၏။ ဤကျမ်း
တွင်ရေးမှတ်လျက်မရှိ။ တပည့်တော်တို့ရှေ့၊ သခင်
ယေရှုပြုတော်မူသောတန်ခိုးတော်အချင်းများစွာရှိ
သေးသည်။ ဤကျမ်း၌ရေးထားသော တန်ခိုးသည်
ကား။ သခင်ယေရှုကရိတ်တူးသည်ဘုရားရှင်သား
တော်ဖြစ်ကြောင်းကိုသင်တို့ယုံမှတ်ခြင်းရှိစိမ့်သော
ငှါဖြစ်၍ ဤသို့ယုံမှတ်သဖြင့် သူ၏နာမတော်ကျေး
ဇူးဖြင့်၊ သင်တို့သည်အလွန်မြတ်သောချမ်းသာရစေ
ခြင်းငှါ၊ ရေးမှတ်လျက်ရှိကြသည်။

——oo——

## SECOND SUNDAY AFTER EASTER.

## သခင်ယေရှုရှင်တော်မူပြန်သောပွဲနေ့နောက် ဒုတိယတနင်္ဂနွေနေ့။

## Epistle. 1 Peter ii. 21—25.

သံပေတရုး ဘာသာသူအပေါင်းတို့အား ရေးထား
သောပဋမဆုပ္ပရာမှနှုတ်သောစကားတည်း။

အလွန်ချစ်သောညီအစ်ကိုယ်တို့။ သခင်ယေရှု
ကရိတ်တူးသည် အပြစ်၌တစုံတခုမျှ မကြူးမလွန်၊

နှုတ်တော်ဖြင့်လှည့်ပျားတတ်သော တခွန်းမျှမမြွက်
ဘဲလျက် ငါတို့အတွက်ခံတော်မူလျက်၊ သူ၏ခြေရာ
တော်ကိုနင်း၍နောက်သို့လိုက်ရမည်ဟု သင်တို့အား
ပုံသက်သေထားတော်မူသည်။ကဲ့ရဲ့ကျိန်ဆဲခြင်းကိုခံ
သောအခါ၊သည်းခံတော်မူပြီး။ပြစ်မှားခြင်းခံတော်
မူကာလ၊ရန်တုန့်မမူ။နာကျင်အောင်ပြုကြသည့်ကာ
လ၊ ချိန်းချောက်ခြင်းမပြု။ မတရားသဖြင့်စီရင်ကြ
သောသူတို့လက်၌ကိုယ်ကိုအပ်လိုက်တော်မူ၏။ အ
ကျွန်ုပ်တို့သည် မကောင်းသောအကျင့်ဒုစရိုက်တို့၌
အသေဖြစ်၍ ကောင်းသောအကျင့် သုစရိုက်တို့၌
ရှင်စေအောင်။ငါတို့အပြစ်များကြောင့်ကိုယ်တော်
တိုင်၊ သစ်တိုင်ပေါ်မှာခံတော်မူပြီး။ ကိုယ်တော်၌
ထိုးရိုက်သည့်ဒဏ်ချက်အားဖြင့်၊ သင်တို့သည်အ
နာပျောက်၍ချမ်းသာကြ၏။ သင်တို့သည်လမ်းလွဲ၍
လွင့်ပျောက်သောသိုးများကဲ့သို့ဖြစ်ကြပြီး။ ယခုမူ
ကား၊ သင်တို့၏ဝိညည်တို့ကိုကြောင်း၍အုပ်စိုးကြည့်
ရှုတော်မူသောအရှင်ထံသို့၊ ပြောင်းလဲ၍ပြန်ကြသည်။

## Gospel. John x. 11—16.

## သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

တနေ့သ၌။ဖါရိသယ်အရူးတို့ကို၊သခင်ယေရှုးဤ
သို့အမိန့်တော်ရှိသည်။ ငါသည်ကောင်းသောသိုး
ကြောင်းဖြစ်သည်။ကောင်းသောသိုးကြောင်းသည်၊
သိုးတို့ကိုယ်စား၊ အသက်ကိုပင်စွန့်ရသည်။ သူရင်း

ငါးသည်၊ စင်စစ်မှန်ကန်သောသိုးကြောင်းသူမဟုတ်။ သိုးတို့ကိုလည်း မပိုင်သောကြောင့်၊ တောခွေးလာသည်ကိုတွေ့မြင်လျှင်၊ သိုးတို့ကိုပြစ်ထား၍ ပြေးလေသည်။ တောခွေးလည်း၊ သိုးတို့ကိုကိုက်ခုတ်၍ တတွေလုံးပြောက်လွင့်စေသည်။ သူရင်းငှါးမှာ၊ သူရင်းငှါးဖြစ်၍ သိုးတို့ကို မပိုင်ပဆိုင်၊ အဝွဘ်မရှိသောကြောင့်ပြေးလေသည်၊ ငါသည်ထိုကဲ့သို့မဟုတ်ပါ။ ကောင်းမြတ်သော သိုးကြောင်းဖြစ်၍ ကိုယ်နှင့်ဆိုင်သောသိုးများကိုငါသိသည်။ ခမည်းတော်တုချားကိုငါသိသည်၊ ငါကိုလည်းခမည်းတော်သိတော်မူပြန်သကဲ့သို့၊ ငါ၏သိုးများလည်းသခင်ကိုသိကြသည်။ ငါလည်းသိုးတို့ကိုယ်စားအသက်ကိုစွန့်ပြစ်သည်။ သည်မှတပါး၊ ဤသိုးအစုအတွေမှမဖြစ်မလာသောအချားသိုးများငါတွင်ရှိသေးသည်။ ထိုသိုးတို့ကိုငါစုရုံးရမည်။ စုပြီးမှ၊ ငါ၏အသံတော်ကိုနား၌သွင်း၍ ချမ်တခုတည်း၊ သိုးကြောင်းတပါးတည်း၊ ဖြစ်တော့မည်။

—— ။ ——

## THIRD SUNDAY AFTER EASTER.

## သခင်ယေရှုးရှင်တော်မူပြန်သောပွဲနေ့နောက် တတိယတနင်္ဂနွေနေ့။

## Epistle. 1 Peter ii. 11—19.

## သံပေတရုး ဘာသာသူအပေါင်းတို့အား ရေးထားသောပဌမဆုပ္ပစာမှနုတ်သောစကားတည်း။

အလွန်စုံမက်သောညီအစ်ကိုယ်တို့။ ဝိညဉ်ကိုရန်ထောင်သောကိုယ်အသားတပ်မက်ခြင်းကို၊ ကျည့်ရှောင်အောင်သင်တို့ကိုဧည့်သည်ခရီးသွားသူတို့ကဲ့သို့မှတ်၍နှိုးဆော်တောင်းပန်ပါသည်။ ဇာတိအုးတို့အလယ် နေကြသည်တွင်၊ အပြစ်တင်ဆိုဘွယ်ပြီးပြီးမရှိအောင်၊ သတိလုလ္လှရှိကြ။ ၎င်းသို့ဆင်ကျင်လျှင်၊ ထိုသူတို့သည်သင်တို့ကိုအဆိုးချည်းသာကျင့်တတ်လောသူတို့ကဲ့သို့၊ ယခုသွန်းတွေးကဲ့ရဲ့ရှုတ်ချစကားပြောနေသည်တွင်၊ နောက်ကို၊ သင်တို့၌အလွန်ကောင်းမြတ်သော အမှုအကျင့်တို့ကိုသိမြင်ကြလျှင်၊ နောက်ကို၊ ဘုရားသခင်ကြည့်ရှုတော်မူမည်နေ့၌၊ ထိုသူတို့သည်ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းလေးမြတ်ကြတော့မည်။ ထိုကြောင့်၊ ဘုရားသခင်မျက်နှာတော်ကို ထောက်၍၊ အထွတ်အမြတ် ရှိသောမင်းဧကရာဇ်ဖြစ်စေ၊ လူဆိုးတို့ကိုကွပ်ညှပ်အောင်၊ ကောင်းသောသူတို့ကို ချီးမွမ်းအောင်၊ ရှင်ဘုရင်ခန့်

ထားၡ်၍ရှိသောမြို့ဝန်မင်းတို့ကိုဖြစ်စေ၊ လူတို့တွင်အာ
ရာရှိသူအပေါင်းတို့အောက်၊ နှိမ့်ချအာဏာကိုခံကြ
ကုန်လော။ သိမ်မွေ့လွန်မြတ်သောအကျင့်ဖြင့်၊ သင်
တို့သည်ပညာသတိမရှိသောသူတို့ နှုတ်သီးကိုပိတ်
ဆို့ရမည်။ ရွှေစိတ်တော်အကြောင်းရင်း ဤသို့ဖြစ်
၏။ သင်တို့လူလွတ်ရှိကြသော်လည်း၊ မကောင်းသော
အရာကိုအုပ်မိအောင် ပပါဝတ်ထဉ့်သခဲ့သို့ထိုလွတ်
ခြင်းကိုမသုံးဘဲ၊ ဘုရားအစေခံ သူတို့ကဲ့သို့ နေကြ
ကုန်လော။ သူခပ်သိမ်းလူတို့ကိုထင်မှတ်ရိုသေကြ။
ညီအစ်ကိုယ်များကို၊ အချင်းချင်း၊ ချစ်လေးမြတ်ကြ။
ဘုရားသခင်အားကြောက်ရွံ့မြတ်နိုးကြ။ မင်းဧက
ရာဇ်ကို ရိုသေသန့်ညွှားကြကုန်။ အစေအပါတို့၊ မိမိ
ကောင်းမွန်နူးညွံ့သိမ်မွေ့သည့် သခင်တို့မက၊ ကျွန်း
ကျူတ်ခက်ထန်သောသူအပေါင်းတို့ကိုကြောက်ရွံ့
၍ရိုသေကြပါလော။ နှိမ့်ချခြင်းဖြင့်ငါတို့ကို၊ သူတ
ပါးအတွက်မဲ့နှိပ်စက်သည့်ကာလ၊ ဘုရားသခင်ကို
ထောက်မှတ်၍၊ ခံရသည့်အရာကို ကြိုးစွာကျေးဇူး
တော်အမှန်အကံယူမှတ်ရမည်။

Gospel. John xvi. 16—22.

သံဓွာင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌သခင်ယေရှုးသည်၊ တပည့်တော်တို့
အားမိန့်တော်မူသည်။ တခဏသောကာလ ရှိသေး
သည်။နောက်မှသင်တို့သည်၊ငါ့ကိုမမြင်ရရှိလမည်။

တဖန်၊တခဏကာလမှ၊နောက်ကိုငါ့ကိုမြင်ရလတ္တံ့။ အဘယ်ကြောင့်နည်းဟူမူကား၊ ငါ၏ခမည်းတော် အထံတော်သို့၊ ငါပြန်သွားရမည်။ တပည့်တော်တို့ လည်းအချင်းချင်း ဤသို့ပြောဆိုကြသည်။ တခဏ သောကာလရှိသေးသည်။ နောက်မှသင်တို့သည်ငါ့ ကိုမမြင်ရရှိလမည်။ ငါ့ခမည်းတော်အထံတော်သို့ ပြန်သွားရမည်ဖြစ်၍၊ တဖန်၊ တခဏကာလမှနောက် ကို၊ ငါ့အားမြင်ရလတ္တံ့ဟူ၍မိန့်တော်မူသောစကား အဘယ်သို့နည်း။ ဤတခဏစကားသည်၊ အဘယ် သို့အနက်အဓိပ္ပါယ်နည်း။ ဤသို့မိန့်တော်မူသောအ ချက်ကို၊ ငါတို့မသိဟုပြောဆိုကြ၏။ သခင်ယေရှုး မှာ၊ တပည့်တော်တို့လျှောက်မေးလိုသောအချက်ကို သိမြင်တော်မူ၍၊ အမိန့်တော်ရှိသည်။ တခဏသော ကာလရှိသေးသည်။ နောက်မှ၊ သင်တို့သည်၊ ငါ့ကိုမ မြင်ရရှိလမည်။ တဖန်၊ တခဏကာလမှနောက်ကို၊ ငါ့ ကိုမြင်ရလတ္တံ့။ ငါဟောပြောတော်မူသောအချက် ပေါ်တွင်၊သင်တို့ရှာကြံကြသည်။ ငါအမှန်ဆိုသည် ကား၊သင်တို့သည်ငိုကြွေးညည်းတွားခြင်းရှိလမည်။ ဤလောကဓာ်လူတို့သည်၊ရွှင်မြူးနှစ်လိုခြင်းရှိလမည်။ သင်တို့မှာ၊ညှိုးငယ်ခြင်းရှိကြလမည်။နောက်တဖန်၊ သင်တို့၏ညှိုးငယ်ခြင်း ပြန်လည်၍၊ ရွှင်မြူးနှစ်လို ခြင်းရှိကြလမည်။ မိန္မတဦး၊ သားကိုမဖွားမမြင်မှီ၊ သူအချိန်သို့ရောက်သည့်ကိုအောင်းမေ့လျှင်၊နာကျင် စွာရှိသည်။ သားဖွားမြင်သည်နောက်မှ၊ ဤကမ္ဘာ

တွင်၊ အသစ်လူတယောက်ဖွားသောကြောင့်၊ ဝမ်း
မြောက်ခြင်းရှိ၍ ၊ အလျှင်ကျင်နာခြင်းသည်ကိုမ
အောင်းမေ့တတ်။ ထိုအတူလည်းကောင်း၊ သင်တို့
သည်ယခုလျှော့နိမ့်နွမ်းရိခြင်းရှိကြသည်။ နောက်
တဖန်၊ လျှင်လျှင်သင်တို့ကို ငါကြည့်ရှုပါမည်။ ထို
ကာလ၌၊ သင်တို့နှစ်လုံးတွင် အလွန်တရာဝမ်းသာ
အားရရှိလမည်၊ ထိုရွှင်ပနှစ်သက်ခြင်းကို၊ မည်သ
သူမျှမယူမဖျက်နိုင်ရ။



### FOURTH SUNDAY AFTER EASTER.

### သခင်ယေရှုးရှင်တော်မူပြန်သောပွဲနေ့နောက် စတုတ္ထတနင်္ဂနွေနေ့။

### Epistle. James i. 17—21.

သံယာကောခရိသျှတောင်အပေါင်းတို့အားရေး
ထားသောဆုပ္ပစာမှနုတ်သောစကားတည်း။

အလွန်ချစ်သောညီအစ်ကိုယ်တို့။ ကောင်းကျိုး
ရှိလေသမျှနှင့်၊ အလွန်ကောင်းမြတ်သောငါတို့ခံရ
သောဆုဟူသမျှ၊အထက်နေရာမှအလင်း၏အဖဖြစ်
သောဘုရားသခင်က၊ဆင်းရောက်လာသည်။ထိုသ
ခင်၌လည်း၊ ပြောင်းလဲခြင်းရွေ့လျော့တိမနေခြင်း၊
တစုံတခု အမှတ်လက္ခဏာအလျှင်မရှိ၊ အသစ်ဖန်
ဆင်းတော်မူသောအရာတို့၌၊ငါတို့အဦးအရာကဲ့သို့

ဖြစ်စိမ့်သောငှါ၊ ဟုတ်မှန်သော တရားစကားဖြင့်၊ ရွှေစိတ်တော်အတိုင်း၊ ငါတို့ကိုဖြစ်ဖွားတော်မူ၏။ ဤအချက်ကို၊ ငါအလွန်မြတ်နိုးသော ညီအစ်ကိုယ်တို့၊ သင်တို့သည်သိကြသည်။ သူခပ်သိမ်းတို့နားခံရအောင်၊ အလျှင်အမြန်ရှိကြစေ။ စကားပြောဆိုခြင်း၌၊ မာနထွက်ခြင်း၌၊ လေးနှေးရှိကြစေ။ အဘယ်ကြောင့်နည်း။ လူတို့အမြက်ထွက်ခြင်းသည်ဘုရားသခင်တရားတော်ကို မပြုစုတတ်။ ထိုကြောင့်၊ အပြစ်ငရဲမှထွက်သော အကျေးအသွေ်ာ ရှိလေသမျှကိုပြစ်ပါယ်၍၊ သင်တို့နှစ်လုံး၌ စိုက်ထားလေပြီးသော၊ အသက်လွတ်ခြင်းချမ်းသာပေးနိုင်သောနှုတ်ကပါတ်တော်ကို၊ ရိုးမတ်သိမ်မွေ့ငြိမ်ဝတ်ခြင်းဖြင့်၊ ယူငင်စွဲကြကုန်၊ ညီအစ်ကိုယ်တို့။

Gospel. John xvi. 5—15.

သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုသည်၊ တပည့်တော်တို့ကို အမိန့်တော်ရှိသည်။ ငအားစေလွှတ်တော်မူသောခမည်းတော်သခင်အထံသို့၊ ငါသွားအံ့မည်။ သင်တို့တွင်တယောက်မျှ၊ အဘယ်အရပ်သို့ ကြွတော်မူသနည်း၊ ငအားမေးမြန်းလျှောက်ဆိုခြင်းကိုမပြု။ သို့ရာတွင်၊ သင်တို့အား၊ ဤသွားအံ့သောအချက်များကို၊ ငါဟောပြောသောကြောင့်၊ သင်တို့နှစ်လုံး၌ ညှိုးငယ်ခြင်းအပြည့်ရှိသည်။ ငမှာ၊ ဟုတ်မှန်သောအရာ

အချက်ကို၊ သင်တို့အားငါဟောပြောသည်။ ငါသွားအံ့သောအရာသည်ကား၊ သင်တို့ကိုအကျိုးဖြစ်သည်၊ ငါကြွတော်မမူလျှင်၊ စိတ်နှစ်လုံးကို ချမ်းမြေ့စေတတ်သောသခင်၊ သင်တို့၌မလာမရောက်ရှိလမည်။ ငါကြွသွားလျှင်မူကား၊ စိတ်နှစ်လုံးကို ချမ်းမြေ့စေတတ်သောသခင်ကို၊ သင်တို့၌ငါလွှတ်ပါမည်။ ဤသခင်သည်ကြွလာမည့်ကာလ၊ လောကတွင်လူတို့အပြစ်နှင့်ဆိုင်ရာ၊ ဟုတ်မှန်သောအရာစကား၊ ဖြောင့်မတ်စွာစီရင်ခြင်းအရာများတို့ကိုလည်း၊ ထင်ရှားပြတော်မူလမည်။ အပြစ်နှင့်ဆိုင်ရာဆိုသည့်ကား၊ ငါ၏ကိုယ်တော်ကို၊ မယုံမကြည်ရှိသောကြောင့်၊ ဆိုရမည်။ ဟုတ်မှန်သောစကားအရာဆိုသည်ကား၊ ခမည်းတော်အထံသို့ ငါသွား၍၊ နောက်ကို မမြင်ရသောကြောင့်၊ ပြလမည်ဆိုရသည်။ ဖြောင့်မတ်စွာစီရင်ခြင်းဆိုသည်ကား၊ ဤလောက၌သခင်ပြုသောသူကို၊ အပြီးစီရင်ခြင်း ရောက်ကြောင်းကို၊ ထင်ရှားပြလမည်ဆိုရသည်။ သင်တို့ကို၊ ငါဟောပြောရံအများရှိသေးသည်။ ယခုမှာ၊ သင်တို့မဆောင်မရွက်နိုင်သေးဖြစ်သည်။ အလွန်ဖြောင့်မတ်စွာ ဟောပြောတတ်သောဝိညာဉ်တော်သခင်ကြွလာလျှင်၊ ဟုတ်မှန်တိုင်းအကုန်အစင်သွန်သင်ဆုံးမတော်မူလမည်။ ဤသခင်သည်၊ အလိုအလျောက် ဟောပြောမည်မဟုတ်။ ကြားမှတ်တော်မူလေသမျှကို၊ ဟောပြောလမည်။ နောက်ကာလဖြစ်လတ္တံ့သည်ကို၊ အလျှင်သင်တို့အား

သက်သေပေးသဖြင့်၊ ဟောပြောတော်မူလမည်။ ဤသခင်သည်၊ ငါ၏ဆိုင်ရာကိုယူရသဖြင့်၊သင်တို့အလျှင်မြွက်ဖေါ်ပြသောကြောင့်၊ ငါ၏ကိုယ်တော်ကိုထင်ရှားကြေွာ်စေခြင်းအမှုကိုပြုလမည်။

——oo——

FIFTH SUNDAY AFTER EASTER.

သခင်ယေရှုခရစ်တော်မူပြန်သောပွဲနေ့နောက်
ပဥ္စမတနင်္ဂနွေနေ့။

Epistle. James i. 22—27.

သံယာကော ဘာသာသူတို့အားရေးထားသောဆုံးမစာမှနုတ်သောစကားတည်း။

အလွန်ချစ်ခင်သော ညီအစ်ကိုယ်တို့။ နာခံယူရသောနုတ်ကပါတ်တော်နှင့်အညီ၊ အားထုတ်ခြင်းဆောင်ရွက်ကြ။ မိမိကိုယ်ကိုလှည့်ပြား၍၊ နုတ်ကပါတ်တော်ကို နားကြားသောသူတို့သာ မရှိကြစေနှင့်။ နုတ်ကပါတ်တော်နှင့် လျော်စွာ၊ မကျင့်မဆောင်ဘဲ၊ နာခံရာ၌ရတ်တန့်နေသသူ၊ မှန်၌မိမိပကတိမျက်နှာကိုကြည့်သသူနှင့်တူ၏။ ထိုသူသည်ကား၊ မှန်၌မျက်စိအာရုံပြုပြီး၍၊ သွားလျှင်၊ မြင်မိသောအရာကိုသတိမရဘဲ၊အဆောတလျင်မေ့လျော့လေသည်။ အလွန်ကောင်းမြတ်သော အလွတ်နေရခြင်း၊ ပြည့်စုံ
ဘက်သောတရားတော်၊ ရှေ့မြွက်ကျပ်တည်းဋ္ဌာစုံကာ

သူတို့၊ ဟာရေးနှာ၍မေ့လျော့သောသူမဟုတ်၊ တရား၌လည်း မြဲမြန်စွာချည်းကပ်တည်နေသသူဖြစ်သည်။ ထိုသူသည်မိမိအကျင့်၌မင်္ဂလာရှိ၏။သင်တို့တွင်အကြင်သူသည်မိမိကိုယ်အကျင့်ကြောင့်၊ မြတ်သည်ဟုထင်မှတ်၍၊ မိမိနှုတ်ကိုမချုတ်တည်လျှင်မိမိစိတ်ကိုလှည့်ပြား၏။ ဤသူ၏အကျင့်များ အချည်းနှီးဖြစ်ကြ၏။ ခမည်းတော်ဘုရားမျက်မှောက်တော်၌၊ သန့်ရှင်းစင်ကြယ်ခြင်းလက္ခဏာကင်းသောအကျင့်သီလမူကား၊ သူဆိုးတို့နှင့်၊ မုတ်ဆိုမတို့စိတ်၊ ညှိုးငယ်နာကျင်ခံသည်ကာလ၊ ကြည့်ရှုမေးမြန်းခြင်းမှစ၍၊ ဤလောကယခုမျက်မှောက်၊ ကိုယ်ကိုင်လောကီအကျေးအညစ်မှကင်းလွတ်အောင်၊ စောင့်ရှောက်ခြင်းပေတည်း။

## Gospel. John xvi. 23—30.

### သံဓမ္မင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ ငါအမှန်ဆိုသည်ကား သင်တို့သည်တစုံတခုသောအရာကို၊ ငါ၏နာမတော်မြတ်နှင့်၊ ခမည်းတော်အား တောင်းလျှောက်လျှင်၊ သင်တို့ကိုသနားတော်မူလမည်။ ယခုထက်တိုင်၊ ငါ၏နာမတော်မြတ်ဖြင့်၊မည်သည့်အရာမျှမတောင်းမလျှောက်သေး။ နှစ်လုံးအလိုပြည့်ဝမ်းမြောက်ခြင်းအပြီးအကုန်အစင်ရှိအောင်၊တောင်းကြလော၊ရလ

မည်။ ဦးပမာဖြင့်၊ ဤစကားအကြောင်းများကို၊ သင်
တို့အားငါဟောပြောသည်။ ဦးပမာကိုမသုံးဘဲ၊သင်
တို့အားငါဟောပြောမည်အချိန်ရောက်ပြီး။ ခမည်း
တော်နှင့် စပ်ဆိုင်သော အကြောင်းတို့ကို၊ သင်တို့
အားဖွင့်လှစ်ဖေါ်ပြမည်။ထိုနေ့တို့၌၊ငါ၏နာမတော်
ဖြတ်နှင့်တောင်းကြလမည်။ ထိုအခါ၊သင်တို့အဘို့၊
ခမည်းတော်ကို၊ငါဆုတောင်းအံ့ဟုငါမဆို။သင်တို့
သည်ငါကိုချစ်လေးမြတ်ကြသည်။ ငါဘုရားသခင်
ကငါဖြစ်လာကြောင်းကို၊ သင်တို့ယုံမှတ်ကြသည်
ဖြစ်၍၊ခမည်းတော်သည်သင်တို့အားချစ်သနားတော်
မူသည်။ ခမည်းတော်မှ ါသည်ဆင်းခဲ့၍၊ ဤလော
ကသို့လာရောက်ပါသည်။တဖန်၊ဤလောကကိုထား
၍၊ ခမည်းတော်ရှိရာသို့ပြန် သွားရမည်ဟုအမိန့်တော်
ရှိလျှင်၊တပည့်တော်တို့က လည်း၊ယခုဥပမာတခွန်း
မျှမဆောင်ဘဲ၊သခင်သည်၊ ထင်ရှားဖွင့်လင်းဖေါ်ပြ
၍မိန့်တော်မူသည်။ ယခုရှိလေသမျှအရာတို့ကို၊ သ
ခင်သိမြင်တော်မူကြောင်းကို၊ အကျွန်ုပ်တို့သိရသည်
ဖြစ်၍၊ မည်သူမျှသခင်အားလျှောက်မေးဘွယ်သော
အကြောင်းမရှိ။ ထိုကြောင့်သခင်သည်၊ ဘုရားသ
ခင်မှဆင်းကြွ လာတော်မူကြောင်းကို၊ အကျွန်ုပ်တို့
တိုးပွားယုံမှတ်ကြသည်ဟုလျှောက်ကြကုန်၏။

—— ၀၀ ——

## ASCENSION DAY.

## သခင်ယေရှုးမိုယ်းကောင်းကင်သို့တက်တော်မူ သောပွဲနေ့။

### Lesson. Acts i. 1—11.

### တပည့်တော်ကြီးတို့ဝတ္တုကျမ်းမှနှုတ်သော စကားတည်း။

ဪ၊ တေအော်ဖိလိ။ သခင်ယေရှုးအစမှ၊ သဖိရိတုးသံတုးတန်ခိုးတော်အားဖြင့်၊ ရွေးနှုတ်သောတပည့်ကြီးတို့အား၊ သွန်သင်တော်မူပြီးမှ၊ မိုယ်းကောင်းကင်သို့ ကိုယ်တော်ကို မင့်ချီသည့်နေ့တိုင်အောင်၊ ကျင့်ဆောင်မဲ့ပြင် ဆုမ္မတော်မူသည်။ အကြောင်းရှိလေသမျှ၊ အလျင်ရေးထားသောကျမ်း၌၊ ငါမြွက်ဆိုလေပြီ။ ထိုတပည့်ကြီးတို့ကို၊ အရက်လေးဆယ်တွင်၊ မိမိကိုယ်တော်မြတ်ကို ပြတော်မူစည်၊ ဘုရားရှင်နိုင်ငံတော်အကြောင်းကိုယောပြော၍၊ အသေခံတော်မူပြီးမှ၊ အသစ်တဖန်ရှင်ကြောင်း၊ မမှားမယွင်းနိုင်။ များစွာအကြောင်းတို့ဖြင့်ထင်ရှားစွာပြုတော်မူသည်။ တနေ့သ၌၊ ထိုတပည့်တော်တို့အတူတကွ ဖုန်းပေးတော်မူစည်အခိုက်၊ ယေရုသလင်မြို့မှ မထွက်သင့်ကြောင်း၊ ငါ၏နှုတ်တော်မှသင်တို့အားကြားသည့်နှင့်အညီ၊ ခမည်းတော်ပေးသနားတော်မူမည်။ ဂတိကုန်ဝင်မည့်တိုင်အောင်ငံ့ရ

မဉ့်အကြောင်း၊ ကြွတ်တည်းစွာအမှာတော်ရှိသည်။ အဘယ်ကြောင့်နည်း။ ဖွင်သည့်လူတို့အားရေဖြင့် ဆေးကြောရိုးမှန်၏။ သို့ရာတွင်၊ နေ့ရက်များစွာမ ကြာမှီ၊ သပိရိတူးသံတူးတန်ခိုးတော်အားဖြင့်၊ သင် တို့ဆေးကြောရလမည်ဟုမိန့်တော်မူ၏။ ထိုအခါ၊ စုရုံးနေသောသူတို့မေးလျှောက်ကြသည်။ သခင်၊ ဤသရေအဲလနိုင်ငံ၊ ဤအချိန်၌အသစ်တည်ထောင်ပြု စုရအံ့တော်မူပါမည်လောဟုမေးလျှောက်လျှင်၊ ဤ သို့ပြန်ပြောတော်မူသည်။ ခမည်းတော် တန်ခိုးရှေ့ စိတ်တော်နှင့်အညီ၊ စီရင်ထားတော်မူသောကာလ ကို၊ သင်တို့ရှာတွေ့သိမြင်ရမည်မဟုတ်။ သင်တို့၌ ဆင်းလာလမည်၊ သပိရိတူးသံတူးတန်ခိုးကျေးဇူး ကို၊ သင်တို့ခံ၍၊ ယေရုသလင်မြို့မှစ၍၊ ယုဒေအားတ ပြည်လုံး၌၊ သမာရိယမှစ၍၊ မြေပတ်လည်အဆုန်း တိုင်၊ သင်တို့ငါ၏အမှု၊ သက်သေသက်တံပြုရတော့ မည်။ ဤသို့မိန့်တော်မူပြီးမှ၊ မိုဃ်းကောင်းကင်သို့ကိုယ် တော်မြတ်တက်ကြွတော်မူသည်ကို၊ မြင်ရကုန်သည်။ ထိုသို့ကြည့်နေကြစဉ်၊ တိမ်လွှာတခုကိုယ်တော်ကို ရန်လျက်၊ တပည့်တော်တို့မျက်စိကွယ်ကာမမြင်ရ သည်။ မိုဃ်းကောင်းကင်သို့ ကြွတော်မူသည်ကို၊ ကြည့်မျှော်အာရုံပြုကြသော်၊ အဝတ်ဖြူစင်စွာနှင့်နှစ် ယောက်သောသူတို့၊ တပည့်တော်တို့ဆီသို့ရောက် လာ၍၊ ဂါလိလေအားပြည်သားတို့၊ အဘယ်ကြောင့် မိုဃ်းကောင်းကင်သို့ကြည့်မျှော်နေကြသနည်း။ သင်

တို့မှဖယ်ရှား၍ မိုဃ်းကောင်းကင်သို့ တက်တော်မူသော၊ ဤသခင်ယေရှုသည်၊ သင်တို့မျက်မှောက်၌ တက်ကြွတော်မူသည့်နည်းတူ၊ တနေ့သ၌ပြန်လည်ကြွလာတော်မူမည်ဟု ပြန်ပြောဆိုကြလေသတည်း။

## Gospel. Mark xvi. 14—20.

### သံမာရကူးရေးထားသော ကျမ်းထုပ်စကားတည်း။

ထိုကာလ။ တနေ့သ၌၊ တကျိတ်တပါးသောတပည့်တော်တို့၊ စားပွဲတွင်ထိုင်နေကြစဉ်၊ သခင်ယေရှုသည်ကိုယ်တော်ကိုထင်ရှားပြတော်မူ၍၊ ရှင်ပြန်သောကိုယ်တော်ကို မြင်ရသောသူတို့၏စကားကိုမယုံမနှံ့ရှိသောကြောင့်၊ သူတို့မယုံတတ်သောစိတ်၊ ခိုင်မာခြင်းစိတ်ကိုအပြစ်တင်တော်မူသည်။ ထိုနေ့ခံမှ၊ တပည့်တော်တို့အား အမိန့်ဗျာဒိတ်တော်ကြားတော်မူ၏။ ဤကမ္ဘာတွင်၊ တည်ရှိလေသမျှသောအရပ်တို့၌သွား၍၊ သတ္တဝါအပေါင်းတို့ကို၊ ငါ၏အကြောင်းသတင်းတည်းဟူသောဧဝံဂေလိကိုဖေါ်ပြဟောပြောကြကုန်။ ယုံမှတ်ခြင်းရှိ၍၊ ရေဖြင့်သွန်းခြင်းကိုခံရသောသူ၊ ထာဝရချမ်းသာကိုရလမည်။ မယုံကြည်ရှိသောသူ၊ အပြစ်အဆုန်းစီရင်ခြင်းကိုခံရလမည်။ ယုံမှတ်သောသူတို့၌၊ အတူတကွဖြစ်ပါရအံ့သောတန်ခိုးကျေးဇူးများကား၊ ဤသို့တည်း။ ငါ၏နာမတော်ဖြင့်၊ နတ်ဆိုးတို့ကိုနှင်ထုပ်တော့မည်။ ထူးခြားသောစကားမျိုးတို့ကိုပြောဆိုလမည်။ မြွေတို့

ကိုလည်းလွတ်ရာကိုကြွလမည်။ သေစေတတ်သော
အဆိပ်ကို သောက်ရသော်လည်း၊ ဝေဒနာမှလွတ်
တင်းလမည်။ နာဖျားသောသူတို့အပေါ်၌လက်တင်
လျှင်လည်း၊ ချမ်းသာရကြတော့မည်။ ဤအချက်များ
ကိုမိန့်တော်မူပြီးမှ၊ သခင်ယေရှုးသည်မိုဃ်းကောင်း
ကင်သို့တက်ကြွတော်မူ၍၊ ဘုရားရှင်လက်ျာဘက်
မှာထိုင်နေတော်မူ၏။ တပည့်တော်တို့လည်းသွား၍၊
ဘုရားသခင်စောင်မတိုက်တွန်းတော်မူသဖြင့်ဖြစ်၍
သူတို့ဟောပြောသည့်တရားစကားများကို၊ နောက်
ပါသောတန်ခိုးတော်အားဖြင့်တည်စေတော်မူသည်
နှင့်၊ အရပ်တိုင်းဟောပြောသွန်သင်ကြလေသည်။



## SUNDAY WITHIN THE OCTAVE OF ASCENSION.

## သခင်ယေရှုးမိုဃ်းကောင်းကင်သို့တက်တော်မူသည့်ပွဲနေ့နောက်တနင်္ဂနွေနေ့။

### Epistle. 1 Peter iv. 7—11.

သံပေတရုးဘာသာသူတို့အား၊ ရေးထားသောပဌမ
ဆုပ္ပစာမှ၊ နှုတ်သောစကားတည်း။

အလွန်ချစ်သောညီအစ်ကိုယ်တို့။ သမ္မာသတိရှိကြကုန်၊ ဆုတောင်းခြင်း၌စောင့်နေ၍အားထုတ်ကြကုန်လော့။ ခပ်သိမ်းသောအမှုထက် တယောက်ကိုတယောက်၊ ချစ်လေးမြတ်ခြင်းအမှုကိုကျင့်ဆောင်

ကြ။ အဘယ်ကြောင့်နည်း၊ ချစ်လေးမြတ်ခြင်းသည် များစွာအပြစ်တို့ကို ဖုန်းလွှမ်းအုပ်မိုးတတ်သည်အကြောင်းတည်း။ မနှစ်သက်၊ မလေးမြတ်ခြင်းစကားတို့မှကင်း၍၊ ဧည့်သည်ဝတ်ကို အချင်းချင်းပြုကြလော။ သင်တို့သည်ထူးခြားသောကျေးဇူးများကို အသီးအသီးခံရကြသည်နှင့်အညီ၊ ဘုရားသခင်၏ အပြားပြားကျေးဇူးတို့ကိုပြုစုတတ်သောသဏ္ဍာစိုးကောင်းကဲ့သို့၊ အချင်းချင်းဝေငှါး ပေးကမ်းကြပါလော။ သူတပါးသည်စကားကိုပြောစည်၊ ဘုရားသခင်နှင့်ထိုက်လျော်အောင်၊ အကြောင်းတို့ပြောစေ။ သူတပါးသည်တခုံတခုအမှုထမ်းရွက်လျှင်၊ ဘုရားသခင်ပေးသနားတော်မူသောတန်ခိုးဖြင့်လုပ်ဆောင်မှုကဲ့သို့ထမ်းရွက်ပါစေ။ ထိုသို့ပြုသော်၊ ယေရှုးကရိတ်တူးသခင်အားဖြင့်၊ ဘုရားသခင်အားရှိသေလေးမြတ်ခြင်းရောက်တော့မည်။

## Gospel. John xv. 26, xvi. 1—4.

### သံဝါဒ်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ တပည့်တော်တို့အား၍သို့အမိန့်တော်ရှိသည်။ နှစ်လုံးစိတ်ကိုချမ်းမြေ့စေတတ်သော၊ ခမည်းတော်မှ ဖြစ်လာသော၊ ဟုတ်မှန်သောအရာကိုဟောပြောတတ်သော၊ ခမည်းတော်အမိန့်တော်နှင့်၊ သင်တို့သို့ ငါစေလွှတ်ရအံ့သောသခင်ကြွလာတော်မူသော်၊ ၎င်းသခင်သည်ငါ၏

အမှိုသက်သေကိုပြုလမည်။ သင်တို့လည်းအစအဦး
မှ၊ ငါနှင့်အတူရှိကြသောကြောင့်၊ ငါ၏အမှိုသက်
သေခံကြရလမည်။ သင်တို့တွင်၊ စိတ်ဖေါက်နှောင့်
ရှက်ခြင်းကိုဖယ်၍ကင်းအောင်၊ ဤအကြောင်းများ
ကို၊ ငါသတိပေးတော်မူသည်။ တရားဟောအိမ်မှ၊
ဇုဒေအုးတို့သည်၊ သင်တို့ကိုနှင်ထုပ်လမည်။ သင်
တို့ကိုသတ်သောမည်သသူသည်၊ ဘုရားရှင်အားရှိ
သေသောအမှုကိုပြုပြီးကို ထင်မှတ်လမည်။ အချိန်
ရောက်လမည်။ ထိုသူတို့လည်း၊ ခမည်းတော်ကိုမသိ၊
ငကိုလည်းမသိသောကြောင့်၊ ဤကဲ့သို့သင်တို့အား
ညှဉ်းဆဲနှိပ်စက်ခြင်းကို ပြုလမည်။ ဤအရာများ
ရောက်သည့်အချိန်ကာလ၌၊ အလျှင်ငါသတိပေးနှင့်
သည်ဟု အောင်းမေ့ဆင်ချင်စိမ့်သောငှါ၊ သင်တို့
အား၊ ငါဟောပြောဖေါ်ပြတော်မူသည်။

——00——

WHIT SUNDAY.

အိသပိရိတူးသံတူးပွဲတနင်္ဂနွေနေ့။

Lesson. Acts ii. 1—11.

တပည့်တော်ကြီးတို့ဝတ္တုကျမ်းမှနူတ်သော
စကားတည်း။

ပါသကာဝါကျွတ်ပွဲနေ့မှ၊ အရက်၅၀စေ့လျှင်၊ တ
နေရာတည်း တပည့်အပေါင်းတို့သည်အတူတကွရှ

ရှုံးနေကြ၏။ ရုတ်တရက်ဖြုတ်ချည်း၊ မိုယ်းကောင်းကင်မှ ပြင်းပြစွာလေလာသော အသံကဲ့သို့ကြားလျှင်၊ ထိုသူတို့ထိုင်သောအိမ်အပြည့်ရှိ၏။ ထိုခဏချင်းတွင်၊ မီးတောက်မီးလျှံလျှာသဏ္ဍာန်ကဲ့သို့ပေါ်လာ၍၊ အကွဲအငိတ်ထိုသူတို့အသီးအသီးအပေါ်၌တည်ရပ်နေလေ၏။ တပည့်တော်တို့ရှိသမျှလည်း၊ သဗ္ဗိရိတ္တူးသံတူးအပြည့်အစုံရကြ၍၊ ဝိညာဉ်တော်သည်ဟောပြောသော ကျေးဇူးတော်ကိုပေးတော်မူသည်အတိုင်း၊ အမျိုးမျိုးသောဘာသာစကားအားဖြင့်ရှေးဦးပြောဆိုကြလေ၏။ ထိုအခါ၊ ယေရုသလင်မြို့တွင်၊မိုယ်းကောင်းကင်အောက်၌ရှိသော၊အမျိုးတကာ လူမျိုးတို့မှလာသော ဘာသာ၌၊ တရားရှိသေသော ဇူဒေအုရုံးတို့ရှိကြ၏။ ထိုအသံကိုကြားရသောအခါ၊ များစွာသောလူအထွေစုရုံးလာကြ၍အသီးသီးအခြားခြားသောမိမိတို့စကား တပည့်တော်တို့ပြောလျက်ကြားလျှင်၊ မိန်းမှိုင်တွေတွေရှိကြလေ၏။ အံ့အားသင့်မိန်းမောသဖြင့်၊ ထိုသူခပ်သိမ်းတို့သည်အချင်းချင်း၍သို့ဆိုကြ၏။ ၍သို့ပြောကြသည့်သူတို့၊ဂါလိလေအားပြည်သားမဟုတ်လော။ ငါတို့မွေးမြင်သည့်ဒေသခါ ပြည်စကားကို၊ ထိုသူတို့ပြောလျက်ကြားရသည်။ အဘယ်သို့နည်း။ ပါရတိယ၊မေဒိယံ၊ လေက်ပြည်သားတို့၊ မေသောပေါတာမိယ၊ ဇူဒေအား၊ ကာပ္ပဒေါစိအား၊ ပုံတု၊ အာရှိအာ၊ဖိရိဂျီအား၊ ပံဖိလိယ၊ ဧဂျစ်တူး၊ စိရဲနဲ့အနီးတည်သော

ဂေါ်ဘိယပြည်တို့မှနေသသူတို့၊ ရောမမြို့မှလာသော
သူတို့၊ ဇူဒေအရှေးလူတို့ဖြစ်စေ၊ ဘာသာဝင်လူမျိုးဖြစ်
စေ၊ ကရိတေပြည်သားတို့၊ အာရာဘိယပြည်သား
တို့၊ ဘုရားသခင်ဂုဏ်ကျေးဇူးတော်ကို၊ ငါတို့လူမျိုး
စကားဖြင့်၊ ထိုသူတို့ဟောပြောကြသည်ကို ကြားရ
သည့်တကားဟု အံ့အားသင့်အချင်းချင်းပြောနေကြ
ကုန်၏။

## Gospel. John xiv. 23—31.

## သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ တပည့်တော်
တို့အား၎ါသို့အမိန့်တော်ရှိသည်။ ငါ့အားလေးမြတ်ရို
သေရှိလျှင်၊ ငါ၏နှုတ်တော်ထွက်ရှိသမျှကို၊ဆောင်
ရွက်ကျင့်လိမ့်မည်။ ငါ၏ခမည်းတော်လည်း၊ ထိုသူ
ကိုသဒ္ဒါချစ်လေးမြတ်ခြင်းရှိတော်မူလမည်။ ထိုသူ
ရှိရာသို့ ငါတို့လည်းလာရောက်၍၊ ထိုသူ၌ကျိန်းဝပ်
နေကြတော့မည်။ငါ့အားမလေးမမြတ်မရိုသေသော
သူ၊ ငါ၏နှုတ်မြွက်လေသမျှကိုလည်းမဆောင်ရွက်
မကျင့်။ သင်တို့နားကြားသော တရားစကားသည်၊
ငါ၏နှုတ်တော်ထွက်မဟုတ်၊ ငါ့အားစေလွှတ်တော်
မူသော ခမည်းတော်ဘုရား၏ နှုတ်တော်ထွက်ဖြစ်
သည်။ သင်တို့နှင့်အတူငါနေစဉ်၊ ဤအရာများကို
ငါမြွက်ဖေါ်လေပြီ။ငါ၏နာမတော်ကျေးဇူးအထူး
ဖြင့်၊ ငါ၏ခမည်းတော်သည်နှစ်လုံးကို၊ နှစ်သာ

ချမ်းမြေ့စေတတ်သော၊ မြင့်မြတ်သောဝိညဉ်တော်
သည်၊ သင်တို့အားရှိလေသမျှသောအရာတို့ကို၊ ပွဲ
ပြင်နှိပ်ကွပ် ဆုမ္ဗတော်မူလမည်။ ငါသင်တို့အား၊
မြွက်ကြားလေသမျှသော အရာကိုလည်း၊ သင်တို့
အားတဖန်၊ ဤဝိညည်တော်သည်သတိမြဲမြဲခြင်းကို၊
ပေးသနားတော်မူလမည်။ ငါသည်သင်တို့အားစိတ်
နှစ်လုံးငြိမ်ဝပ်စွာနေခြင်းကို ပေးအပ်သည်။ ငါပေး
တတ်သောစည်းစိမ်ငြိမ်ဝပ်ခြင်းကဲ့သို့၊ လောကီသား
ပေးတတ်သည်မဟုတ်ပါ။ သင်တို့စိတ်နှစ်လုံးထဲ၌
နှောင့်ရှက်ကြောက်ရွန့်စိုးရိန်ခြင်း မရှိကြစေလင့်။
ငါကြွသည်နောက်မှ၊ တဖန်၊ သင်တို့ရှိရာသို့ပြန်လည်
ပါမည်အချက်ကို၊ သင်တို့အားငါမြွက်ကြားသော
အကြောင်းကိုသင်တို့သိကြားရသည်။ခမည်းတော်
သည်၊ ငါ့ထက်ကြီးမြင့်မြတ်သောကြောင့်၊ ခမည်း
တော်အထံတော်သို့ ငါသွားရမည် သင်တို့ကြားရာ
တွင်၊ငအားချစ်လေမြတ်သဖြင့်၊ဝမ်းမြောက်ခြင်းရှိ
လမည်။ဤအရာအကြောင်းရောက်ပြီးမှ၊သင်တို့မြင်
လျှင်၊ယုံစေခြင်းငှါ၊ဤအရာအကြောင်းကိုမရောက်
မှီ၊ ယခုသင်တို့အားငါဟောကြားပါသည်။ သင်တို့
နှင့်အတူစကားပြောရုံ၊ ကာလရှည်လျှားစွာအများ
မရှိပြီး၊လောကဥ္စအရှင်ပြုသောသူသည်၊ငါ၏ကိုယ်
တော်နှင့် အနည်းငယ်မျှမစပ်ဆိုင်ညားသော်လည်း၊
လာရောက်ခါနီးပြီး။ သို့ရာတွင်၊ခမည်းတော်ဘုရား
ကိုငါချစ်လေးမြတ်သည်ဖင်၊ ဗျာဒိတ်တော်ရှိတိုင်း

ငါဆောင်ရွက်သည်ကိုရင်၊ ဤလောကဓ်၌ရှိသောလူ
တို့အပေါင်းသိစိမ့်သော၄ါ၊ ဤအရာအကြောင်းတို့
ဖြစ်လမည်။

——oo——

TRINITY SUNDAY.

သုမ္ဘါးဘုရားတဆူတည်းပွဲတနင်္ဂနွေနေ့။

Epistle. Rom. xi. 33—36.

သံပေါ်လ်လူးရောမမြို့သားတို့အားရေးထားသော
ဆုမ္မစာမှနှုတ်သောစကားတည်း။

ဩ့ဘုရားအခင်၏ရွေညာဏ်တော်၊ ပညာတော်
ပြည့်စုံခြင်း၊ အဘယ်လောက်မျှကြီးမြင့်ကြယ်ဝန်း
သနည်း။ ဘုရားသခင်စီရင်တော်မူချက်၊ အဘယ်
လောက်နက်နဲသနည်း။ ဆင်ချင်တော်မူရာလမ်းတို့
လည်း၊ အဘယ်သူရှာဖွေသိမြင်နိုင်အံ့နည်း။ ဘုရား
သခင်ရွေစိတ်တော်အကြောင်း၊ မည်သူသိမြင်တွေ့
ဘူးသနည်း။ ဘုရားသခင်၏အကြံတော်ကို မည်သူ
သိဘူးသနည်း။ ဘုရားသခင်နှင့်အဘယ်သူတိုင်ပင်
ဖက်ပြုသနည်း။ ဘုရားသခင်ကိုအလျင်အဦးဆက်
ကပ်၍တင်လျှက်ရှိရာကျေးဇူးတော်တို့ကို အဘယ်
သူဆပ်ရအံ့နည်း။ ရှိလေသမျှအရာတို့သည်၊ ဘုရား
သခင်မှရင်၊ တန်ခိုးတော်အားဖြင့်ရင်၊ ဘုရားသခင်၌
ရှင်၊ ရှိကြကုန်သည်။ ဤသခင်ကိုလည်း၊ အစဉ်မကုန်

နှင့်အောင် လွှန်မြတ်သောကျော်စောခြင်း ရှိသည်ဖြစ်စေသော။

Gospel. Matt. xxviii. 18—20.

သံမာသဲအ္ဃုးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ မိုဃ်းကောင်းကင်၌၊ မြေပေါ်မှာရင်၊ အခွင့်ရှိသမျှတို့ကို၊ ငါ့အား၊ အပ်ပေး၍ရှိသည်။ ထိုကြောင့်၊ သင်တို့သွား၍အမျိုးတကာတို့အားဆုပ္ပသွန်သင်လျက်၊ ခမည်းတော်၊ သားတော်၊ သပိရိတူးသံတူးနာမတော်မြတ်နှင့်၊ ရေသွန်သဖြင့်၊ ဆေးကျောခြင်းအမှုပြုကြလော။ ငါအလျှင်သင်တို့အားမှာထားသောအချက် ရှိလေသမျှကို၊ မချွတ်မယွင်းညီညွတ်စွာ ကျင့်ဆောင်ရအောင်၊ သူတို့ကိုသွန်သင်ကြပါ။ ငါသည်ကား၊ ကမ္ဘာကုန်သည်တိုင်အောင်၊ အစဉ်နေ့ညမပြတ်၊ သင်တို့နှင့်အတူတကွနေမြဲပါမည်ကိုမှတ်ကျွမှတ်ယူကြကုန်လော။

AFTER MASS.

Gospel *of the first Sunday after Pentecost.*
Luke vi. 36—42.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ။ သခင်ယေရှုးသည်၊ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ သင်တို့အဖဖြစ်သော

သခင်သည်၊ ကယ်မသနားတော်မူခြင်း ရှေ့နှစ်လုံး တော်ရှိသကဲ့သို့၊ သင်တို့ကျင်နာသနားခြင်းစိတ်ရှိကြစေလော။ သူတပါးအားစိရင်ခြင်း၊ အထူးစိတ်မရှိကြစေလင့်။ သူတပါးလည်းသင်တို့အား၊ အထူးစိရင်ခြင်းစိတ်မရှိလမည်။ သူတပါးအား၊ ပြစ်တင်ကဲ့ရဲ့ခြင်းကိုမပြုကြလင့်။ သူတပါးလည်း သင်တို့အား၊ ပြစ်တင်ကဲ့ရဲ့ခြင်းမပြုလမည်။ သူတပါးအား၊ ကညာလွှတ်ခြင်းပြုကြ။ သူတပါးလည်းသင်တို့အား၊ ကညာလွှတ်ခြင်းပြုလမည်။ ကောင်းမွန်စွာအချင့်အလွှန်မိုလျှံသိတ်လုတ်ခြင်းကိုပြု၍၊ နှစ်လုံးပြည့်အောင်ပြည့်လမည်။ ရေတွက်တိုင်းထွာခြင်ဖြင့်၊ သူတပါးအားသင်တို့ပေးကမ်းသကဲ့သို့၊ သူတပါးလည်းသင်တို့ကို၊ ရေတွက်တိုင်းထွာခြင်းဖြင့်ပေးကမ်းလမည်ဟုမိန့်တော်မူပြီးမှ၊ တဖန်၊ ဥပမာခင်း၍ဟောတော်မူသည်။ မျက်စိကမ်းသောသူ၊ တပါးကမ်းသောသူကိုရှေ့ညွှန်ရှေ့သွား လမ်းပြနိုင်အံ့လော။ ထိုနှစ်ယောက်၊ တွင်းထဲသို့ကြအံ့သည်မဟုတ်လော။ တပည့်သည်၊ ဆရာထက်၊ အတတ်အလိမ္မာမရှိနိုင်။ ဆရာမျှလောက်၊ တပည့်အပေါင်းတတ်လိမ္မာနိုင်လျှင်၊ အလွှန်မြတ်တော့သည်ပင်ဖြစ်သည်။ သင့်ညီ၏မျက်စိ၌သက်ကယ်မှုန်ကို၊ သင်မြင်သည်။ သင့်မျက်စိ၌တိုင်လောက်မျှ ရှိသည်အရာကို အဘယ်ကြောင့်၊ သင်သတိနှင့် ထောက်စားအောင်းမေ့ခြင်း မပြုသနည်း။ သင့်မျက်စိ၌ တိုင်လောက်မျှရှိသောအရာမ

မြင်လျှင်၊သင်၏ညီ၌ရှိသောသက်ကယ်အမှုန့်ထုတ် အံ့သောအခွင့်အဘယ်သို့ဆိုဝန့်ရအံ့နည်း။ လျှို့ဝှက် သောသူ၊ အလျှင်သင်၏မျက်စိ၌ရှိသော၊ ကြီးစွာ သောအရာကိုထုတ်ပြစ်ဦးလော။ ထိုအခါ၊ သင့်ညီ မျက်စိ၌ရှိသောအမှုန်ကို ထုတ်ယူခြင်းကိုပြုသင့်လ မည်။

——oo——

CORPUS CHRISTI.

သခင်ယေရှုးကရိသျှတုးကိုယ်တော်မြတ်ပွဲနေ့။

Epistle. 1 Cor. xi. 23—29.

သံပေါက်လူး ကော်ရင်တိမြို့သားတို့အား ရေးထား သောပဌမဆုမ္ဘစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့အား ငါအဆုမ္ဘသွန်သင် ချက်ကို၊ ဘုရားသခင်ထံငါခံရပြီး။ ထိုဗျာဒိတ်တော် အချက်သည့်ကား၊ သခင်ယေရှုးသည် မိမိကိုယ် တော်ကိုသေရအံ့အပ်ရမည်ညဉ့်၌၊ မုန့်ယူ၍ကျေးဇူး တော်ချီးမွမ်းခြင်း ဆုယူတော်မူပြီးမှ၊ ဖဲ့၍၊ တပည့် တော်တို့အားအမိန့်တော်ရှိသည်။ယူ၍စားကြလော။ ဤအရာ၊သင်တို့အတွက်ငါပေးရမည်၊ငါ၏ကိုယ်တော် ပင်ဖြစ်သည်။ဤနည်းတူ၊ငါ၏အောင်းမေ့ယူတခြင်း ဖြင့်ပြုမြဲကြကုန်။ ထိုအတူ၊ ညစာဖုန်းပေးပြီးမှ၊ ဖံ ခွက်ကိုယူတော်မူ၍ ဤသို့မြွက်ဆိုတော်မူသည်။ ဤ

ဖံခွက်သည် ငါ၏အသွေး၌အသစ်ဖွဲ့သောသဟာယ ဖြစ်သည်။ နောက်သောက်ရမည်အခါတိုင်း၊ ဤအမှု၊ ငါ၏ယှူတခြင်းဖြင့်ဆောင်ရွက်ကြကုန်။ ဤပေါင်မုန့်စားမည်၊ ဤဖံခွက်မှသောက်မည်အခါတိုင်း၊ ဘုရားသခင်ခန္ဓာ ပြောင်းသည်အကြောင်းကို၊ နောက်တဖန်ကြွလာမည်တိုင်အောင်၊ သင်တို့ဟောကြားလမည်။ ထိုကြောင့်၊ အပြစ်မစင်ကြယ်ဘဲ၊ ဤပေါင်မုန့်ကိုစားမိသသူ၊ ဤဖံခွက်မှသောက်မိသသူ ရှိလေတိုင်း၊ ဘုရားသခင်ကိုယ်တော်၊ အသွေးတော်ကိုမလေးမခန့်ပြစ်မှားခြင်း အပြစ်ထိုက်လမည်။ သို့ဖြစ်၍လူတို့ကိုယ်ကိုစစ်ကြောစမ်းသပ်ပြီးမှ၊ ဤပေါင်မုန့်ကိုစားစေ။ ဤဖံခွက်မှသောက်ပါစေ။ အကြောင်းမူကား။ မထိုက်ဘဲ၊ မသန့်ရှင်းဘဲ စားသောက်သည်တိုင်း၊ ဘုရားသခင်ကိုယ်တော်ကိုသင့်သည်အတိုင်း၊ မခွဲမချမ်းမသိသောကြောင့်၊ မိမိဆုန်းရှုန်းစီရင်ခြင်းထိုက်လိုက်စားသောက်သည်။

Gospel. John vi. 56—59.

သံဓွာင်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ များစွာသောယှုဒေအရှုတို့အား ဤသို့အမိန့်တော်ရှိသည်။ ငါ၏အသားတော်သည်၊ အဟုတ်အမှန်အစာဖြစ်သည်။ ငါ၏အသွေးတော်လည်း၊ အဟုတ်အမှန်အသောက်ဖြစ်သည်။ ငါ၏အသားတော်ကိုစားသောသူ၊ ငါ၏

၏အသွေးတော်ကို သောက်သောသူ၊ ငါ၌နေ၏။ ငါ
သည်လည်းထိုသူ၌ကျိန်းဝပ်၏။ထာဝရအသက်ရှင်
တော်မူသောခမည်းတော် ငါကိုစေလွှတ်တော်မူသ
ကဲ့သို့၊ ငါလည်းခမည်းတော်တန်ခိုးအားနှင့်ရှင်သ
ကဲ့သို့၊ ငါ၏အသားတော်ကိုစားသောသူလည်း၊ငါ
၏တန်ခိုးအားဖြင့်ရှင်လမည်။ ဤပေါင်မုန့်သည်ကား၊
မိုဃ်းကောင်းကင်မှဆင်းရောက်လာသော ပေါင်မုန့်
ဖြစ်သည်။ သင်တို့ဘိုးဘေးတို့၊ အရသာအပေါင်း
နှင့်ပြည့်စုံသည်မုန့်ကို စားသွားသော်လည်း၊ သေ
ခြင်းမှ မကင်းမလွတ်နိုင်သော အစာကဲ့သို့ပဟုတ်။
ဤပေါင်မုန့်ကိုစားသောသူကား၊အစဉ်ပကုန်မဆုန်း
နိုင်အောင်၊ ရှင်လမည်။



SECOND SUNDAY AFTER PENTECOST.

သမိရိတူးသံတူးပွဲနေ့နောက်ဒုတိယတနင်္ဂနွေနေ့။

Epistle. 1 John iii. 13—18.

သံဇွင်ဘာသာသူအပေါင်းတို့အားရေးထားသော
ပဌမဆုမ္မစာမှနုတ်သောစကားတည်း။

အလွန်မြတ်နိုးသောဘာသာသူတို့။လောကီသား
တို့သည်သင်တို့ကိုမုန်းသော်လည်း၊ အံ့အောခြင်းမ
ရှိကြနှင့်။ ငါတို့သည် ညီအစ်ကိုယ်ခြင်းတို့ကိုချစ်
သောကြောင့်၊ သေခြင်းမှအသက်ရှင်ခြင်းသို့ကိုယ်

ကူးမြောက်သည့်ကို ကိုယ်သိရကြ၏။ မိမိညီအစ်
ကိုယ်ကိုမချစ်သောသူသည်၊ သေခြင်း၌တည်၏။ မိ
မိညီအစ်ကိုယ်ကိုမုန်းသောသူမည်သည်ကား၊လူအ
သက်ကိုသတ်သောသူဖြစ်၏။ လူအသက်ကိုသတ်
သောသူတစုံတယောက်၌မျှ၊ထာဝရအသက်မတည်
သည်ကိုသင်တို့သိကြ၏။ကိုယ်တော်သည်ငါတို့အ
ဖို့အလိုငှါ၊ အသက်တော်ကို စွန့်တော်မူသည်အရာ
ကို ငါတို့သည်ထောက်၍ မေတ္တာတော်ကိုသိရကြ
ပြီ။ ငါတို့သည်လည်း၊ညီအစ်ကိုယ်ချင်းတို့အဖို့အ
လိုငှါအသက်ကိုစွန့်ရကြ၏။ အကျင်သူသည်၊လော
ကီစည်းစိမ်ဥစ္စာရှိလျက်ပင်၊ မိမိညီအစ်ကိုယ်ဆင်း
ရဲခြင်းကိုမြင်၍၊ သနားခြင်းကရုဏာစိတ်ကို ချုပ်
တည်း၏။ထိုသူ၌၊ဘုရားသခင်၏မေတ္တာတော်သည်
အဘယ်သို့တည်နိုင်မည်နည်း။ ချစ်သားတို့၊ စကား
ပြောတာမျှနှင့်မချစ်ဘဲ၊ စိတ်ပါကိုယ်ရောက်ကော်အ
မှန်ချစ်ကြဲ့ဗို။

**Gospel. Luke xiv. 16—24.**

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ ဖာရိသယ်အရှူး
တို့အား၍ဤသို့ဥပမာကိုဟောပြောတော်မူသည်။ တ
ဦးသောသူသည်၊ကြီးစွာသောညစားပွဲဗိရင်ပြင်ဆင်
၍၊ လူအချားတို့ကိုဖိတ်ခေါ်လေ၏။ ညအခါစားရ
မည်အချိန်ကို၊သူ၏ငယ်သားအားခေါ်ဖိတ်သောသူ

တို့လာကြမည်အကြောင်း၊ အားလုံးစိရင်ခင်းပါပြီး သောအကြောင်းတို့ကို၊ ပြောစိမ့်သော၄ါ၊ စေလွှတ် လိုက်၏။ ထိုလူအပေါင်းတို့လည်း၊ တညီတညွတ် တည်းပရိယာယ်၍သို့ပြောဆိုလိုက်ကြ၏။ တယောက် မှာ၊ ငါမြေကွက်ဝယ်လေပြီးသည်၊ မြင်ရအောင်ငါ ထွက်သွားရမည်။ ထိုကြောင့်သင်အားအခွင့်တောင်း ပန်သည်၊ငအားအပြစ်မတင်ပါလင့်ဆို၏။ ထိုနောက် တယောက်မှာ၊နွားငါးရှဉ်းဝယ်လေပြီးသည်၊ကောင်း မကောင်းအစမ်းတို့ငါသွားရမည်၊ သင်အားငါအ ခွင့်တောင်းပါသည်၊ငအားအပြစ်မတင်ပါလင့်။ တ ယောက်က၊ အကျွန်ုပ်သည်မယားနှင့်လက်ထပ်ပါ ပြီး၊ ထိုကြောင့်မလာရဟုဆို၏။ စေလွှတ်သောသူ လည်းပြန်လည်၍၍အရာအကြောင်းကို၊ မိမိသခင် အားလျှောက်ကြားလေ၏။ ထိုအခါ၊ အိမ်ရှင်သည် စိတ်မသာမသာ၍၊အစေအပါကိုဆိုပြန်သည်။ အ ဆောတလျင်ထွက်၍ မြို့လမ်းမလမ်းကြားတို့၌တွေ့ သောသူဆင်းရဲ၊ သူနာ၊ မျက်စိမမြင်၊ ခြေလက်မစွမ်း သောသူတို့ကို ငါ၏အိမ်သို့သွင်းခဲ့လော။ အစေအ ပါလည်း၊သခင်မှာသည်အချက်အတိုင်းကျွန်တော် ဆောင်ရွက်ပြီးသည်။ သို့ပြီးရာတွင်၊နေရာလွတ်လပ် သေးသည်။ သခင်လည်းအစေအပါသူကို၊တဖန်ဆို ပြန်သည်။ လမ်းမခြံနားအရပ်တို့၌ထွက်သွား၍၊ ငါ ၏အိမ်၌ပွဲပြည့်အောင်တွေ့လေသမျှသောသူတို့ကို၊ ချုပ်တည်းအောင် နှိုးဆော်ခေါ်၍ခင်ပေလော။ အ

လျှင်မိတ်ခေါ်သော သူတို့သည်ကား၊ ငါ၏စားပွဲ
သောက်ပွဲ၌တဦးမျှမစမ်းမမြဲရပြီးဟု၊ ငါသည်သင်
တို့ကိုပြောဆိုမှာထားပါသည်။



THIRD SUNDAY AFTER PENTECOST.

သပိရိတူးသံတူးပွဲနေ့နောက် တတိယတနင်္ဂနွေနေ့။

Epistle. 1 Peter v. 6—11.

သံပေတရူး ဘာသာသူတို့အားရေးထားသော ပဌမ
ဆုမ္ဗဝာမှနုတ်သောစကားတည်း။

အလွန်ချစ်သောညီအစ်ကိုယ်တို့။ ဘုရားသခင်စီ
ရင်တော်မူခြင်းအချိန်ကာလ၌၊သင်တို့ကိုချီးမြှောက်
မည်အကြောင်း၊တန်ခိုးကြီးသောလက်တော်အောက်၌
စိတ်နှိမ့်ချခြင်းကိုပြုကြကုန်။ ဘုရားသခင်သည်၊ သင်
တို့အားအစဉ်သတိတော်ဖြင့် ကြည့်ရှုတော်မူသော
ကြောင့်၊ အဖအရာဖြစ်သောရင်ပြင်တော်၌၊ မိမိစိုး
ရိမ်ပူပံခြင်းရှိသမျှကိုချထားကြကုန်။ အမှုမျိုးတို့၌၊
တော်လျော်အောင်၊ ဆင်ချင်ကြလျက်မအိပ်မစက်
ဘဲ၊ သတိနှင့်နေကြကုန်။ သင်တို့ရန်သူနတ်ဆိုးသည်၊
အဘယ်သူကိုစားမြိုရမည်နည်းဟောက်သောချင်သေ့ကဲ့
သို့၊ ပတ်လည်ရှာလေသည်။ ယုံကြည်ခြင်း၌စိတ်စွဲ
မှတ်၍၊ နတ်ဆိုးကိုအခုအခံပြုကြကုန်။ ဤလောက
ပြင်၌ကွဲပြားရှိသောညီအစ်ကိုယ်တို့သည်၊ ဒုက္ခတ

ဆင်းရဲခြင်းကို၊ သင်တို့နည်းတူခံရကြောင်းသိမှတ်အောင်းမေ့ကြကုန်။ ယခုမှာ၊ သခင်ယေရှုးကရိသျှတူးအားဖြင့်၊လွန်မြတ်သောစည်းစိမ်ချမ်းသာသို့၊ငါတို့ကိုပင့်ခေါ်တော်မူသော၊ကျေးဇူးအပေါင်းတို့ကိုပေးတတ်တော်မူသောဘုရားသခင်သည်၊ အနည်းငယ်ဆင်းရဲခံပြီးသောသင်တို့ကို၊ ခိုင်မာတည်တန့်ကောင်းမြတ်စွာဖြစ်စေအောင်၊ စောင်မတော်မူလမည်။ ဤသခင်သည်ကား၊ကမ္ဘာအဆက်ဆက်၊ဘုန်းအသရေနှင့်အစိုးအပိုင်ရှိစေသတည်း။ အာမင်။

## Gospel. Luke xv. 1—10.

သံလူကား ရေးထားသောကျမ်းတုတ်စကားတည်း။

ထိုကာလ။ တနေ့သ၌၊ အခွန်ခံသူတို့နှင့် အကျင့်ဆိုးညစ်သောသူတို့သည်၊ တရားနားအံ့သော၄ါ၊ သခင်ယေရှုးအထံတော်သို့ချည်းကပ်ကြ၏။ ထိုအခါ၊ ဖာရိသယ်အရူးတို့နှင့်ကျမ်းတတ်သူတို့သည်၊ ဤသူသည်၊ ကျန်းကျူပ်သောသူတို့ကို လက်ခံသိမ်းပိုက်ရှည်တွဲ၍၊ စားပွဲတွင်အတူစားဘိသနည်းဟု၊ အချင်းချင်းကဲ့ရဲ့ပြစ်တင်ပြောဆိုကြ၏။ သခင်ယေရှုးလည်း၊ထိုသူတို့အားဤသို့ဥပမာကိုခင်းကျင်း၍ဟောတော်မူသည်။ သင်တို့တွင်မည်သသူတယောက်၌တရာသောသိုးရှိ၍၊ထိုသိုးတို့တွင်တကောင်မျှယွင်းပြောက်လျှင်၊ ကိုးဆယ်ကိုးကောင်သောသိုးတို့ကို၊ကန္တာရ၌ပြစ်ထားခဲ့၍၊ပြောက်လွင့်သောသူကိုတွေ့

မည့်တိုင်အောင်၊ မသွားမရှာဘဲနေမည့်လော။ တွေ့ပြီးလျှင်မူကား၊ ဝမ်းမြောက်ဝမ်းသာသောစိတ်နှင့်ပခုန်း၌တင်တမ်း၍ အိမ်သို့လာရောက်သော်၊ အိမ်နီးချင်းတို့ကိုစုရုံးခေါ်၍၊ ပြောက်သောသိုးကိုငါရသည့်ငါနှင့်အတူ ဝမ်းမြောက်ကြလောဟု၊ ဆိုလမည့်မဟုတ်လော။ ထိုအတူလည်းကောင်း၊ ငါ၏စကားကိုမှတ်ကြ။ ဆိုးညစ်သောသူတယောက်သည်၊ စိတ်၌၊ သံဝေဂရသဖြင့်တရားတော်ကြားယူလျှင်၊ သံဝေဂကင်းပြီးသော၊ ကိုးကျိပ်ကိုးယောက် သူတော်သူကောင်းတို့ ကျင့်သောအကြောင်းထက်၊ မိုဃ်းကောင်းကင်၌အထူးသဖြင့် ဝမ်းမြောက်ခြင်းရှိလမည်။ သည့်မှတပါး၊ တဦးသောမိန္မသည်၊ အသပြာတဆယ်ရှိသည့်တွင်၊ တသပြာပြောက်လျှင်၊ ဆီမီးတိုင်ညှို၍ တအိမ်လုံးပြောင်းလဲ၍ တွေ့သည့်တိုင်အောင် သတိစင်းစား၍ ရှာဖွေလေသည့်မဟုတ်လော။ တွေ့ရလျှင်မူကား၊ အိမ်နီးချင်းမိန္မတို့ကိုစုရုံးခေါ်၍၊ ပြောက်သောအသပြာကိုငါရ၍၊ ငါ့အတူဝမ်းမြောက်ကြလောဟု ဆိုလေသည့်မဟုတ်လော။ ထိုအတူလည်းကောင်း၊ သံဝေဂရ၍နောင်တရသောသူဆိုးတယောက်၌၊ ဘုရားသခင်သကြားတို့သည်၊ အထူးသဖြင့်ဝမ်းမြောက်ခြင်းရှိကြလမည်ဟု ငါ၏အမိန့်တော်အချက်ရှိသည်။

—— oo ——

FOURTH SUNDAY AFTER PENTECOST.

## သခင်ယေရှုခရစ်တော်ဆင်းသက်တော်မူပွဲနေ့နောက်စတုတ္ထတနင်္ဂနွေနေ့။

## Epistle. Rom. viii. 18—23.

### သံပေါလ်လှူး ရောမမြို့သားတို့အား ရေးထားသော ဆုမွန်စာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ဤတသက်တွင်၌ခံရသောဒုက္ခဆင်းရဲခြင်းသည်၊ ငါတို့တွင်တနေ့သည်၌ ထွန်းလင်းလမည့်။ လွန်မြတ်သောစံစားရခြင်းနှင့်မထိုက်တန်ကြောင်းကို၊ ငါသည်အမှန်ထင်မှတ်ပါသည်။ ဤလောကတွင် တည်နေသောအရာရှိလေသမျှတို့၊ မျှော်လင့်တောင့်တခြင်းအချားမရှိ။ ဘုရားရှင်သားတို့၏တင့်တယ်စွာပေါ်ထွန်းခြင်းကိုမျှော်လင့်နေ၏။ ထိုအရာတို့သည်၊ မိမိတို့အလျောက်အလိုလိုပြောင်းလဲသည်မဟုတ်။ ဤသို့စီရင်တော်မူသောသခင်ဖြင့်၊ မျှော်လင့်၍၊ ပြောင်းလဲခံရသည့်တွင်၊ ဘုရားရှင်သားတို့လျှော်ပတ်စွာကျွတ်လွတ်လမည့်ကာလ၌၊ ထိုအရာတို့တိမ်လွဲဆွေးမည့်ခြင်းမှလွတ်မည့်အကြောင်း မျှော်မိတ်တော်ခံရကြသည်။ ဤလောကတွင်ရှိသမျှအရာတို့သည်၊ ယခုကာလတိုင်အောင်ညည်းတွားရှိ၍၊ ဆင်းရဲခြင်းဝေဒနာကိုခံကြကြောင်းကို၊ ငါတို့ပိုင်းချားသိရသည်။ ထိုအရာတို့သည်ကား၊ ဤကဲ့သို့ရှိသည်မျှမက၊ သခင်ခရစ်တော်၏အဦးအစရသော ငါတို့ရှိသမျှပင်လည်း၊ သားတော်အရာ၌ချီးမြှောက်ခြင်းအကြောင်း

တည်းဟူသော၊ ကိုယ်ရှင်ကိုယ်ကျတ်ခြင်းချမ်းသာ ကိုမျှော်လင့်၍ မိမိအတွင်း၌ညည်းတွားတန်းယမ်း စွဲနေရှိကြကုန်သည်။

Gospel. Luke v. 1—11.

သံလူကားရေးထားသောကျမ်းထုပ်ဝကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ ဂေနေသာရက် ရေကံအနား၌ နေတော်မူစည်၊ ဘုရားသခင်တရား တော်ကို နားအံ့သောငှါ၊ များစွာသောလူတို့သည်၊ အုပ်အုပ်သဲသဲ လာကြသည်ကို၊ မြင်တော်မူလျှင်၊ ကမ်းနားတွင်၊ လှေသင်္ဘောနှစ်စင်းဆိုက်လျက်နေ သည်ကိုမြင်တော်မူ၍။ တငါတို့လည်း၊ဆင်း၍ပိုက် ကွန်ကိုဆေးလျှော်လျက်နေကြသည်။ သခင်ယေရှုး လည်း၊ သိမောင်သင်္ဘောလှေထဲသို့တက်တော်မူပြီး သော်၊ လှေကိုကမ်းမှအနည်းငယ်မျှခွာဖွင့်ရအောင်၊ သိမောင်ကို အလိုတော်ရှိ၏။ သခင်ယေရှုးမှာ၊ သင်္ဘောအပေါ်မှာထိုင်နေတော်မူလျက်၊ ကမ်းနား၌ ရှိသောလူအပေါင်းတို့ကို ဆုမ္မသွန်သင်တော်မူ၏။ အပြီးစကားရပ်တော်မူ၍၊ သိမောင်ကိုအမိန့်တော် ရှိသည်။ ရေနက်သောအရပ်သို့ထိုးသွား၍၊ ငါးများ ရအောင်၊ ပိုက်ကွန်ကိုချလော၊ ဟုအမိန့်တော်ရှိ၏။ သိမောင်ပြန်၍လျှောက်သည်။ ဆရာတော်သခင်၊ တ ညည့်လုံးပင်ပန်းစွာအားထုပ်လျက်၊ ငါးတကောင်မျှ မရ။ သို့ရာတွင်၊ အမိန့်တော်ရှိလျှင်၊ ပိုက်ကွန်တို့ကို

ချပါမည်ဟုလျှောက်၍ချသော်၊ အတိုင်းမသိများစွာ
ငါးတို့ကို၊ ပိုက်ကွန်စုပ်လုစအောင်၊ အုပ်မိလေ၏။ အခ
ချားသဘော်ငယ်တစင်း၌ ရှိသောအဖေါ်များကို၊
ကူညီလာစိမ့်သောငှါ၊ လက်ရပ်ခေါ်လေ၏။ ထိုသူ
တို့လည်းလာ၍၊ သဘော်ငယ်နှစ်စင်း နစ်လောက်
အောင်၊ အပြည့်ရကြ၏။ သိမောင်ပေတရုလည်းထို
အကြောင်းကိုမြင်လျှင်၊ သခင်ယေရှူးဒူးတော်ကိုဦး
တိုက်၍၊ သခင်၊ အကျွန်ုပ်သည်အပြစ်ကိုကျင့်မိသော
သူဖြစ်ပါသည်၊ အဝေးမှာဖယ်နေတော်မူပါဟုလျှောံ
လေ၏။ သိမောင်ပေတရုနှင့်အတူ ပါသောသူအ
ပေါင်းတို့သည်၊ ငါးအများအုပ်မိသောအရာကိုမြင်
လျှင်၊ နှစ်လုံးအတွင်းအပ၌အံ့အားသင့်တွေဝေနေ
ကြကုန်၏။ ထိုနည်းတူလည်းကောင်း၊ သိမောင်ပေ
တရုနှင့်အတူပါသော၊ ယာကုပ်၊ ဇွင်၊ ဇေဘေဒဲ
အရူးသားတို့၊ ဤကဲ့သို့ရှိကြကုန်သည်။ သခင်ယေရှူး
လည်း၊ သိမောင်အားအမိန့်တော်ရှိပြန်သည်။ သင်မ
ကြောက်ရွန့်လင့်။ ယနေ့မှစ၍ လူတို့ကိုဖမ်းမိသော
သူဖြစ်လိမ့်မည်။ ထိုနောက်မှ၊ သသော်လှေငယ်တို့
ကိုကမ်းသို့ဆိုက်ရှဉ်၍၊ ရှိလေသမျှတို့ကိုစွန့်ပြစ်ခဲ့၍၊
သခင်ယေရှူးနောက်တော်သို့လိုက်ကြ၏။

——oo——

## FIFTH SUNDAY AFTER PENTECOST.

## သဗိရိတ္တူးသိတ္တူးပွဲနေ့နောက်ပဉ္စမတနင်္ဂနွေနေ့။

### Epistle. 1 Peter iii. 8--15.

### သံပေတရုးဘာသာသူအပေါင်းတို့အားရေးထားသောပဌမဆုံးမစာမှနှုတ်သောစကားတည်း။

အလွန်ချစ်သောညီအစ်ကိုယ်တို့။ စိတ်အလိုအာရုံရှိသမျှ၌၊ သင်တို့အပေါင်းတလုံးတဝတည်းရှိကြ။ ကျင်နာခြင်း၊ ညီအစ်ကိုယ်ချင်းကဲ့သို့၊ အချင်းချင်းချစ်လေးမြတ်ခြင်း၊ သနားစုံမက်ခြင်း၊ ရှာဖွေချုပ်တည်ခြင်း၊ နှိမ့်ချခြင်းစိတ်ထဲ၌ အမြဲစွဲနေကြကုန်။ ဆိုးညစ်ခြင်း၊ ကျိန်ဆဲခြင်း၊ ရန်တုန့်မယူမမူသည်မျှမက၊ ကျိန်ဆဲသသူတို့အား၊ မေတ္တာပို့သက်ကြကုန်။ မြတ်သောအရာတို့ကို၊ တနေ့သည်၌အမွေရကဲ့သို့၊ ပိုင်ဆိုင်မည်အကြောင်း၊ ဤသို့ကျင့်စိမ့်သော၄ါ၊ ဘုရားသခင်သည်သင်တို့ကိုခေါ်ပင့်တော်မူသည်။ ဤအသက်စည်းစိမ်ချမ်းသာကိုချစ်လေးပြတ်လိုသောသသူ၊ ဤလောကဘာဝနေ့တို့၌လည်းအကျိုးကျေးဇူးရှိသမျှပြည့်စုံချင်သောသသူ၊ ပြစ်တင်ပြစ်ဖော်စကား၌သူ၏လျှာကိုမကြူးလွန်စေနှင့်။ နှုတ်ဖြင့်လည်းမှူသားစကားမပြောက်စေနှင့်။ ဆိုးညစ်ခြင်းရှိသမျှကျဉ်ရှောင်ပါယ်လွှဲစေ။ အကောင်းရှိသမျှကိုကျင့်ဆောင်စေ။ ငြိမ်ဝတ်ငွါနေခြင်းကိုရှာဖွေ၍၊ ရအောင်လိုက်စေ။ [illegible]သသူတို့အား၊ ကု

ရေးသခင်သဒ္ဓါတော်မူခြင်းဖြင့်၊ ကြည့်ရှုတော်မူ၍၊ ထိုသူတို့လျှောက်သော ဆုမေတ္တာကို နားတော်စေ့စေ့ခံတော်မူသည်။ အဆိုးပြုသောသူတို့ကိုမူကား၊ မသက်မသာပြင်းထံသောမျက်နှာကိုပြတော်မူ၏။ ကောင်းမှုကောင်းရာတစုံတခုရှာဖွေလျှင်၊ အဘယ်သူသည်သင်တို့ကို၊ နာကျင်အောင်ပြုဝန့်အံ့နည်း။ ဤသို့အကောင်းအမြတ်ကျင့်ရသော်၊ ဖြောင့်မတ်သောအယူတရားကြောင့်၊ သင်တို့ဆင်းရဲခံရလျှင်၊ လွန်မြတ်ရှိကြ၏။ သူတို့ပြုမည့်ချိန်းချောက်ခြင်းကို၊ အလျှင်မကျောက်ကြနှင့်။ သင်တို့စိတ်နှစ်လုံးထဲ၌မူကား၊ သခင်ယေရှုးကရိသ္တုရိုသေလေးမြတ်ခြင်းရှိကြကုန်။

Gospel. Matt. v. 20—24.

သံမာတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ သင်တို့တရားတော်ကိုကျင့်သောအကျင့်တို့သည်၊ ကျမ်းတပ်သူတို့နှင့်ဖာရိသယ်အရူးတို့၏အကျင့်များထက် မသာပမြတ်လျှင်၊ မိုဃ်းကောင်းကင်နိုင်ငံတော်သို့ မရောက်မပေါက်နိုင်ရှိလမည်။ မသတ်လင့်၊ သတ်သောသူ၊ မင်းအထံ၌ဆေးကြောမေးမြန်းခြင်းကိုခံရမည်။ ရှေးသူတို့အားရှိသောပညတ်စကားကို၊ သင်တို့ကြားဘူးလေသည်။ ငါသည်၊ သင်တို့အားမြွက်ဆိုသောအခ

ချက်မှာ၊ သူ၏ညီအစ်ကိုယ်နှင့်၊ အမျက်မာန်မာနရှိ
သောသူတိုင်း၊ မင်း၏အထံ၌စစ်ကြောစီရင်ခြင်းကို
ခံရလမည်။ ညီအစ်ကိုယ်ခြင်းအဖြင်းအညန့်ဟုဆို
သောသူ၊ လွှတ်တော်၌စီရင်ခြင်းကိုခံရမည်။ သူ၏
ညီအစ်ကိုယ်ကို၊ အရူးအသွတ်ဆိုသောသူလည်း၊
ဂေဟန္နာအရပ်၌ မီးလျှို့ခြင်းကိုခံထိုက်လမည်။ ထို
ကြောင့်၊ဘုရားစင်ရှေ့အလှူဝတ္ထုတစုံတခုတင်သော
ကာလ၊ သင်၏ညီအစ်ကိုယ်သည်၊သင်၌အပြစ်တင်
တစုံတခုရှိသည်ဟု အောင်းမေ့သတိရလျှင်၊ သင့်
လက်ဆောင်အလှူကို၊ ထိုအရပ်၌ဘုရားစင်ရှေ့ ချ
ထား၍သွားလော။ ညီအစ်ကိုယ်နှင့်၊အသင့်အတင့်
အလျှင်ပြုလော။ထိုနောက်မှ၊ပြန်လာ၍လက်ဆောင်
အလှူကိုတင်လှူလော။



## SIXTH SUNDAY AFTER PENTECOST.

သပိရိတူးသံတူးပွဲနေ့နောက်ဆဌမတနင်္ဂနွေနေ့။

### Epistle. Rom. vi. 3—11.

သံပေါက်လူးရောမမြို့သားတို့အားရေးထားသော
ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါတို့ရှိသမျှ၊ သခင်ယေရှုးက
ရိသျှတူး၌ရေဖြင့်၊ ဆေးကြောခြင်းကိုယူသည်ကာ
လ၊၌သခင်အသေခံခြင်း၌၊ငါတို့ဆေးကြောရသည်

ကိုမသိကြလော။ အပြစ်ငရဲယိုင်ရာ၌၊ ငါတို့အသေ
ကဲ့သို့ဖြစ်အံ့သောငှါ၊ ဆေးကြောခြင်းအားဖြင့်၊ ယို
သခင်နှင့်ငါတို့သင်းပြိုဟ်ရလေပြီး။ခမည်းတော်ဘု
ရားဂုဏ်ကျေးဇူးတော်အားဖြင့်၊ သခင်ယေရှုးကရိ
သ္တူးသေသောသူတို့အစုမှ ရှင်ပြီတော်မူသခဲ့သို့၊
ပုံသဏ်သေထားတော်မူသည်နည်းတူ၊ ငါတို့သည်
လည်း အသစ်သောအသက်၏လမ်းကိုလိုက်ကြသ
တည်း။ သခင်ယေရှုးကရိသ္တူး၌၊ငါတို့သည်၊စိုက်
ထားရှိကြသည်နှင့်အညီ၊ ဤသခင်အသေခံခြင်း၌
ငါတို့နည်းတူဖြစ်ပြီးမှ၊အသစ်တဖန်ရှင်တော်မူခြင်း
၌လည်းအတူဖြစ်တော့မည်။ အပြစ်ငရဲမူလကိုပျက်
ပြုစိမ့်သောငှါ၊ အပြစ်ငရဲအောက်လည်းငါတို့မခံရ
ခြင်းငှါ၊ ငါတို့၌လူအဟောင်းကို၊သခင်ယေရှုးကရိ
သ္တူးနှင့်အတူ၊ တံကျင်လျှိုရသည်အကြောင်းအ
သိပင်ဖြစ်သည်။ သေလွန်သသူ၊ အပြစ်ငရဲ၌ ကြူး
လွန်ခြင်းမှလွတ်ကင်းသည်။ ယခု၊ သခင်ယေရှုးက
ရိသ္တူးနှင့်အတူငါတို့သေလွန်ပြီးမှန်လျှင်၊ ဤသ
ခင်နှင့်အတူငါတို့တဖန်ရှင်ပြန်ကြောင်းကို၊ ငါတို့
အမှန်စွဲယူကြသည်။ သခင်ယေရှုးကရိသ္တူး၊သေ
သောသူတို့အစုမှရှင်တော်မူပြန်ပြီးလျှင်၊နောက်တ
ဖန်၊မသေရပြီး။ သေခြင်းတရားလည်း၊ကိုယ်တော်
အပေါ်၌မအုပ်စိုးရပြီးဟုဧကံဖြစ်သည်။ အဘယ်
ကြောင့်နည်း၊ အသေခံတော်မူရာမှာ၊ လူတို့အပြစ်
ကြောင့်တကျိပ်ခံတော်မူသည်။ ရှင်တော်မူရာ၌သည်

ကား၊ ဘုရားရှင်တန်ခိုးဂုဏ်တော်ဖြင့် ရှင်တော်မူ ပြန်သောအကြောင်းတည်း။ ထိုနည်းတူ၊ သင်တို့သည် အပြစ်ငရဲဆိုင်ရာ၌အသေဖြစ်ကြသည်။ ငါတို့သခင် ယေရှုးကရိတ်သျှတူးဆိုင်ရာ၌လည်း၊ ဘုရားသခင်မှာ၊ သခင်ယေရှုးအားဖြင့်၊ အရှင်ဖြစ်ကြသည်ကိုအစဉ် ထင်မှတ်ကြကုန်။

## Gospel. Mark viii. 1—9.

### သံမာရကူးရေးထားသောကျမ်းထုပ်မကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ များစွာသောလူတို့နှင့်နေတော်မူစဉ်၊ ထိုသူအပေါင်းတို့လည်းစားရံမရှိသော်၊ တပည့်တော်တို့ကိုစုရုံးခေါ်တော်မူ၍ အမိန့်တော်ရှိသည်။ ဤများစွာသောလူတို့ကိုငါသနား၏၊ ငါ၏နောက်တော်သို့လိုက်ကြသည်၊ ယနေ့သုံးရက်ရှိပြီး။ ထိုသူတို့တွင်လည်းစားရံမပေါ။ အချို့လည်းအဝေးအရပ်မှလာသည်၊ ဖြစ်၍၊ မစားဘဲမိမိအိမ်သို့ပြန်လည်စေလျှင်၊ ခရီး၌နွမ်းရိတိန်းလဲ၍မရောက်နိုင်ရှိလမည်၊ ဟုမိန့်တော်မူ၏။ တပည့်တော်တို့လည်းဤသို့လျှောက်ကြသည်။ ကန္တာရတော၌ အဘယ်သို့၊ ထိုသူတို့အား၊ ပေါင်မုန့်ဖြင့်၊ ဝလောက်အောင်၊ ကျွေးမွေးနိုင်ပါမည်နည်းဟုလျှောက်လျှင်၊ သခင်ယေရှုးလည်း၊ ပေါင်မုန့်ဘယ်နှစ်လုံးရှိကြသနည်းဟုထိုသူတို့ကိုမေးတော်မူသော်၊ ခုနှစ်လုံးမျှရှိကြောင်းကိုဟုလျှောက်ကြ၏။ သခင်ယေရှုးလည်း၊

ထိုသူအပေါင်းတို့အား၊ မြေအပြင်၌ ထိုင်နေစေ
တော်မူ၏။ ပေါင်မုန့်ခုနှစ်လုံးကိုလက်တော်ဖြင့်ယူ
တော်မူပြီးလျှင်၊ ကျေးဇူးတော်ကမ္ဗဍ္ဍာဏ်းရှုတော်
မူပြီးမှ၊ မုန့်ကိုဖဲ့၍ထိုသူတို့အား၊ ထည့်ပေးစိမ့်သော
ငှါ၊တပည့်တော်တို့အားအပ်ပေးတော်မူ၏။ တပည့်
တော်တို့လည်း၊လူအပေါင်းတို့အား၊ဝေငှကြလေ၏။
ငါးငယ်အနည်းငယ်မျှ ထိုသူတို့တွင်ရှိသည်ဖြစ်၍၊
ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ၊ ထိုသူတို့ရှေ့၌ထည့်
ဝေစေသည်။ ထိုသူတို့လည်း၊ပြည့်ဝအောင်၊စားပြီး
မှ၊အကျွင်းစားစက်ကိုသိမ်းယူ၍၊တောင်းကြီးခုနှစ်
လုံးမျှ၊ အပြည့်ရ၏။ စားသောသူတို့အရေအတွက်
ကား၊လေးထောင်ခန့်တည်း။သူတို့ကိုလည်းပြန်သွား
စေတော်၏။

———00———

SEVENTH SUNDAY AFTER PENTECOST.

သဗိရိတူးသံတူးပွဲနေ့နောက်သတ္တမတနင်္ဂနွေနေ့။

Epistle. Rom. vi. 19—23.

သံပေါက်လူးရောမမြို့သားတို့အားရေးထားသော
ဆုမ္ဗစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။သင်တို့ကိုယ်အသားနွမ်းရိခြင်း
ထောက်သဖြင့်၊ လူတို့အနေအ လေ့အကျင့်နှင့်
လျော်အောင်၊သင်တို့အားငါဟောပြောသည်။သင်
တို့သည်မိမိကိုယ်အင်္ဂါတို့ကို၊ ဆိုးညစ်ခြင်းမဟုတ်

မ႒န်အရာအလိုရှိ၍၊ မတရားသောအကျင့်၌ သုံး ဆောင်လေကြပြီးနည်းတူ၊ယခုမှာ၊သန့်ရှင်းခြင်းသို့ ရောက်အောင်၊ ဖြောင့်မတ်ခြင်းအရာ၌အလိုရှိ၍ထို အင်္ဂါများကို၊သုံးဆောင်ကြကုန်။ သင်တို့အပြစ်ငရဲ အောက်ကျွန်ခံရကြသည့်ကာလ၌၊ဖြောင့်မတ်သော တရားကိုအဆုန်းအာမခံကြ။ ယခုသင်တို့ရှက်ရွန် သော၊ ထိုအမှုအရာတို့ကိုကျင့်ပြုစည့်တွင်၊ အဘယ် အကျိုး၊ သင်တို့ခံရသနည်း။ ထိုအမှုတို့၏အဆုန်း ကား၊ သေခြင်းတည်း။ ယခုမူကားအပြစ်ငရဲမှသင် တို့လွတ်မြောက်သဖြင့်၊ဘုရားသခင်အောက်အဆုမ္ဗ တော်မြတ်ခံ၍၊ တရားတော်၌သန့်ရှင်းခြင်းအကျိုး ကိုရ၍၊ အဆုန်း၌လည်းမကုံနိုင်သောစံစားခြင်းကို ရကြလမည်။ အဘယ်ကြောင့်နည်း။ သေခြင်းအရာ ကား၊ အပြစ်ငရဲ၏အခါတည်း။ မကုံနိုင်သောစံစား ခြင်းမူကား၊ သခင်ယေရှုးကရိသျတူးအားဖြင့်၊ ဘု ရားသခင်ငါတို့အားပေးသနားတော်မူသောဆုကျေး ဇူးတော်တည်း။

## Gospel. Matt. vii. 15—21.

သံ၁၁တဲအ႑ူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ တပည့်တော်တို့ အား၍သို့အမိန့်တော်ရှိသည်။ အပ၌သိုးရေကိုလွှန်း ပတ်လျက်၊အတွင်း၌ကား၊ကိုက်ခဲဟတ်သောတော ခွေးတဲ့သို့သညာန်ကူ၊သော၊ ဟုတ်ပ်ဖ္ပန်သောပရော

ဘက်တကိုကို၊ သင်တို့သည်၊ သတိဖြင့်ရှောင်လွှဲကြ လော။ ထိုသူတို့၏မူလအကျင့်တို့ကိုထောက်၍၊ထိုသူ တို့အဖြစ်သဘောကိုသိကြရတော့မည်။ဆူးပင်မှ၊စ ပျစ်သီးကိုရရိုးမရှိ။အနှစ်မဲ့ဆူးပင်ငယ်မှလည်း၊ဧက ပြောသီးတို့ကို ဆွတ်ယူရိုးမရှိ။ ဤကဲ့သို့ ကောင်း မြတ်သောအပင်သည်၊ ကောင်းမြတ်သောအသီး။ မကောင်းသောအပင်သည်၊ မကောင်းသောအသီး တို့ကိုသီးတတ်၏။ ကောင်းသောအပင်သည်၊မကောင်း သောအသီး။ မကောင်းသောအပင်သည်၊ ကောင်း သောအသီးတို့ကိုမသီးတတ်၏။ ကောင်းသောအ သီးကိုမသီးတတ်သော အပင်ရှိလေသမျှကို၊ ခုတ် လှဲ၍မီး၌ချရလမည်။ ထိုကြောင့်၊ ထိုသူတို့၏မူလအ ကျင့်ကိုထောက်သဖြင့်၊ သူတို့၏သဘောကိုသိကြရ တော့မည်။ အေား၊ သခင်သခင်ဟုခေါ်ခေါ်သော လူရှိလေသမျှတို့၊ မိုဃ်းကောင်းကင်၌ရှိသောနိုင်ငံ တော်သို့ ဝင်ရမည်မဟုတ်။ မိုဃ်းကောင်းကင်၌ရှိ သော၊ ငါ၏ခမည်းတော် ရွှေစိတ်တော်နှင့်အညီ ကျင့်သောသူကိုသည်သာ၊အထက်နိုင်ငံတော်သို့ဝင် ရလမည်။

## EIGHTH SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်အဋ္ဌမတနင်္ဂနွေနေ့။

### Epistle. Rom. viii. 12—17.

### သံပေါက်လူးရောမမြို့သားတို့အားရေးထားသော ဆုပ္ပစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ကိုယ်အသားအလိုအလျောက်ကျင့်ရအောင်၊ ငါတို့သည်အသား၏ကျွန်းဖြစ်ကြသည်မဟုတ်။ ကိုယ်အသားအလိုရှိတိုင်းသင်တို့ကျင့်ကြလျှင်၊ သင်တို့သေခြင်းထိုက်တော့မည်။ သို့မဟုတ်၊ ဝိညဉ်တရားတော်နောက်သို့လိုက်၍၊ ကိုယ်အသား၏အလိုသဘောကို သင်တို့ချုပ်တည်အောင်ပြုလျှင်၊ ရှင်ခြင်းချမ်းသာကိုသင်တို့ခံထိုက်တော့မည်။ ဘုရားသခင်သပိရိတူး တိုက်တွန်းနှိုးဆော်ခြင်းဖြင့် ကျင့်သသူတို့၊ ဘုရားသခင်သားတော်အရာသို့ဝင်ကြသည်။ ကျောက်ရွံ့ခြင်းနှင့်ရှိနေကြောင်း၊ ကျွန်းအဖြစ်ကိုသင်တို့ယူခံကြရသည်မဟုတ်။ သားအရာမြောက်စားသည့်အဖြစ်ကိုစံစားကြသည်။ သင်တို့တည်နေရကြသည်၍အဖြစ်ဘွဲ့ဖြင့်၊ ငါ၏အဖ၊ ငါ၏အဖငါတို့အမြဲခေါ်ဝေါ်ဝန့်ကြသည်။ ငါတို့ဘုရားရှင်သားမှန်ရှိကြောင်းကို၊ ငါတို့ထဲ၌၊ သပိရိတူးသံတူးပင်သက်သေမလွှဲတည်သည်။ ယခု၊ ဘုရားရှင်သား၏အရာသို့ငါတို့ဝင်ကြသည့်မှန်လျှင်၊ အမွေခံထိုက်သည့်ကိုအမှန်စကားပြောက်သည်။ ဘုရားသခင်၏အမွေ

ဇေတော်ကို၊ခ်ဖြစ်ကြသည်။ သခင်ယေရှုအတူလည်း၊ ဒသမွှေကိုခံလမည်။

## Gospel. Luke xvi. 1—9.

သ်လုကာရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ တပည့်တော်တို့အား၍သို့သောဥပမာကိုမိန့်တော်မူသည်။ သူဌေးတဦး၌ဘဏ္ဍာစိုးတယောက်ရှိသည်။ သူဌေးရှေ့တွင်၊ ထိုဘဏ္ဍာစိုးသည်၊ ဥစ္စာကိုဖွင်းပျက်ကြောင်းကိုသူတပါးတို့အပြစ်တင်လျှောက်ကြ၏။ သူဌေးလည်း၊ ဘဏ္ဍာစိုးကိုခေါ်၍၊ သင်၏အမှုအရာ၌ ငါကြားသောစကားကား၊ အဘယ်သို့နည်း။ သင်ထိန်းသိမ်းသောဥစ္စာစာရင်းတွက်ကို၊ ငအားပေါ်ပြလော။ ယနေ့မှစ၍ဘဏ္ဍာစိုးအရာကိုမလုပ်ရဟုဆို၏။ ဘဏ္ဍာစိုးလည်းစိတ်၌ဤသို့ဆင်ခြင်၏။ ငါ၏သခင်သည်၊ ငါကိုဘဏ္ဍာစိုးအရာမှနှုတ်လမည်၊ အဘယ်သို့ပြုကြံရအံ့မည်နည်း။ မြေကိုလည်းမတူးနိုင်။ သူဖုန်းစားလုပ်ခြင်းငှါ၊ ရှက်ကြောက်သည်။ ဘဏ္ဍာစိုးအရာမှနှုတ်ပြီးနောက်၊ သူတပါးတို့သည်၊ မိမိတို့အိမ်မှာငါကိုလက်ခံစေခြင်းငှါ၊ အဘယ်သို့ပြုရမည်ငါသိ၏၊ ဟုဆင်ခြင်ပြီးမှ၊ သခင်၏ကျွေးတင်သောသူတို့ကိုခေါ်၍၊ အလျှင်ရောက်သောသူတယောက်ကို ဤသို့ဆို၏။ ငါ၏သခင်ကိုဆပ်ပေးရန်၊ သင်၌အဘယ်မျှလောက်ရှိသနည်း။ ထိုသူကလည်း၊ ဆီအလုံးတရာပေးရန်ရှိ

သည်ဟုဆို၏။ ဘဏ္ဍာစိုးကလည်း၊ သင့်စာရင်းကို
ယူ၍အဆောတလျင်ထိုင်နေ၍၊ ငါးဆယ်မျှရေးမှတ်
လော။ ထိုနောက်၊ တချားသူကိုခေါ်၍၊ သင်၌ကျွေး
အဘယ်မျှရှိသနည်းဟုမေးပြီလျှင်၊ ဂျုံစပါးအတင်း
တရာပေးရန်ရှိပေသည်ဟုဆိုလျှင်၊ သင့်စာရင်းကိုယူ
၍အတင်းရှစ်ဆယ်မျှရေးမှတ်လောဟုဆို၏။ သခင်
သူဌေးသည်ဤကောက်ကျစ်သောဘဏ္ဍာစိုး၊ ဆန်း
ပြားသောအလိမ္မာကိုချီးမွမ်း၏။ အဘယ်၍လောက
သားတို့သည်၊ မိမိတို့အမှုကိုဆောင်ရွက်ရာတွင်၊ အ
လင်း၌ရှိသောသူတို့ထက် ဆန်းပြားလိမ္မာရှိကြ
လေသည်။ ငါမှာသင်တို့အားမြွက်ဆိုသည်ကား။ အ
လိုရှိမည့်ကာလ၌၊ သင်တို့ကို၊ မပြက်မကုံနိုင်သော
နေရာ၌သင်တို့ကိုသိမ်းသွင်းလတ္တံ့သော၊ အဆွေရှိ
စေခြင်းငှါ၊ ယခုမကောင်းသောအရာ၌ဖြစ်စေတတ်
သောဥစ္စာငွေကိုသုံးဆောင်ကြကုန်။



NINTH SUNDAY AFTER PENTECOST.

သပိရိတူးသံတူးပွဲနေ့နောက်နဝမတနင်္ဂနွေနေ့။

## Epistle. 1 Cor. x. 6—13.

သိပေါလ်လူးကော်ရင်တိမြို့သားတို့အားရေးထား
သောပဌမဆုမ္ဘစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ထိုသူတို့သည်မကောင်းသော

အရာကိုတပ်မက်သကဲ့သို့၊ ငါတို့တတ်စွန်းခြင်းမရှိကြနှင့်။ ထိုသူတို့တွင်၊ အချို့သသူ၊ မဟုတ်မမှန်ကိုးကွယ်သကဲ့သို့၊သင်တို့မကိုးကွယ်ကြနှင့်။ထိုသူတို့၏အကြောင်း၌သို့ရေးမှတ်လျက်ရှိသည်ကား။ လူတို့သည်စားသောက်အံ့ထိုင်ပြီးမှ၊ က၊ ခုံ၊ မူးခြင်း၌ါထကြသည်။ ထိုသူတို့တွင်အချို့သသူ၊ ရာဂ၌ကြူးလွန်သကဲ့သို့၊ ငါတို့ကြူးလွန်ခြင်းမရှိကြစေနှင့်။ ၎င်းဆိုးညစ်ခြင်းအမှုကြောင့်၊တနေ့တည်း၌၊လူနှစ်သောင်းသုံးထောင်သေခြင်းဘေးခံကြရသည်။ ထိုသူတို့တွင်အချို့သသူ၊ မြွေနှောက်ရှုးစမ်းခြင်းကိုပြု၍၊ မြွေဆိတ်ဖြင့်ကိုက်ခဲသေရကဲ့သို့၊ ငါတို့သည်၊ ကရိသျှတူးကို၊မြွေနှောက်ရှုးစမ်းခြင်းမပြုကြနှင့်။ ထိုသူတို့တွင်အချို့အပြစ်ရှာမြည်တမ်းခြင်းကိုပြု၍ဖြက်ဆီးသောသူ၏လက်ဖြင့်ပြက်သကဲ့သို့၊ သင်တို့သည်၊ မြည်တမ်းခြင်းကိုမပြုကြနှင့်။ထိုအကြောင်းအရာရှိလေသမျှ၊ ပုံသဏ္ဍာန်ကဲ့သို့ဖြစ်ကြသည်။ ကာလအဆုံး၌ပေါ်သော၊ငါတို့အဖို့ဆုမ္ပသွန်သင်ဖြစ်စေခြင်း၌ါ၊ရေးမှတ်လျက်ရှိကြတုန်သည်။ ထိုကြောင့်၊ကျပ်တည်းစွာရပ်နေသသူ၊ မိမိကိုယ်ထင်မှတ်ရလျက်၊မလွှဲမချော်အောင်သတိပြုစေ။ လူတို့တွင်တွေ့ကျိမ်မြဲသောနှောင့်ရှက်ခြင်းမှတပါး၊ ကြီးစွာနှောင့်ရှက်ခြင်းကို သင်တို့မတွေ့ရကြနှင့်။ ဘုရားသခင်နှုတ်တော်ထွက်မတိမ်းမလွှဲနိုင်။သင်တို့မခံနိုင်သောအခင်မတန်နှောင့်ရှက်ခြင်းကိုတွေ့ရအောင်၊ဘုရားသခင်

သည်အခွင့်ပေးတော်မမူ။ နှောင့်ရှက်ခြင်းအမှုပေါ်ထွက်မည်အခါတွင်၊သင်တို့ထမ်းနိုင်ကြပါမည်အကြောင်းကယ်မသနားတော်မူလမည်။

## Gospel. Luke xix. 41—47.

## သံလူကာရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။သခင်ယေရှုသည်၊ယေရုရှလင်မြို့၏အနီးသို့ရောက်တော်မူသော်၊ မြို့ကိုအာရုံပြုတော်မူ၍ငိုကျွေးခြင်းဖြင့်ဗျာဒိတ်တော်မြွက်ရှိသည်။ ဩအချင်းမြို့၊ သင့်အဖို့ထား၍ဤနေ့ပင်၌ရှိသေးသော၊သင်၏ငြိမ်သက်ခြင်းနှင့်ဆိုင်သောအရာတို့ကိုသိရလျှင်၊ ကောင်းမြွက်၏။ ယခု၊ ဤအရာများတို့သင်၏မျက်စိ၌ဖုံးဖိတ်ကာ၍ရှိခဲ့သည်။ သင့်ကိုကြည့်ရှုအောင်ကြွလာတော်မူခြင်း၏အချိန်ကာလကိုသင်မသိသောကြောင့်၊ သင်၏အဖို့မကောင်းလှသောနေ့ရက်တို့သည်ရောက်လမည်။ သင်၏ရန်သူတို့သည်လာ၍၊ ပတ်လည်ဝန်းရံတတ်တည်သဖြင့်၊ သင့်ကိုဝိတ်ဆို့ထားလမည်။ လေးမျက်နှာအရပ်တို့၌လည်း၊ အကျဉ်းအမြောင်ထားလမည်။ သင်မှစ၍သင်၌ရှိသောသားတို့ကို၊ မြေအပြင်၌ တွန်းလှဲဖျက်ဆီးညှိလျက်၊ ကျောက်ဖျာသည် ကျောက်ဖျာပေါ်၌ထပ်ဆင့်မနေရအောင်၊ပြုလမည်။ ဤသို့ဗျာဒိတ်တော်ရှိပြီးမှ၊ကျောင်းတော်သို့ဝင်တော်မူ၍၊ကျောင်းတော်၌ရောင်းဝယ်ပြု၍နေသောသူတို့ကိုနှင်ထုတ်တော်မူ

လျက်၊ ငါ၏ကျောင်းတော်သည်ကား၊ မေတ္တာကမ္ဗ
ဌါထ်းပြုရာ အရပ်တော်ဖြစ်ကြောင်းကို ကျမ်းစာ
တွင်ရှိသည်။ သင်တို့မူကား၊ သူခိုးဒါးမျတဲအခုံကဲ့သို့
ထင်မှတ်နေကြသည်ဟုအမိန့်တော်ရှိ၏။ကိုယ်တော်
သည်လည်းနေ့တိုင်းမပြတ်၊ ကျောင်းတော်တွင်ဆုမ္ဗ
သွန်သင်လျက်နေတော်မူသည်။



TENTH SUNDAY AFTER PENTECOST.

သမိရိတူးသံတူးပွဲနေ့နောက်ဒသမတနင်္ဂနွေနေ့။

Epistle. 1 Cor. xii. 2—11.

သံပေါက်လူးကော်ရင်တိမြို့သားတို့အားရေးထား
သောပဌမဆုမ္ဗစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့ဇင်တိအူးဖြစ်စဉ်၊ သူ
မြားခေါ်ဆောင်သဖြင့်သွန့်အသောရုတ်တုကို ကိုး
ကွယ်စိမ့်ငှါ၊ သင်တို့ပါသွားကြောင်းကို၊ သင်တို့အ
သိပင်ဖြစ်သည်။ ယခုမှာ၊ ဘုရားသခင်သမိရိတူး
တိုက်တွန်းခြင်းဖြင့်ပြောဟော၍၊ အဘယ်သူမျှယေ
ရှူးသခင်ကိုကျိမ်ဆဲခြင်းမဆိုဝန့်ကြောင်း၊ ပွင့်လင်း
စွာသင်တို့အားငါကြားပါသည်။ထိုအတူ၊သခင်ယေ
ရှူးအစိုးရတော်မူသောသခင်ရှိကြောင်း၊ သမိရိတူး
သံတူးစောင်မခြင်းမှလွတ်ကင်း၍၊ မည်သူတယောက်
မျှအမှန်အကံမပြောမဆိုနိုင်၊ အမှန်ဖြစ်သည်။ ယခု၊
ဆုကျေးဇူးတော် အသွယ်သွယ်ခွဲဝေလျက်ရှိညား

သော်လည်း၊သပိရိတူးတပါးတည်းရှိ၏။ ရဟန်းအာမှုတို့အသီးအသီးရှိညားသော်လည်း၊ သခင်တပါးတည်းရှိ၏။ပြုပြင်ခြင်းအမှုအရာတို့အချားအချားရှိညားသော်လည်း၊ထိုအရာရှိသမျှကိုလူတူသမျှတို့၌စီမံသောဘုရားသခင်တပါးတည်းရှိ၏။ အကြိုးဖြစ်စေခြင်းငှါ၊ အထင်အရှားမြင်ရသောသပိရိတူးသံတူးဂုဏ်ကျေးဇူးတို့၊ လူအသီးသီးတို့အသို့ပေး၍ရှိသည်။ တယောက်သောသူအား၊သပိရိတူးသံတူးဖြင့်ပညာဉာဏ်ကို ပေးတော်မူ၏။ တပါးသောသူအား၊ထိုးထွင်းခြင်းဉာဏ်ကို၊ သပိရိတူးသံတူးဖြင့်ပေးတော်မူ၏။ ထိုသပိရိတူးစောင်မခြင်းဖြင့်၊ တပါးသောသူအား တည့်မတ်သောယုံကြည်ခြင်းကိုပေးတော်မူ၏၊တပါးသောသူကား၊နာသောသူတို့အားချမ်းသာပေးနိုင်ကြောင်းအခွင့်ရလျှင်၊ထိုသပိရိတူးတန်ခိုးတော်ဖြင့်အခွင့်ရလေသည်။ အချို့သောသူ၊တန်ခိုးပြုနိုင်ကြောင်း၊ တပါးသောသူ၊ ပရောဖက်တဂုဏ်ဖြင့်ဟောနိုင်ကြောင်း၊ တပါးသောသူ၊ လူတို့စိတ်ထဲ၌ကြံစည်ဆင်ချင်သမျှကိုသိမြင်ကြောင်း၊ တပါးသောသူ၊အသွယ်သွယ်လူမျိုးစကားပြောနိုင်ကြောင်း၊သူတယောက်ကထိုစကားမျိုး၏အနက်အဓိပ္ပာယ်ဖေါ်နိုင်ကြောင်း၊ဂုဏ်ကျေးဇူးအပေါင်းပေးတော်မူ၏။ ယခုမှာ၊ ထိုအရာရှိသမျှကိုသပိရိတူးတပါးတည်းပြုပြင်၍လူအသီးအသီးတို့အား၊အလိုရှိသည်အတိုင်း၊ခံဝေတော်မူ၏။

## Gospel. Luke xviii. 9—14.

သိံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ မိမိဖြောင့်မတ်ခြင်းကိုမှတ်၍ကိုယ်ကိုအမှီပြု၍ သူတပါးကိုမထီမဲ့မြင်ပြုတတ်သောအချို့တို့အား၊ ဤသို့သောဥပမာကိုဟောတော်မူသည်။ မေတ္တာကမ္မဋ္ဌာန်းစီးဖြန်းအံ့သောငှါ၊ လူနှစ်ယောက်တို့သည်၊ကျောင်းသို့တက်လာကြသည်။ ထိုနှစ်ယောက်တွင်၊ တယောက်ကား၊ ဖါရိသယ်အရူး။ တယောက်ကား၊ကင်းအခွန်အထုတ်သိမ်းမိုက်သောသူတည်း။ ဖါရိသယ်အရူးသည်၊ ရပ်နေလျက်စိတ်ထဲ၌ဤသို့ကြံထုတောင်း၏။ အိုဘုရားသခင်၊ သူတပါးတို့သည်အနိုင်အထက်ခိုးယူခြင်း၊ မတရားသဖြင့်ပြုခြင်း၊ သူမယားကို ပြစ်မှားခြင်းအမှုကိုပြုသကဲ့သို့ အကျွန်ုပ်မပြု။ သာမက၍ အခွန်အထုတ်ခံကဲ့သို့မဟုတ်သောကြောင့်၊ ကျေးဇူးတော်ကြီးလှပါသည်။ အကျွန်ုပ်သည်လည်း၊ ခုနှစ်ရက်တွင်း၌နှစ်ကြိမ်ဝါရှောင်ကျင့်သည်။ ရတတ်သမျှဥစ္စာတွင်လည်း၊ဆယ်ဖို့တဖို့ကပ်လှူသည်ဟုဆို၏။ကင်းအခွန်အထုတ်သိမ်းမိုက်သောသူမူကား၊အဝေးမှနေ၍၊ အထက်မိုဃ်းတောင်းကင်သို့မမျှော်မကြည့်ဝံ့။ ရင်ကိုလက်ဖြင့်ခပ်လျက်၊ အိုဘုရားသခင်၊ အကျွန်ုပ်သည်အပြစ်ကိုကျင့်သောသူဖြစ်ပါသည်၊ အပြစ်မြားကိုကညာလွှတ်တော်မူပါဟုဆုတောင်းလျှောက်၏။ ငါအမှန်ဆိုသည်ကား။ဤကဲ့သို့တောင်းလျှောက်သည့်သူသည်ကား၊ အလျှင်ဖါရိ

သယ်အူးထက်၊ သန့်ရှင်းကြည်လင်စွာသောစိတ်နှင့် အိမ်သို့ပြန်သွားလေသည်။ အကြောင်းမူကား။ မိမိကိုယ်ကိုပလွှားချီးမြှောက်သသူ၊ နှိမ့်ချခြင်းသို့ရောက်လမည်။ မိမိကိုယ်နှိမ့်ချ၍ရှိဘက်သသူ၊ ချီးမြှောက်ခြင်းသို့ရောက်လမည်။

——oo——

## ELEVENTH SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်ကောဒသမ တနင်္ဂနွေနေ့။

### Epistle. 1 Cor. xv. 1—10.

### သံပေါက်လူး ကော်ရင်တိမြို့သားတို့အားရေးထားသောပဌမဆုမွစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါသည်၊ သင်တို့အား၊ ဟောကြား၍၊ သင်တို့လူရသည့်မျှမကအခြစ်ဖွဲ့သည်နှင့်အညီ၊ လွှန်မြတ်သောလွှတ်ခြင်းချမ်းသာကို သင်တို့၌ပြုစုသော၊ ဧဝံဂေလိအူးနှုတ်ကပေါတ်တော်ကို၊ ယခုထပ်ဆင့်၍သတိမြဲမြဲစွာရှိအံ့ထင်သည်။ ဤတရားနှုတ်ကပေါတ်တော်၊ သင်တို့၌မြဲစွဲသည်မမြဲစွဲသည်ကိုသိအောင်၊ ငါဟောပြောစည်၊ သင်တို့အားမြွက်ကြားသည့်အရာများကို၊ သတိဖြင့်၊ ဆင်ချင်ကြ။ ထိုတရားစကားသင်တို့၌မမြဲစွဲသဖြင့်၊ သင်တို့တရားယူချက်အကျိုးမဲ့ဖြစ်လမည်။ သခင်ယေရှုးကား၊ ကျမ်းထွက်

နှင့်အညီ၊ ငါတို့အပြစ်တို့အမို အသေးတော်မူ
ကြောင်း၊ အလောင်းတော်သင်းဂြိုဟ်ပြီးမှ၊ သုံးရက်
တိုင်လျှင်၊ ထိုကျမ်းစကားအချက်နှင့်လျော်စွာရှင်
ပြန်ထော်မူကြောင်း၊ ပေတရုးသည်ကိုယ်တော်မြတ်
ကိုမြင်ပြီးမှ၊ တကျိပ်တပါးတို့လည်း၊ ထိုအစုမြင်
ရကြ၏။ ထိုနောက်မှ၊ တချိမ်တည်း၊ ဘာသာတူငါးရာ
ကြော်လူတို့သည်လည်း ထင်ရှားစွာမြင်ရကြောင်း၊
ထိုသူတို့တွင်၊ ယခုတိုင်၊ အမြားသောသူတို့အရှင်
ချည်း၊ အချို့မှာသေလွံအိပ်နေကြသည်၊ ထိုမှတပါး၊
ယာကောမှစ၍တချားသောတပည့်ကြီးတို့သည်၊ ဖူး
မြင်ရကြောင်း၊ အဆုံး၌သူတကာနောက်၊ အတျွန်ုပ်
လူရွေးဖြစ်လျှက် ဖူးမြင်ရပါပြီးကြောင်း။ ထိုအ
ကြောင်းတို့ကိုသင်တို့အားငါဟောပြောလျှင်၊ ဤအ
ချက်မြားကို ကိုယ်အပ်နှံသည်နှင့်အညီ၊ သင်တို့ကို
ထပ်ဆင့်၍ငါအပ်ပေးပြန်သည်။ ငါသည်ကား၊ အ
ပေါ်သျှတော်လော်တို့အောက် ညံ့ဆုံးသောသူဖြစ်
ပါသည် ဧင်ဘုရားသခင်ဘာသာလူစုကိုလိုက်လံဖြစ်
ရှာပြုပြီးမှ၊ အပေါ်သျှတော်လော်ခေါ်ဝေါ်ခြင်းမှ
ထိုက်မတံ။ သို့ရှိညားသော်လည်း၊ ငါ၌ရှိသောအရာ
ဟူသမျှတို့သည်၊ ဘုရားသခင်ကျေးဇူးတော်ဖြင့်ဖြစ်
တော့သည်။ ဘုရားသခင်ကျေးဇူးတော်လည်း၊ ငါ၌
အကျိုးမဲ့ရှိနေဘူးသည်ဟူ၍မဆိုရ၊ ဖြစ်သည်။

## Gospel. Mark vii. 31—37.

သိမ်ဓာရကူး ရေးထားသောဘျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ တိရုအမည်ရှိသောမြေအစွန်းမှထွက်၍၊ ရှိဓောင်အမည်တွင်သောအရပ်သို့ကြွတော်မူသဖြင့်၊ ဂါလိလဲအားပင်လယ်သို့ရောက်ရာတွင်၊ ဒေကာပေါလေမည့်သောအရပ်အလယ်၌ရောက်တော်မူ၍၊ နားမကြားဆွံ့အသောသူတယောက်ကို ရှေ့တော်သို့ဆောင်ယူခဲ့သဖြင့်၊ လက်တော်ကို၊ ထိုသူကိုယ်ပေါ်၌တင်ထိပါမည်အကြောင်းလျှောက်ကြ၏။ သခင်ယေရှုလည်း၊ လူအများအစုတို့မှထိုနားပင်း၊ ဆွံ့အသောသူကို၊ အချားထုတ်ဖေါ်ခေါ်တော်မူ၍၊ ထိုသူနားပေါက်တွင်း၌လက်ချောင်းတော်တို့ကိုထိုးလျှိုတော်မူသည်။ တံတွေးတော်ဖြင့်လည်း၊ ထိုသူလျှာကိုထိပြီးမှ၊ မိုဃ်းကောင်းကင်သို့ရှုမျှော်တော်မူ၍၊ ဧဖဿ၊ ပွင့်လင်းစေဟုဆိုလိုသောအချက်ဖြင့်ညည်းတွားမြွက်ဆိုတော်မူလျှင်၊ အဆောတလျင်၊ ထိုသူနားပွင့်ကြားသည်။ လျှာ၌လည်း၊ အလျှင်အချိအနှောင်ပြေ၍ချေလည့်စွာပြောနိုင်လေသည်။ သခင်ယေရှုလည်း၊ ထိုအကြောင်းကိုအဘယ်သူမျှအားမပြောစေခြင်းငှါမြစ်တားတော်မူ၏။ မြစ်တားညားသော်လည်း၊ သူတို့သည်လည်း၊ သာ၍ပြသောတန်ခိုးကျေးဇူးတော်ကိုကြော်ညာကြ၏။ ထိုသူတို့တိုး၍အံ့သြာလျက်၊ ဤ

သူသည်အလုံးစုံလျှောက်ပတ်စွာပြုတော်မူပြီး။နားမကြားသောသူတို့ကိုလည်း၊ ကြားစေသည်။ မပြောမဆိုနိုင်သောသူတို့ကိုလည်း၊ ပြေပြစ်ချောမောပြောဆိုစေသည်။

——00——

## TWELFTH SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်ဒွါဒသမတနင်္ဂနွေနေ့။

### Epistle. 2 Cor. iii. 4—9.

### သံပေါက်လူးကောဗ်ရင်တိမြို့သားတို့အားရေးထားသောဒုတိယဆုပ္ပစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ယေရှုးကရိသ္တုတူး ကျေးဇူးတော်ကိုဆင်ချင်ထောက်စား၍၊ဘုရားသခင်၌ငါတို့ဤမျှလောက်ကြီးသောမျှော်လင့်ခြင်းရှိပါသည်။ငါတို့ချည်းသာ အလိုအလျှောက်တစုံတခု၊ ကောင်းသောအောင်းမေ့ခြင်းရအုံ့မထင်မရှိ။ ဘုရားသခင်တန်ခိုးတော်အားဖြင့်သာ၊ဤကောင်းသောအာရုံကိုတတ်နိုင်ကြသည်။ ဤသခင်လည်း၊စာအက္ခရာတို့၌မဟုတ်။ ရုပ်ကင်းသောသဗိရိတူး၌တည်သော၊ အသစ်တဖန်ပွဲသောသဟာရတော်၊သင့်လျော်သည့်အမှုဆောင်ဖြစ်စေခြင်းငှါ၊ငါတို့ကိုစီမံပြုစုတော်မူသည်။ အကယ်၍၊ ကျမ်းအက္ခရာချည်းသာ၊ သေခြင်းသို့ပို့သည်။ ရုပ်ကင်းသောသဗိရိတူးမှ၊အသက်ရှင်ခြင်း

ဖြစ်ပါသည်။ ကျောက်ဖျာ၌ရေးမှတ်မိသည့်ကို၊ ကျမ်းဟောင်းတရားဆောင်ရွက်ချင်သည့်တခဏာတို့ ထွန်းတောက်သောအရောင်တော်ကြောင့်၊ ဒိသရဒဲလသားတို့၊ မောဇယ်မျက်နှာကို စေ့စေ့မကြည့်ဝန့်အောင်၊ ဤမျှလောက်ရံဝန်ပွင့်လင်းရှိသည်။ သပိရိတူးအမှုကိုဆောင်ရွက်ခြင်းကား၊ အဘယ်မျှလေဝံသာ၍ပွင့်လင်းအံ့နည်း။ ဆုံးရှုံးခြင်းသာပေးတတ်သောဆောင်ရွက်ခြင်းသည်၊လျှော့ည့်ရှိသော်လည်း၊ ကြွဲ်စောခြင်းမလွှတ်မကင်း။ ဖြောင့်မတ်သောတရားစပြုစုတတ်သောဆောင်ရွက်ခြင်းသည်၊ သာ၍ကြွဲ်စောထင်ရှားလမည်။

Gospel. Luke x. 23—37.

သံလုကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ တပည့်တော်တို့အားဤသို့အမိန့်တော်ရှိသည်။ သင်တို့မြင်ရသောအရာများကို၊ မျက်စိဖြင့်မြင်ရသောသူသည်၊ ကျေးဇူးအထူးကိုခံရသည်။ ငါသင်တို့အားဟောပြောသည်။ သင်တို့မြင်ရသည်အရာကို၊ ရှေးပရောဖက်တရှင်ဘုရင်အများတို့သည်၊တွေ့မြင်လိုလျက်၊ မတွေ့မမြင်ရ။ သင်တို့ကြားရာကိုကြားလိုလျက်မကြားရ။ ထိုအခါ၌၊ ကျမ်းတတ်တဦးသည်၊ စုံစမ်းလိုသောအကြံနှင့်၊ ထလာ၍၊ ဆရာတော်သခင်၊ အဘယ်သို့သောအကျင့်ဖြင့်၊ခကုံနိုင်သောအသက်ရှင်ခြင်းချမ်းသာ

ကိုရပါမည်နည်းဟုလျှောက်၏။ သခင်ယေရှုးလည်း၊ ကျမ်းတွင်အဘယ်သို့ရေးမှတ်လျက်ရှိသနည်း။ သင် အဘယ်သို့တွေ့မြင်ဖတ်ဘူးသနည်းဟု ကျမ်းတတ် သူအားမေးတော်မူ၏။ ထိုကျမ်းတတ်သူကလည်း၊ သင်၏အရှင် ဖြစ်တော်မူသော ဘုရားသခင်အား၊ စိတ်နှစ်လုံးမကွက်မယွင်း အသက်နှင့်တကွအား ထုတ်ခြင်း၊ ပညာအစွမ်းရှိသောသမျှဖြင့် ချစ်လေး မြတ်ခြင်းရှိပါသော။ သင်၏အနီးဖြစ်သောသူတပါး ကိုလည်း၊ ကိုယ်ရှင်ကဲ့သို့ချစ်ပါလောဟု လျှောက် သော်။ သခင်ယေရှုးလည်း၊ သင်၏စကားသင့်လှပေ သည်။ ဤသို့ကျင့်လျှင်၊ အသက်ရှင်ခြင်းချမ်းသာကို ရလိမ့်မည်ဟုအမိန့်တော်ရှိ၏။ ထိုကျမ်းတတ်သူလည်း၊ သူတော်သူမြတ်အယုံပြုလျက်၊ တဖန်၊ သခင်ယေရှုး အား လျှောက်မေးပြန်သည်။ အကျွန်ုပ်၏အနီးဖြစ် သော၊ သူတပါးဆိုသည်ကား၊ အဘယ်သူနည်း။ သ ခင်ယေရှုးသည်၊ ထိုကျမ်းတတ်စကားကိုထောက် ခွဲယူ၍၊ ဤသို့သောဥပမာကိုဟောတော်မူသည်။ သူ တဦးသည်၊ ယေရုသလင်မြို့မှယေရိကိုးမြို့သို့၊ ဆင်း သွားသည်တွင်၊ လမ်းခရီး၌၊ သူခိုးဓါးမြနှင့်တွေ့ကြုံ လေ၏။ ထိုသူ၌ပါသောဥစ္စာရှိသမျှတို့ကိုလုယူပြီး လျှင်၊ နာကျင်စွာထိုးခုတ်သဖြင့်၊ သေလုနီးမျှဖြစ်ထား လျက်၊ သွားကြလေသည်။ ထိုအခါ၊ ထိုခရီးလမ်းသို့ ရဟန်းတပါးဆင်းရောက်လာလျှင်၊ ထိုနာကျင်စွာရှိ သောသူကိုမြင်လျက်၊ လွှဲသွားလေ၏။ ထိုအတူ၎င်၊

ရဟန်းပဇင်းငယ်တပါးလည်း၊ ထိုအရပ်အနီးအစပ် ရှိလျှင်၊ ထိုသူကိုမြင်လျက် လွဲလွှံ၍သွားပြန်လေသည်။ သမာရိယမြို့သားတယောက်သည်ခရီးသွားရာတွင်၊ ထိုနာကျင်စွာရှိသောသူ၏အနီးသို့ရောက်၍ တွေ့မြင်ရလျှင်၊ ချစ်ခင်သနားခြင်းစိတ်နှင့်၊ အပါးအရင်းသို့ချဉ်းပြီးလျှင်၊ အနာထဲသို့ဆီနှင့်စပျစ်ရည်ကိုထည့်သဖြင့်၊ အနာတို့ကိုအဝတ်နှင့်စည်း၍၊ ပါသည့်မြင်း၌တင်ပြီးသော်၊ ထမင်းကျွေးတဲအိမ်သို့ယူသွား၍၊ လုပ်လွှအားထုတ်ခြင်းနှင့်ကုမပြုစုလေသည်။ တနေ့နောက်၊ ငွေနှစ်သပြာထုတ်၍၊ အိမ်ရှင်ကိုအပ်ပေးသဖြင့်၊ ဤသို့မှာထားသည်။ ဤသူကိုလုပ်လွှအားထုတ်ကုပါ။ ယခုအပ်ပေးသည့်ကျေးငွေပြင်၊ အချားကုံလေသမျှကို၊ အကျွန်ုပ်ပြန်သည့်ကာလ၊ ကုံစင်အောင်ဆပ်ပေးပါမည်ဟုဆိုလေသည်။ သင်အဘယ်သို့ထင်သနည်း။ သူခိုးဓါးမြလက်သို့ကြရောက်သောသူနှင့်၊ ထိုသုံးဦးတို့တွင်၊ အဘယ်သူသည်သာ၍နီးစပ်ခြင်းဖြစ်သနည်းဟု သခင်ယေရှုး မေးတော်မူလျှင်။ ထိုကျမ်းတတ်သူကလည်း၊ ထိုသူနာကိုသနားအဖြင့်ပြုစုသောသူသည်၊ သာ၍နီးစပ်သောသူဖြစ်သည်ဟုလျှောက်၏။ သခင်ယေရှုးလည်း၊ သင်သွား၍ဤကဲ့သို့ပြုလေလောဟုမိန့်တော်မူ၏။

——00——

## THIRTEENTH SUNDAY AFTER PENTECOST.

## သပိရိတူးသံတူးပွဲနေ့နောက် တေရသတနင်္ဂနွေနေ့။

### Epistle. Gal. iii. 16—22.

### သံပေါက်လူးဂါလတာမြို့သားတို့အားရေးထား သောဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ယခု၊အာဘရဟာမ်မှစ၍၊အာဘရဟာမ်အမျိုးအနွယ်အားဝန်ခံခြင်းရှိသည်။ အာဘရဟာမ်အမျိုး၌၊ အများသောသူတို့ကိုရည်မှတ်တော်မူ၍မိန့်တော်မူသည်မဟုတ်။ သင်၏အမျိုးအနွယ်ဟုတယောက်သောသူကိုမှတ်တော်မူ၏။ ထိုအနွယ်အားတယောက်သောသူကား၊ ကရိသျှတူးတည်း။ ထိုသို့ဆင ချင်ခြင်းဖြင့်၊ ဤတခွန်းသော ငါဆိုချင်ပါသည်။ ဘုရားသခင်သဟာယတ ချုက်ဖွဲ့တော်မူပြီး။အနှစ်၄၃၀နောက်ကိုပေးသနားတော်မူသည်။ကျမ်းတရားသည်၊ထိုသဟာယမပြတ်မကင်းနိုင်။နုတ်တော်ထွက်ဂတိလည်း၊မပျက်နိုင်။ ထိုမှတပါး၊ ကျမ်းဟောင်းတရားဖြင့်ဤအမွေတော်ကို ငါတို့ခံသည်မှန်လျှင်၊ နုတ်တော်ထွက်ဂတိဖြင့်၊ ထိုအမွေတော်ကိုခံရသည်မဟုတ်။ ယခုမှာ၊ ဤအမွေတော်ကိုနုတ်တော်ထွက်ဂတိဖြင့်ဘုရားသခင်သည်အာဘရဟာမ်အားပေးတော်မူပြီး။ ဧကံဖြစ်သည်။ သို့မှန်ပြီးမှ၊ ကျမ်းဟောင်းတရားသည် အဘယ်အကြောင်းဖြင့်ရှိသနည်း။ ဂတိတော်ကိုခံသောအမျိုးအနွယ်မဖြစ်မည်တိုင်အောင်၊

အပြစ်ဒုစရိုက်ကြောင့်၊ ထိုတရားကိုပေးတော်မူ၏။ ဤအကြောင်းဖြင့်လည်း၊ သိကြားတို့ စေခံဆောင်ရွက်ခြင်းနှင့်ကိုယ်စားတပါးဖြင့်၊ ဤတရားကိုအပ်နှံချထားတော်မူ၏။ ကိုယ်စားဆိုသည်မှာ၊ လူတယောက်တည်းသာမဟုတ်။ ဘုရားသခင်လည်း၊ တဆူသာရှိ၏။ဘုရားသခင်ချထားသောဂတိတော်နှင့်၊ ကျမ်းဟောင်းတရားသည် ဆန့်ကျင်ဘက်ပြုလေသနည်းမဟုတ်ပါ။ ချထားသောကျမ်းဟောင်းတရားသည် အသက်ရှင်ခြင်းချမ်းသာကိုပေးနိုင်ဘူးသည်မှန်လျှင်၊ လူတို့၌ရှိသောဖြောင့်မတ်ခြင်းကိုအကယ်၍ပေးနိုင်ပါလိမ့်မည်။သခုမူကားယုံကြည်သောသူတို့သည်၊ ယေရှုးကရိသျှတူး၌ယုံကြည်ခြင်းအားဖြင့်ဂတိတော်ရပါသည်ဟု သိမှတ်စိမ့်သောငှါ၊ လူအပေါင်းတို့အပြစ်တို့အောက်မှာခံနေကြောင်း၊ ကျမ်းဂံနတ်ကပါတ်တော်ထင်ရှားစွာပြုသည်။

## Gospel. Luke xvii. 11—19.

## သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ ယေရုသလင်မြို့သို့ကြွတော်မူစည်၊ သမာရိယနှင့်ဂါလိလေအားနိုင်ငံတို့၏အလယ်သို့ဖြတ်၍ရှောက်တော်မူ၏။ လမ်း၌ရှိသည့်ရွာတရွာသို့ဝင်တော်မူတွင်၊ ခရိုးမှ၊နူဝဲသောလူတကျိပ်တို့သည်ကျိုဆိုလာ၍ အဝေးမှရပ်နေကြလျက်၊ ယေရှုးဆရာတော်သခင်၊ အကျွန်ုပ်တို့အား

ကာယ်မတော်မူပါဟုအသံပြု၍ ဟစ်ကျော်လျှောက်ကြ၏။ သခင်ယေရှုလည်း၊ ထိုသူတို့ကိုမြင်တော်မူ၍အမိန့်တော်ရှိသည်။ သင်တို့သွား၍ကိုယ်၌စွဲသောရောဂါအနာကို၊ ရဟန်းသင်္ဃာတို့အားပြကြလော့ဟုမိန့်တော်မူသော်၊ ထိုသူတို့သွားကြစဉ်၊ မိမိတို့ကိုယ်၌ရောဂါအနာအကြေးအညှော်တို့သည် သန့်ရှင်းကင်းပြောက်လေ၏။ ထိုတကျိပ်တွင်၊ တယောက်သည် သန့်ရှင်းကင်းပြောက်သောအဖြစ်ကိုသိမြင်လျှင်၊ ဘုရားသခင်ကျေးဇူးတော်ကို အသံဖြင့်၊ ဟစ်ကျော်ချီးမွမ်းသဖြင့်၊ ပြီလည်၍ခြေတော်ရင်း၌မြေတွင် အပ်သောမျက်နှာဖြင့် ဦးညွှတ်တွားလျက်၊ ကျေးဇူးတော်ကြီးမြတ်သောအဖြစ်ကို လျှောက်ထားလေ၏။ ဤသူသည်ကား၊ သမာရိတာနုတည်း။ သခင်ယေရှုလည်း၊ ဤသူကိုမြင်တော်မူလျှင် ဤသို့မေးတော်မူသည်။ တကျိပ်သောသူတို့ရောဂါအနာလွတ်ကြသည်မဟုတ်လော။ သို့ရာတွင်၊ ကိုးယောက်သောသူတို့အဘယ်မှာရှိသနည်း။ ထိုအစုတွင်၊ ဘုရားသခင်ကျေးဇူးတော်ကို ထင်မှတ်ပြောဟောတတ်သော၊ ဘာသာကွဲဤသူတယောက်ပြင်မရှိရပြီ။ ထိုသူအားလည်း၊ သခင်ယေရှုသည်၊ သင်ထ၍သွားလော့။ သင်၌ယုံကြည်ခြင်းကြီးလှ၍ချမ်းသာရသည်ဟုမိန့်တော်မူသည်။

——၀၀——

## FOURTEENTH SUNDAY AFTER PENTECOST.

## သပိရိတူးသံတူးပွဲနေ့နောက်စတုရာဒသ ထနင်္ဂနွေနေ့။

### Epistle. Gal. v. 16—24.

### သံပေါလ်လူးဂါလတာမြို့သားတို့အားရေးထားသောဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ရုတ်ကင်းသောနံတရားနှင့်အညီသင်တို့ကျင့်ဆောင်ကြလျှင်၊ ရုတ်အသားတရား၏တတ်မက်ခြင်းနောက်သို့မလိုက်ကြလတ္တံ့။ ရုတ်အသားတရား၏တောင့်တခြင်း၊ နံတရား၏တောင့်တခြင်းအချင်းချင်းမသင့်တိုက်လံကြသည်။ နံအသက်ကိုတောင့်တခြင်းလည်း၊ ရုတ်အသားကိုတောင့်တခြင်းနှင့် ခိုက်ရံဆိကြသည်။ သင်တို့ပြုလိုရာမပြုအောင်တတ်စွန်းခြင်းဆန့်ချင်ဘက်ရှိကြသည်။ ရုတ်ကင်းနံတရားအလိုကို လိုက်၍ကျင့်လျှင်၊ ကျမ်းဟောင်းတရားအောက်သင်တို့ကျွန်အဖြစ်ခံသေးသည်မဆိုရပြီ။ ယခု၊ ရုတ်အသားမှဖြစ်သောအကျင့်မှုလကိုသိလွယ်သည်။ ထိုအကျင့်တို့သည်ကား၊ ရာဂဋ္ဌကျူးလွန်ခြင်း၊ ကိုင်တွယ်သာယာခြင်း၊ မလျှောက်ပတ်သောအမှုပြုခြင်း၊ မဟုတ်မမှန်ဘဲလျက် ကိုးကွယ်ခြင်း၊ သူတပါးကိုပြုစားခြင်း၊ ရန်ညှိုးဖွဲ့ခြင်း၊ ညင်းခုံခြင်း၊ မသင့်တင့်ကြခြင်း၊ အချင်းချင်းကွဲပြားခြင်း၊ အမျက်မာနဒေါသကြီးခြင်း၊ ဂုဏ်းတိုက်အ

ပြစ်ရှာပြုခြင်း၊ သင်းခွဲခြင်း၊ ဖြောင့်သောသူအယူ၌ မှားယွင်းခြင်း၊မနာလိုခြင်း၊သူကိုအသေသတ်ခြင်း၊ အသောက်၌လွန်စွာပြုခြင်း၊အစား၌အင်မတံအောင် စားခြင်းမှစ၍ ဤကဲ့သို့အချားကျူးလွန်ခြင်းသည်၊ ဤအရာများကိုအကြောင်းပြု၍ သင်တို့ကိုပွင့်လင်းစွာ၊ငါဟောပြောသကဲ့သို့၊ယခုလည်း၊ ကျတ်တည်း ထင်ရှားစွာပြောဟောပြန်သည်။ထိုသို့ကျင့်သသူတို့၊ ဘုရားရှင် ရွှေနိုင်ငံတော်အမွေကို မခံမစံစားရှိလ မည်။ သဗိရိတူးဝိညည်တော်၏အကျင့်သည်ကား၊ ချစ်မြတ်နိုးခြင်း၊ညစ်ညူခြင်းမရှိ။ဝမ်းမြောက်ခြင်း၊ နှစ်လုံး၌ငြိမ်ဝတ်စွာနေခြင်း၊ ဆင်းရဲချိုးချံခြင်း၊ သ နားသဖြင့်ပေးကမ်းဆောင်ရွက်ခြင်း၊ ကောင်းမြတ် သည်ကိုအမြဲစွဲခြင်း၊ အစည်နှစ်လုံးစိတ်ရှည်ခြင်း၊ နှစ်လုံးနုညွံ့သိမ်မွေ့ခြင်း၊ ယုံကြည်ခြင်း၊ ဣန္ဒြေချုတ် တည်ခြင်း၊ကာမမှု၌ဆင်ချင်ချုတ်တည်ခြင်း၊ကာမ၌ မတတ်ကြည်ခြင်းတို့သည်၊သဗိရိတူးအကျင့်တည်း။ ထိုသို့ကျင့်ဆောင်သသူ၌၊ အပြစ်ပေးသောတရားမ ရှိ။ ယခု၊သခင်ယေရှုးကရိသျတူးနှင့်ဆိုင်သသူတို့၊ ကိုယ်အသားမှစ၍ မကောင်းသောစိတ်မွေ့လျော်ခြင်း၊ မတော်မသင့်အရာစုံမက်ခြင်းတို့ကိုတံကျင် လျှိုသကဲ့သို့၊ ငြိမ်ဝတ်စွဲလျက် ထားလေကုန်သ တည်း။

## Gospel. Matt. vi. 24—33.

သိမ္မာတဲအူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ တပည့်တော်တို့အားအမိန့်တော်ရှိသည်။ မည်သူတယောက်မျှ၊ သခင်နှစ်ဦးအစေကိုမခံနိုင်။ သခင်တဦးမုန်းတားလျှင်၊ တဦးချစ်လေးမြတ်လမည်။ တဦးအာဏာမဆံဝန့်ထဲနေလျှင်၊ တဦး၌မနိုင်မနိုင်မကြည်မညိုရှိလမည်။ သင်တို့၊ ဘုရားသခင်အစေနှင့်စည်းစိမ်ဥစ္စာတို့၏အစေကိုမခံနိုင်။ ထိုကြောင့်၊ သင်တို့အားငါမြွက်ဆိုသည်ကား။ အသက်မွေးခြင်းအမှု၌အဘယ်သို့စားသောက်ရမည်၊ အဘယ်သို့ဝတ်ရမည်ကို၊ သင်တို့စိတ်၌ပူပန်ခြင်းမရှိစေလင့်။ အစားထက်၊ အသက်မမြတ်သလော။ အဝတ်ထက်လည်း၊ ကိုယ်မမြတ်သလော။ ကောင်းကင်သို့ ပြံသွားသော ငှက်သတ္တဝါတို့ကိုကြည့်ရှုကြကုန်။ ထိုသတ္တဝါတို့သည်၊ စားတို့တစုံတခုမျှမျိုးမကြဲ။ အသီးတို့ကိုမသိမ်း။ ကျီ၌မသိုမသွင်း။ မိုဃ်းကောင်းကင်၌ရှိသောသင်တို့အဖ၊ ထိုသတ္တဝါတို့ကို၊ ကျွေးမွေးတော်မူသည်။ ယခုမှာ၊ သင်တို့၊ ထိုသတ္တဝါတို့ထက်မသာမမြတ်သလော။ သင်တို့တွင်၊ မိမိကိုယ်အရတ်ကို၊ တတောင်မျှတိုးပွားမြင့်အောင်တတ်အားသမျှကြံစည်၍နိုင်အံ့သလော။ အဝတ်မှု၌အဘယ်ကြောင့်စိတ်ပူပံကြသနည်း။ တော၌နှင်းပန်းအပင်တို့ကို၊ ကြီးပြင်းသည်အရာကိုအောင်းမေ့ကြ

လော။ ထိုပန်းပင်တို့သည်မလုတ်မဆောင်မငင်မဝင်ဘဲလျက်၊ သာလမပေါင်မင်းကြီးဘုန်းကျက်သရေအလွှန်ကြီးသော်လည်း။ ထိုပန်းပင်တို့တွင်၊ တပင်မျှလောက်ကဲ့သို့အဝတ်တံဆာမဆင်နိုင်ဟုငါသင်တို့အားမြွက်ဆိုသည်။ ဤအချက်စကားအမှန်ဖြစ်သည်။ ယခုမှာ၊ ယနေ့ရှင်လျက် နက်ဖန်မီးမွေးယာမီးတိုက်၌တည်သောမျက်ပင်ကိုမျှ၊ဘုရားသခင်ဤလောက်အဝတ်ဖြင့်၊ ဖုန်းလွှမ်းတော်မူသည်။ သည့်မျှသာမက၊ ယုံမှတ်ခြင်းနည်းသောသင်တို့အား၊ဘုရားသခင်ပေးသနားတော်မူလမည်။ ထိုကြောင့်အဘယ်သို့ စားသောက်ရမည်၊ အဘယ်သို့ဝတ်ရမည်ကို စိတ်ပူပံခြင်းမရှိကြလေလင့်။ ဤဆိုလေသမျှကို၊ဇာတိအရူးလူမျိုးတို့သည်ရှာဖွေတတ်ကြ၏။ သင်တို့မူကား၊ ဤအရာများကိုသင်တို့အသုံးလိုကြောင်းကို၊ သင်္တို့အဖသိမြင်တော်မူလေသည်။ ထိုကြောင့်၊ဘုရားသခင်နိုင်ငံတော်၊ ဖြောင့်မတ်သောအကျင့်၊ ဤနှစ်ပါးကိုရှေ့ဦးစွာရှာကြလေကုန်လော။ နောက်မှ၊ ဤအလိုရှိသောအရာတို့ကိုလည်း၊ ထပ်၍ပေးတော်မူလမည်။

——oo——

## FIFTEENTH SUNDAY AFTER PENTECOST.

## သပိရိတူးသီတူးပွဲနေ့နောက် ပဉ္စဒသတနင်္ဂနွေနေ့။

### Epistle. Gal. v. 25; vi. 1—10.

### သံပေါက်လူးဂါလတာမြို့သာတို့အားရေးထားသောဆုမ္ဗစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ အသက်ဝိညည်ဖြင့်ငါတို့ရှင်ကြသည်မှန်ပြီးမှ၊ ဝိညည်၌ရှိသောတရားနှင့်အညီကျင့်ဆောင်ကြစို့။ အချင်းချင်းညင်းခုံရန်ရှာမနာလိုခြင်းစိတ်စွဲ၍၊ အတွက်မဲ့ဂုဏ်အသရေ တတ်စွန်းခြင်း၊ငါတို့သို့ဒပါမဝင်စေနှင့်။ညီအစ်ကိုယ်တို့။ လူသားတဦးသည်နှမ်းရိခြင်းဖြင့်၊ တငုံတခုကျူးလွန်ခြင်းကိုပြုမိလျှင်၊ ဖြည်ညှင်းစွာထိုသူအားနေသောသင်တို့သည်၊ မစရုအောင်၊ လုလ္လပြုကြ။ ထိုအတူ၊ အနှောင့်အရှက်ကိုသင်တို့ခံနိုင်ပါမည်ဟု ဆင်ချင်အောင်းမေ့ကြကုန်။ တယောက်က တယောက်ကိုဝန်ချင်းထမ်းရွက်ကြ။ ထိုသို့၊ သခင်ယေရှူးကရိသ္တုတူးတရားတော်ကို၊ ကုံစင်စွာကျင့်ကြလမည်။ မိမိကိုယ်တစုံတခုပြစ်သည်ကိုထင်သသူ၊ မည်သည်မျှမဟုတ်သောကြောင့်၊ မိမိကိုယ်ကိုလှည့်စားသောသူဖြစ်၏။ လူတိုင်း၊ မိမိအချင်းအရာကိုစေ့စေ့သတိနှင့်စစ်ကျောစေ။ သို့ပြုလျှင် သူတပါး၌မဟုတ်၊ မိမိကိုယ်တွင်ပင်ဂုဏ်ပြုရာကိုတွေ့လမည်။ ထိုအခါ၊သူတိုင်း၊မိမိဝန်ကိုအသီးသီးရွက်လမည်။ဟုတ်မှန်သောတ

ရားစကားဖြင့်ဆုမ္ဘွန်သင်ခြင်းကိုခံရသသူ၊ မိမိရတတ်သမျှကိုဆုမ္ဘွန်သင်သသူအား၊ ဝေဌပါစေ။ သင်တို့၊ မမှားမယွင်းကြနှင့်။ ဘုရားသခင်သည်မထီမဲ့မြင်ပြုခြင်းကိုခံတော်မမူ။ လူတို့မျိုးကြဲသည်ပြင်၊ အချားမသိမ်းမယူရ။ ထိုကြောင့်၊ ကိုယ်အသား၌ကြဲသသူသည်၊ ဆွေးမြေ့ပုပ်စပ်ခြင်းကို၊ မိမိကိုယ်အသားမှသိမ်းလမည်။ ဝိညာဉ်၌ကြဲသသူကား၊ မကုံနိုင်သောချမ်းသာကိုဝိညာဉ်မှ၊ သိမ်းယူလမည်။ ထိုကြောင့်ကောင်းသည်အမှုအကျင့်ကိုမကျင့်ဘဲ၊ မရှိစေနှင့်။ စိတ်မရွေမလျော့မပြတ်လျှင်၊ တော်သင့်သောအချိန်၌ အသီးအနှံကိုအမှန် သိမ်းယူတော့မည်။ ထိုကြောင့်သင့်သောနေ့အချိမ်ရှိစဉ်၊ သူတကာတို့အား ကောင်းကျိုးများကို ပေးကမ်းဆောင်ရွက်ကြသော်။ ယုံကြည်ခြင်းဖြင့်အိမ်သူအိမ်သားတို့အားရှေ့ဦးစွာကျေးဇူးပြု၍အားထုပ်ကြကုန်။

## Gospel. Luke vii. 11—16.

### သံလုကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ နာဣမအမည်တွင်သောမြို့သို့ကြွတော်မူလျှင်၊ တပည့်တော်တို့နှင့်များစွာသောလူအပေါင်းတို့သည် အတူတကွလိုက်ကြ၏။ ထိုမြို့တခါးအနီးသို့ရောက်လျှင်၊ တယောက်တည်းသားရှိသောအမိ၏၊ သားအလောင်းကိုပြင်သို့ထုတ်ကြသည်။ ထိုအမိသည်ကား၊ မုတ်ဆိုးမဖြစ်

ဖြစ်သည်။ ပုတ်ဆိုးမနှင့်အတူ၊ များစွာသောထိုမြို့သားတို့ပါကြကုန်၏။ ဘုရားသခင်သည်ပုတ်ဆိုးမကိုမြင်တော်မူပြီးမှ၊ အကြောင်းကိုဆင်ချင်တော်မူ၍၊ သနားတော်မူခြင်းစိတ်တော်ရောက်၍သင်သည်၊ ငိုးရိမ်ငိုကြွေးခြင်းကိုမပြုလင့်ဟုမိန့်တော်မူပြီးမှ၊ ပည့်တလားအနီးသို့ကြွတော်မူ၍လက်တော်ဖြင့်ထိုတလားကိုတို့တော်မူ၏။ ထမ်းသောသူတို့သည်ရပ်နေကုန်သည်။ ကိုယ်တော်မြတ်လည်း၊ အချင်းသားငယ်၊ ငါအမိန့်တော်ရှိသည်၊ ထလောဟုဆိုတော်မူလျှင်၊သေသောသားငယ်ထ၍ထိုင်နေလျက်စကားပြောစ၏။ သခင်ယေရှုသည်ထိုသူကို၊ အမိအားအပ်ပေးတော်မူသည်။ လူအပေါင်းတို့လည်းကြောက်ရွံ့တုံလှုပ်ခြင်းဖြင့်၊ ငါတို့တွင်၊တန်ခိုးအာနုဘော်နှင့်ပြည့်စုံသော ပရောဖက်တပါးပေါ်ထွန်းချေပြီး၊ မြတ်နိုးသောလူမျိုးတို့ကိုလည်း၊ ဘုရားသခင်သနားတော်မူသဖြင့်ကြည့်ရှုတော်မူချေပြီး၊ ဟုဘုရားသခင်ကျေးဇူးတော်ကိုချီးမွမ်းကြကုန်၏။

—00—

## SIXTEENTH SUNDAY AFTER PENTECOST.

## သခင်ခရစ်တော်ကိုဘုရားသခင်ကိုလ်တော်းကသည့်မှာ

သပိရိတူးသံတူးပွဲနေ့နောက်သော၁၆သတနင်္ဂနွေနေ့။

### Epistle. Ephes. iii. 13—21.

သံပေါက်လူးအဲဖဲသူမြို့သားတို့အား၊ ရေးထားသောဆုမ္ဘတာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါသည်သင်တို့ကို၊အသာရေပြုသောငါ့ဆင်းရဲခြင်းကိုမြင်ရလျှင်၊သင်တို့စိတ်မရှေ့မလျော့စေခြင်းငှါ၊ မြဲမြံစွာတောင်းပန်လေသည်။ ထိုကြောင့်၊မိုဃ်းမြေတို့၌ရှိသောသူအပေါင်းတို့၊အလွန်ကျယ်ဝန်းသောအိမ်ထောင်ကြီးကဲ့သို့၊ အချုပ်အရင်းဖြစ်တော်မူသောငါတို့သခင်ယေရှုးကရိသ္တုတူး၏ခမည်းတော်ရှေ့၊ဒူးထောက်ဝပ်ပြတ်မြဲစွဲသည်ဆုတောင်းသောအချက်သည်ကား၊ဘုန်းအာနုဘော်တော်ပြည့်စုံရခြင်းနှင့်အညီ၊သပိရိတူးတန်ခိုးတော်အားဖြင့်သင်တို့အတွင်း၌ရှိသောသူခိုင်လုံစွာပြုမည်အကြောင်း၊ ချစ်လေးမြတ်ခြင်း၌၊သင်တို့နှစ်လုံးထဲ၌ယေရှုးကရိသ္တုတူးသခင်ကျိန်းဝပ်မည်အကြောင်း၊ ချစ်လေးမြတ်ခြင်း၌၊ သင်တို့စိုက်လျက်အမြစ်ကြသကဲ့သို့ရှိ၍၊သံတူးရဟန္တာအပေါင်းတို့နည်းတူ၊ဘုရားသခင်ကျေးဇူးတော်၏အနံ၊အလျား၊အောက်၊အနက်ကိုပိုင်းခြားသိနိုင်မည်အကြောင်း၊ ညာဏ်အပေါင်းတို့ကိုသာလွန်သော၊ သခင်ယေရှုး၏မေတ္တာတော်ကိုသိနားလည်မည်အကြောင်း၊ ဘုရားသခင်

အာ့ဂျက်ကျေးဇူးအပေါင်းနှင့် ပြည့်စုံစွာရမည်အ
ကြောင်း၊ ဟုတောင်းလျှော်သောအချက်တို့တည်း။
ငါတို့၌ ပြုပြင်သောတန်ခိုးတော်အတိုင်း၊ ငါတို့
တောင်းပန်အောင်းမေ့သမျှထက်အလွန်ထူးခြားစွာ
ပြုပြင်ခြင်းငှါ တတ်နိုင်တော်မူသောဘုရားသခင်
သည်၊ ယေရှုးကရိသျှတူအားဖြင့်၊ အသင်းတော်
အထဲ၌ကမ္ဘာအဆက်ဆက် ဘုန်းကျော်သရေဖြစ်
စေသတည်း။ အာမင်။

Gospel. Luke xiv. 1—11.

သံလူကားရေးသားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်၊ စနေနေ့၌ပေါင်
မုန့်ဖုန်းပေးအံ့သောငှါ၊ ဖါရိသယ်အုးတို့အကြီးတ
ပါးအိမ်သို့ဝင်တော်မူလျှင်၊ ကိုယ်တော်၏အကျင့်
အနေကို၊ ဖါရိသယ်အုးတို့သည်ချောင်းမြောင်းကြည့်
ရှုကြကုန်၏။ ထိုအိမ်၌၊ သခင်ယေရှုး၏ရှေ့တော်တွင်၊
ကိုယ်ရောင်နာစွဲသောသူရှိ၏။ သခင်ယေရှုးလည်း၊
နှုတ်တော်မြွက်၍ကျမ်းတတ်ဖါရိသယ်အုးတို့အား
အမိန့်တော်ရှိသည်။ စနေနေ့၌၊ သူတပါးအားချမ်း
သာကုမအပ်သလော၊ ဟုမေးတော်မူသော်၊ ဖါရိ
သယ်အုးတို့သည်တိတ်ဆိတ်နေကြကုန်၏။ သခင်
ယေရှုးလည်း၊ ထိုသူနာကိုလက်တော်ဖြင့်ဆွဲ၍၊ ပက
တိချမ်းသာပေးပြီးမှ၊ အခွင့်ပေး၍လွှတ်တော်မူ၏။
ကျမ်းဖါရိသယ်အုးတို့အားလည်း၊ အမိန့်တော်ရှိပြန်

သည်။ သင်တို့၌မြည်းဖြစ်စေ၊ နွားဖြစ်စေ၊ တွင်းထဲ
သို့ကျသည့်လျှင်၊ ဥပုသ်နေ့၌မည်သည့်သူအဆွဲထုတ်လျှင်
မထုတ်မယူဘဲ၊နေမည်လော။ ထိုသူတို့လည်းတခွန်း
မျှမပြန်နိုင်။ ထိုအခါ၊ သခင်ယေရှုကား၊ ပင့်ဖိတ်
သောသူတို့သည်၊ အလျှင်အဦးနေရာကိုရွေးချယ်
သည်ကိုမြင်တော်မူလျှင်၊ ဥပမာဖြင့်ခင်းကျင်း၍ထို
သူတို့အားအမိန့်တော်ရှိသည်။ သူတပါးသည်ထိမ်း
မြားလက်ထပ်ပွဲသို့သင်ကိုပင့်ဖိတ်သောအခါ၊ အ
လျှင်အဦးနေရာ၌မထိုင်လင့်။ အဘယ်ကြောင့်နည်း၊
ပွဲရှင်သည် သင်ထက်မြင့်မြတ်သောသူကို ဖိတ်၍
ရောက်လာလျှင်၊ ဤသူနှင့်သင်ကိုဖိတ်သောပွဲရှင်
သည်၊ ဤသူအားနေရာပေးလော၊ ဆိုသည့်ကာလ၊
ရှက်ဖွယ်သောအရာနှင့် ညံ့သောနေရာ ဆင်းနေရ
တော့မည်။ ထိုကြောင့်၊ သူတပါးသည်သင်ကိုပင့်
ဖိတ်သောအခါ၊ သွား၍အဆုံးညံ့သောနေရာ၌ထိုင်
နေလော။ ဤကဲ့သို့ပြုမှ၊ သင်ကို၊ ဖိတ်သောသူကဝင်
လာရှိသော်၊ အဆွေ၊ အထက်ကိုတက်လော၊ဟုဆို
သည့်ကာလ၊ ထိုင်နေခြင်းအတူရှိသောသူတို့ရှေ့၊
ဂုဏ်အာသရေသင်၌ရှိလမည်။အကြောင်းအသို့နည်း။
မိမိကိုယ်ကိုပလွှားရအံ့သောသူ၊ အောက်သို့ချရလ
မည်။မိမိကိုယ်ကိုနှိမ့်ချရအံ့သောသူ၊အထက်သို့ပင့်
မြှောက်ရလမည်။

——00——

## SEVENTEENTH SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်သတ္တရသတနဂ်နွေနေ့။

## Epistle. Ephes. iv. 1—6.

### သံပေါက်လူးအဲဖဲသူမြို့သားတို့အားရေးထားသော ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ဘုရားရှင်အမှုတော်ကြောင့်၊သံချေချင်းနှင့်ချည်နှောင်ရှိသောငါသည်၊ သင်တို့ကို ရွေးနုတ်ခေါ်သောဘုရားရှင်ကျေးဇူး ထိုက်လျောက်အောင်၊ သင်တို့ကျင့်ရမည့်အကြောင်း၊များစွာတိုက်တွန်းနှိုးဆော်ပါသည်။ နှိမ့်ချရိုဝတ်ခြင်းနှင့်၊သိမ်မွေ့နုခြင်းညွှတ်ခြင်း၊သည်းခံခြင်းကိုစောင့်ရှောက်ကြ။ချစ်ခင်သနားခြင်းဖြင့်၊ တယောက်ကိုတယောက်ထောက်ပံ့ကြ။ အသင့်အတင့်ပေါင်းရှက်ခြင်း၌၊ထုမ်းဖွဲ့သကဲ့သို့တလုံးတည်းစိတ်နှစ်လုံးထဲ၌ရှိအောင်၊ အားထုတ်ကြ။ သင်တို့ကိုခေါ်သွင်းတော်မူ၍ပေးသနားတော်မူသော စောင့်ရှောက်ခြင်းနှင့်အတူ တလုံးတည်းရှိသကဲ့သို့၊သင်တို့တကိုယ်တသက်တည်းရှိအောင်၊ ဗိရိယပြုကြ။ ငါတို့ရှိသမျှကိုသခင်တပါး၊ယုံကြည်ခြင်းတခု၊ ရေဖြင့်ဆေးကြောခြင်းတပါး၊ဘုရားသခင်တဆူ၊ ငါတို့အပေါ်မှာရှိတော်မူသော၊ငါတို့အနှံ့အပြား ရှိတော်မူသော၊ ငါတို့ရှိသမျှ၌ကျိန်းဝပ်နေတော်မူသောအဖပြင်တပါးမရှိ။ ဤသခင်သည်ကား၊ ကာလအခါရှိတိုင်း၊ ချီးမွမ်းမြှောက်စားရှိသည်ဖြစ်စေသော။

## Gospel. Matt. xxii. 35—46.

သံမာတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ ဖါရိသယ်အရူးတို့သည်၊ သခင်ယေရှုးသို့ချည်းကပ်ကြသည်။ ထိုသူတို့တွင်၊ ကျမ်းတတ်တယောက်သည်နှောင့်ရှက်လိုသောစိတ်ဖြင့် ကိုယ်တော်ကိုမေးလျှောက်သည်။ ဆရာတော်သခင်၊ ကျမ်း၌အဘယ်မည်သောပညတ်တော်သည်အလွန်မြတ်သနည်းဟုလျှောက်သော်၊ သခင်ယေရှုးလည်း၊ သင်၏အရှင်ဘုရားသခင်ကိုစိတ်အားနှင့်တကွ၊ ပညာအစွမ်းရှိလေသမျှနှင့် ရှိသေချစ်လေးမြတ်ခြင်းရှိပါလော။ ဤပညတ်တော်သည်၊ ပဌမအဦးအထူးအလွန်ကြီးမြတ်သောပညတ်တော်ဖြစ်သည်။ နောက်ပညတ်တော်မှာ၊ သူတပါးကို၊ မိမိကိုယ်ကိုကဲ့သို့ချစ်လေးမြတ်ခြင်းရှိပါလော။ အလျှင်ပညတ်တော်နှင့်နည်းတူဖြစ်သည်။ ဤပညတ်တော်နှစ်ပါးသည်၊ ပရောဖက်တကျမ်းတရားစကားအပေါင်းတို့ အချုပ်ပင်ဖြစ်သည်။ စုရုံးလျက်နေသောဖါရိသယ်အရူးတို့အားလည်း၊ သခင်ယေရှုးမေးတော်မူသည်။ ခရစ်တူး၏အကြောင်းကို အသို့သင်တို့ထင်မှတ်ကြသနည်း။ အဘယ်သူ၏သားဟူ၍အယူရှိကြသနည်း။ ဓါဝိဒ်၏သားဖြစ်ကြောင်းကိုလျှောက်ကြသော်၊ သခင်ယေရှုးအမိန့်တော်ရှိပြန်သည်။ ဓါဝိဒ်သားတော်မှန်လျှင်၊ အဘယ်သို့ဓါဝိဒ်သည် သဝိရိတူးသံတူးတန်ခိုးတော်အား[illegible]ဖြင့်၊ [illegible]ပြောသည့်ကာလ၊ [illegible]ရှိ

သျှတူးကို သခင်ဟူ၍ခေါ်ဝေါ်သနည်း။ ကျမ်းအာ ချက်သည်ကား၊ ဘုရားသခင်သည် အကျွန်ုပ်၏သခင်အားဆိုတော်မူသည်။ သူ၏ရန်သူတို့ကိုခြေဘဝါးအောက်မှာ နေရာထိုင်ကဲ့သို့ထားမည်အချိန်တိုင်အောင်၊ ငါ၏လက်ျာဘက်မှာထိုင်နေပါလောကျမ်းအချက်တည်း။ ယခုဓါဝိဒ်သည်၊ ကရိသျှတူးကိုသခင်ဟူ၍ခေါ်ဝေါ်လျှင်၊ အဘယ်သို့ဓါဝိဒ်၏သားဖြစ်သနည်းဟု မိန့်တော်မူလျှင်၊ စကားမျှမည်သသူမပြောက်နိုင်။ ထိုနေ့မှစ၍နောက်ကာလ၌လည်း၊ မည်သသူတယောက်မျှမမေးမပြောက်ဝံ့ပြီး။



EIGHTEENTH SUNDAY AFTER PENTECOST.

သပိရိတူးသံတူးပွဲနေ့နောက်အဋ္ဌာရသတနင်္ဂနွေနေ့။

Epistle. 1 Cor. i. 4—8.

သံပေါက်လူးကောဘ်ရင်တီမြို့သားတို့အားပဌမရေးထားသောဆုဌစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါသည်သင်တို့အမှိုဘုရားသခင်ကျေးဇူးတော်ချီးမွမ်းခြင်းမေတ္တာနှင့်၊မကင်း၊ပြု၍နေသည်အကြောင်းမှာ၊ယေဇူးကရိသျှတူးသခင်မျက်နှာတော်ကြောင့်၊သင်တို့ခံရသည်ဆုကျေးဇူး။ ။ စာကြောင်းမှာ၊နှုတ်ကပါက်တော်ဆိုင်ရာရှိသမျှ၊အသိပ္ပါအခဲသောသိမြင်ခြင်း ဟူသမျှလည်း၊ ဤသခင်

ကျေးဇူးဖြင့်၊ အပြည့်အစုံရ၍များစွာကျယ်ဝသော အကြောင်းတည်း။ သက်သေတည်ခံခြင်းဖြင့်သင် တို့ကိုဟောပြောသော ယေရှုခရစ်သခင်အ ကြောင်း၊ သင်တို့တွင်ထပ်လောင်းတဖန်ထင်ရှား ဖြစ်၍၊ တင့်တယ်စွာ၍သခင်ကို မြင်ရမည်အချိန် စောင့်ငံ့နေကြသည့်တွင်၊ ဘုရားသခင်ကျေးဇူးတော် တစုံတခုမျှသင်တို့မလိုပြီး။ ငါတို့သည်သခင်ယေရှု ခရစ်တော်ကြွလာရမည်နေ့အမှီ၊ သင်တို့အပြစ်မှ သန့်ရှင်းကင်းလွတ်အောင်၊ အဆုံးတိုင်၊ ဘုရားသခင် သင်တို့ကိုမြဲမြံခိုင်မာစေတော်မူလိမ့်မည်။

Gospel. Matt. ix. 1—8.

သံမာတဲအ္ဘူးရေးထားသောကျမ်းတပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ သင်္ဘောငယ်သို့ တက်တော်မူ၍၊ ကမ်းတဖက်သို့ကူးပြန်တော်မူသ ဖြင့်၊ မိမိမြို့သို့ရောက်တော်မူလေ၏။ ထိုမြို့သားတို့ သည်၊ လက်ချေသော၍ အိပ်ရာပေါ်မှာတုံးလုံးနေ သောတယောက်ကိုဆောင်ယူကြ၍ ချေတော်ရင်း သို့ချထားကြ၏။ သခင်ယေရှုလည်း၊ ထိုသူတို့ယုံ မှတ်ခြင်းကိုသိမြင်တော်မူလျှင်၊ သူနာကို၍သို့အမိန့် တော်ရှိသည်။ သင်ချစ်သား၊ ယုံမှတ်ပါလော။ သင် ၏အပြစ်တို့ကိုလွှတ်ရသည်။ ထိုအခါကျမ်းတတ်တို့ တွင်အချို့သောသူတို့၊ ဤသူသည်ဘုရားသခင်နှင့်ထိ ပါးသောစကားကိုဆိုလေသည်ဟုစိတ်ထဲ၌ဆင်ခြင်

ပြောဆိုကြ၏။ သခင်ယေရှုလည်း၊ ထိုသူတို့ဆင်ခြင်ချက်အရာကိုသိမြင်တော်မူ၍မိန့်တော်မူသည်။ အဘယ်ကြောင့်သင်တို့နှလုံးထဲ၌မကောင်းသောအရာကိုဆင်ခြင်ကြသနည်း။ အကြောင်းနှစ်ပါးတွင် သင်၏အပြစ်တို့ကိုကညွှတ်ရသည်။ တချက်မှာ၊ သင်ထ၍သွားလော့။ ဤနှစ်ထွေစကား၌အဘယ်စကားသာ၍ပြောလွယ်သနည်း။ ယခု၊ လူ၏သားတော်ဤလောက၌အပြစ်တို့ကိုကညွှတ်ရအောင်၊ အခွင့်ရှိကြောင်းသင်တို့သိမြင်စေခြင်းငှါ၊ ချေလက်သေသောသူနာကိုအမိန့်တော်ရှိသည်။ သင်ထလော့၊ သင်၏အိပ်ရာကိုသိမ်းယူ၍ အိမ်သို့သွားလေလော့ဟုအမိန့်တော်ရှိလျှင်၊ ထိုသူနာထ၍မိမိအိမ်သို့သွားလေ၏။ လူအပေါင်းတို့လည်းဤအကြောင်းကိုမြင်ရလျှင်၊ အံ့အားသတ်ကြောက်ရွံ့ခြင်းရှိ၍၊ ဤသို့သောအခွင့်ကို၊ *လူသားတို့အား ပေးအပ်တော်မူသောဘုရားသခင်ကိုချီးမွမ်းမြှောက်စားပြောဆိုကြလေ၏။

——oo——

NINTEENTH SUNDAY AFTER PENTECOST.

သဗိရိတူးသံတူးပွဲနေ့နောက်ဧကူနဝီသတိ
တနင်္ဂနွေနေ့။

Epistle. Ephes. iv. 23—28.

သံပေါလ်လူးအဲဖဲသူမြို့သားတို့အားရေးထားသော
ဆုမ္မစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုပင်တို့။ သင်တို့၏သဘောတွင်း၌တဦးနေ

သောအင်္ဂါရှိသမျှ၊ အသစ်ပြင်ဆင်စွဲနေကြ။ ဘုရား
သခင်ရှေ့မိတ်တော်နှင့်အညီ၊ စေ့ဖြေ့တော်ဖြောင့်
သောတရားနှင့်လျော်စွာ၊ ထင်မံစီရင်သောလူအ
သစ်ဝတ်စားဆောင်ရွက်ကြရန်။ ဤအကြောင်း
ဖြင့်၊ ငါတို့အချင်းချင်းကိုယ်အင်္ဂါများကဲ့သို့ဖြစ်ကြ
၍၊ မဟုတ်မမှန်မှုသားစကားရှိသမျှနှင့်ခွာဖယ်ကြ
၍၊ဟုတ်မှန်သောစကားမှတပါးနီးစပ်သသူကို၊သင်
တို့တွင် မည်သူမျှပြောဆိုစေနှင့်။ အမြက်ထွက်
သောအခါ၊အတွင်း၌အပြစ်မရှိစေနှင့်။ အမြက်မ
ပြေဘဲနေမဝင်စေနှင့်၊နတ်ဆိုးချောင်းစောင့်ခြင်းနေ
ရာကိုမပေး၍အခွင့်မရစေနှင့်။ အလျှင်ခိုးမှုက်သ
သူ၊နောက်တဖန်ခိုးယူခြင်းမရှိစေ။ သည်မျှသာမက၊
ဆင်းရဲသသူတို့အားပေးကမ်းလောက်အောင်၊ မိမိ
လက်ဖြင့်၊ အကျိုးရှိရာတခုံတခု လုပ်ဆောင်အား
ထုတ်စေ။

## Gospel. Matt. xxii. 1—14.

သိမ်ခသဘဲဒူးရှေထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊ ရဟန်းအကြီး
တို့နှင့်ဖါရိရှဲသယ်ဒူးကိုအားဥပမာတို့ဖြင့်ခင်းကြွင်း
လျှင်၊ဤသို့အမိန့်တော်ရှိသည်။ မိုးသမ်းကောင်းကင်
ရှေနိုင်ငံတော်သည်ကား၊ မင်းကြောရာဇာတဦးသည်
သားတော်ကို ထိမ်းမြားလက်ထပ်ခံသောပွဲနှင့်တူ
၏။ ထိုမင်းကြောရာဇာသည်၊ ယ်သူငယ်သားတို့အား

ပွဲကိုမိတ်သောသူတို့ကိုခေါ်စေလွှတ်လျှင်၊ ထိုသူတို့တွင်တယောက်မျှမလာချင်ရှိ၏။ တဖန်၊ ယ်သားအခြားတို့ကိုစေလွှတ်၍ဤသို့ဆို၏။ ငါ၏စားပွဲတော်ခင်းကြပြီး၊ နွားကျွဲမွေးသောတိရစ္ဆာန်အစရှိသည်တို့ကိုစီရင်ပြုပြင်၍၊ အားလုံးအသင့်ရှိလေသမျှအသင့်ရှိပြီ၊ ပွဲမိတ်သောသူတို့အားပြောဆိုကြလော့။ ထိုသူတို့သည်လေးလားမခန့်ပြု၍၊ တယောက်သောသူကား၊ လယ်မြေရှိရာအရပ်သို့သွား၏။ တယောက်သောသူကား၊ ဖေါက်ကားရောင်းဝယ်သွား၏။ အကြွင်းသူတို့ကား၊ စေလွှတ်သော ယ်သားတို့ကိုဖမ်းကိုင်၍ မတော်မဲ့ပြုခြင်းပြုကျင့်ပြီးမှ၊ သတ်၍ဖြစ်လေ၏။ ထိုအကြောင်းကိုမင်းဧကရာဇ်ကြားလျှင်၊ အမျက်တော်ထွက်သဖြင့် တပ်ပေါင်းသို့သွားစေ၍၊ ထိုသတ်သောသူတို့ကို၊ အကြွင်းမဲ့၊ စီရင်ခြင်းကိုပြု၏။ ထိုသူတို့မြို့ကိုလည်း၊ မီးဖြင့်တိုက်၏။ ထိုနောက်၊ မင်းဧကရာဇ်သည်၊ ငယ်သားတို့အားအမိန့်တော်ရှိပြန်၏။ ငါ၏ပွဲတော်ခင်းကြပြီးလျက်ရှိ၏။ မိတ်သောသူတို့ကားမဝင်ထိုက်ဖြစ်သောကြောင့်၊ လမ်းသေးလမ်းမသို့သွားကြ၍၊ တွေ့လေသမျှသောသူတို့ကို၊ ငါ၏ပွဲတော်သို့ သွင်းကြလော့၊ ဟုအမိန့်တော်ရှိလျှင်၊ ငယ်သားတို့သည်၊ လမ်းခရီးတို့၌ထွက်သွား၍၊ ကောင်းမကောင်းတွေ့သောလူအပေါင်းတို့ကိုစုရုံးကြ၏။ စားပွဲ၌ထိုင်နေရာလည်းအပြည့်သွတ်သွင်းရှိ၏။ စားပွဲ၌ထိုင်နေသောသူတို့ကို မြင်မိ

သော၄င်း၊ မင်းဧကရာဇ်ဝင်လာတော်မူလျှင်၊ ပွဲနှင့်မတော်မလျော်သောအပတ်ဝတ်လျက်ရှိသော သူတယောက်ကိုမြင်တော်မူလျှင်၊အမိန့်တော်ရှိသည်။ အဆွေ၊ပွဲနှင့်တော်လျော်သောအဝတ်မရှိဘဲလျက်၊အဘယ်သို့ဝင်ရသနည်း။ ဤသို့အမိန့်တော်ရှိလျှင်၊ထိုသူလည်း၊အံ့လျက်မလျှောက်ဝံ့နေ၏။ ထိုအခါ၊မင်းဧကရာဇ်လည်း၊ငယ်သားတို့အားမှာတော်မူ၏။ ဤသူ၏ခြေလက်တို့ကိုချည်နှောင်၍၊ မှောင်အတိမိုက်သောနေရာ၌၊သွင်းထားကြလော။ ထိုမှောင်မိုက်၌ကား၊ ငိုကြွေးခြင်း၊အံသွားခဲကြိတ်ခြင်းတို့ကိုခံရလမည်။အဘယ်ကြောင့်နည်း၊ဖိတ်ခေါ်သောသူတို့အများပင်ရှိကြသည်။ရွေးချယ်သုတ်သင်အပ်သောသူတို့ကား၊ အနည်းသာဖြစ်ကြသည်ဟုမိန့်တော်မူသည်။

——00——

## TWENTIETH SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်ပိသတိတနင်္ဂနွေနေ့။

### Epistle. Ephes. v. 15—21.

### သံပေါက်လူးအဲဖဲသူမြို့သားတို့အားရေးထားသော ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့၊လုပ်ဆောင်ကြံခွင့်ဟူသမျှ၌၊များစွာမြင်မျှော်ခြင်းရှိကြလော။ ပညာသတိနည်းသောသူတို့ကဲ့သို့မဟုတ်၊ဆင်ခြင်ရွေးချယ်နိုင်သောပညာ

ရှိတို့ကဲ့သို့၊ ဆောင်ရွက်ကြကုန်။ ဆိုးညစ်ကြောင့်ကြ ရှုံ့ရှာသောနေ့တို့ကို၊ ငါတို့ကျိန်တွေ့သောကြောင့်၊ နေ့ရက်ရွေး၍ဆည်းဘူးကြကုန်။ အလိမ္မာမဲ့အဆင် အချင်မရှိသူတို့ကဲ့သို့မပြုဘဲလျက်၊ ဘုရားသခင်ရွှေ စိတ်တော်ရှိရာ မိုင်းခြားသိအောင်၊ နှစ်လုံးပြုကြ။ ရစ်တတ်သောသေစာရှိသမျှကိုသောက်ခြင်းဖြင့်၊ မ ကျူးလွန်စေကြနှင့်။ ထိုသောက်ကျူးအရာမှာ၊ မ လျောက်ပတ်သောအမှုရှိသမျှတို့သို့ ပေါက်ရောက် ပေတတ်၏။ ဤအရာတို့ကိုရှောင်ရမည်မှုကား၊ သမိ ရိတူးသံတူး အပြည့်အစုံရှိကြလော့။ လက်ခတ်ရဲ အားဖြင့်ညီညွတ်ရွှင်မြူး၍၊ ဘုရားရှင်ဂုဏ်ကျေးဇူး ချီးမွမ်းထောမနာပဒိုပ်တို့၊ စိတ်ဖြင့်စိုးရွတ်နေကြ ကုန်။ ငါတို့သခင်ယေဇူးကရိသျှတူးရွှေမျက်နှာ တော်ထောက်သဖြင့်၊ ခမည်းတော်ဘုရားပေးသနား တော်မူသော ကောင်းမြတ်သော ဆုကျေးဇူးအ ပေါင်းကိုဆင်ခြင်သဖြင့်၊ ကျေကွဲ့ခြင်းစေတနာစိတ် နှင့်၊ အစဉ်မပြတ်ကာလတိုင်းရောက်ပါစေကုန်။ ယေဇူးကရိသျှတူးသခင်ကို ကြောက်ရွံ့ရိုသေခြင်း ဖြင့်၊ အချင်းချင်းတယောက်အောက်တယောက် ကိုယ်ကိုနှိမ့်ချလျက်ခံနေကြကုန်လော့။

Gospel. John iv. 46—53.

သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ ကာဖါရ်နာအုမ် အမည်ရှိသောမြို့ ၌၊ မင်းငယ်စော်ဘွားတဦး၏သားနာလျက်ရှိ၏။ ထို

မင်းသည်၊ ရုဒေအားနိုင်ငံမှ ဂါလီလေအားနိုင်ငံသို့ သခင်ယေရှုး ကြွလာတော်မူသောသတင်းကိုကြား လျှင်၊ သားသည်သေအံ့ဆဲဆဲဖြစ်သောကြောင့်၊ သခင်ယေရှုးအထံသို့လာ၍သားအားကုမရှုပ်းသောင် မှ ၄ါ၊ မိမိအိမ်သို့ဆင်းကြွပါမည့်အကြောင်းကိုလျှော် ၏။ သခင်ယေရှုးလည်း၊ ထိုမင်းအား၊ သင်တို့သည် တန်ုးလက္ခဏာကိုမမြင်ရလျှင်သင်တို့အယုံတရား မရှိလိုကြဟုမိန့်တော်မူသော်၊ ထိုမင်းလည်း၊ သခင်၊ အကျွန်ုပ်သားမသေမှီ ဆင်းကြွတော်မူပါဟုတဖန် လျှော်၏။ သခင်ယေရှုးလည်း၊သင်သွားလေလော့။ သင်၏သားမသေ၊ရှင်အံ့သည်ဟူ၍မိန့်တော်မူသော်၊ မင်းတော်ကွားလည်း၊ ထိုမိန့်တော်မူသောအချက်ကို ယုံမှတ်သဖြင့်သွားလေ၏။ သွားစည်တွင်၊ မင်း၏ ငယ်သားတို့သည်အိမ်၌သားအသက်ရှင်ခြင်းချမ်း သာရလေပြီးဟု၊ မင်းအားကျိုဆိုလျှောက်ပြောလာ ကြ၏။ မင်းကလည်း၊ သက်သာသောအချိန်သည် ကား၊ အဘယ်အချိန်နာရီနည်းဟုမေးသော်၊ ယမန် နေ့ ၇ နာရီအချိန်တွင်၊ အဖျားရွေလျှော့ ပြောက် ကြောင်းကိုလျှောက်ကြ၏။ အဖမင်းလည်း၊ ငယ် သားတို့လျှောက်သောအချိန်သည်၊ သခင်ယေရှုးက သင့်သားမသေ၊ချမ်းသာရသည်ဟုမြွက်တော်မူသည် အချိန်တချက်တညီတည်းဖြစ်သည်ကိုသိ၍၊ မင်း ကိုယ်မှစ၍ တအိမ်လုံးယုံမှတ်ခြင်းရှိကြလေကုန်သ တည်း။

—— ၀၀ ——

TWENTY-FIRST SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်ကောဝိသတ တနင်္ဂနွေနေ့။

## Epistle. Ephes. vi. 10—17.

သံပေါလ်လူးအဲဖဲသူမြို့သားတို့အားရေးထားသော ဆုပ္ပစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ဘုရားသခင်၌၎င်၊တန်ခိုးတော် အရှိန်အားဖြင့်၎င်၊ခိုင်လုံစွာရှိကြလော့။ နတ်ဆိုးတို့ ဆန်းပြားချောင်းမြောင်းသည်ကို မိတားနိုင်မည်အ ကြောင်း၊ ဘုရားသခင်သင်တို့ကိုပေးသနားတော်မူ သောလက်နက်ရှိသမျှတို့ကို ဝတ်ဆောင်ကြလော့။ အသွေးအသားနှင့်တကွဖြစ်သော ရန်သူတို့နှင့်မ ဟုတ်၊ ဂုဏ်အာဏာဖြင့်အစိုးရသော ဤလောကအာ မှောင်အတိ၊ ထူထပ်သောကာလနေရာဌာနန၌မင်းပြု ၍၊ အလွန်ဆန်းကြယ်စွာ လေအပြင်တွင်နေသော နတ်ဆိုးတို့နှင့်ဆိုင်ပြိုင်တိုက်လန်ရမည်။ ထိုကြောင့်၊ ခဲယည်းဆိုးယုတ်လှသည့်ကာလ၌နိုင်၍ဆီးတားနိုင်မည် အကြောင်း၊ အရာရာတို့၌လည်းအနည်းငယ်မျှမလျှော့ နိုင်မာစွာရှိမည်အကြောင်း၊ ဘုရားသခင် သင်တို့ လက်ရောက်ပေးအပ်တော်မူသည့် လက်နက်တမျိုး သာကိုယူကြကုန်။ တိမ်းလွဲမရှိ၊ တည်ကြည်စွာနေ ကြကုန်။ သစ္စာတည်းဟူသောခါးပန်းကိုစည်းလျက်၊ ဖြောင့်မတ်ခြင်းတည်းဟူသော တရားသံချပ်ကိုး

ဝတ်ကိုဆောင်ကြလော။ ငြိမ်ဝပ်ခြင်းချမ်းသာရှည်
သောဧဝံဂေလိတရားကိုဟောအလို့ငှါ၊ အသင်အ
စဉ်နေ၍၊ချေ၌ယုတ်တင်ချေနင်းတို့ကိုစွပ်၍ခံရပ်ကြ
လော။ နတ်ဆိုးမှဖြစ်သောမီးစက်တို့ကိုသတ်ကာရ
အောင်၊ယုံကြည်ခြင်းလွှားကိုလည်းဒလစအဦးဆောင်
ရွက်ကြလော။လွတ်ခြင်းချမ်းသာကိုမျှော်လင့်စောင့်
မျှော်ခြင်းကို၊ခေါင်စွပ်ကဲ့သို့၊ ဘုရားသခင်နှုတ်
ကပါတ်တော်ဖြစ်သော၊ဓါးတထူးကိုလည်းမြဲစွဲကြ
လော။

## Gospel. Matt. xviii. 23—35.

သံမာတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်၊တပည့်တော်တို့
အားဤသို့သောဥပမာကိုဟောတော်မူသည်။ မိုဃ်း
ကောင်းကင်ရွှေနိုင်ငံတော်သည်ကား၊ငယ်သားတို့
အားဆောင်ကြသောအမှုအခွင့်ကို၊စာရင်းတောင်း
လိုသောမင်းကြီးတပါးနှင့်တူ၏။မေးမြန်းစစ်ကျော
ခြင်းအစတွင်၊ငွေအခွက်တသိန်းတင်ရှိသောသူကို
မင်းကြီးရှေ့တော်သို့ဆောင်ခဲ့ကြသည်။ ထိုမြီ
တင်ရှိသောသူဆပ်ပေးရန်မရှိ၍၊ကိုယ်မှစ၍သားမ
ယားရတတ်သမျှသောဥစ္စာတို့ကိုရောင်းသဖြင့်၊တင်
ရှိသောငွေကိုပြန်ပေးဆပ်ရမည်ဟု အရှင်အမိန့်ရှိ
တော်မူလျှင်၊ ဤငယ်သားသည်၊ ခြေရင်းတော်၌ဦး
ညွှတ်ပြပ်ဝပ်လျက်မြဲသနားခံ၍ လျှောက်သည်။ အ

ကျွန်ုပ်အမှု၌သည်းခံတော်မူပါ။ တင်ရှိလေသမျှကို မကြာမီအရှင်အားဆပ်ပေးပါမည်ဟုလျှောက်၏။မင်းကြေရာစ်လည်း၊ ထိုငယ်သားအမှု၌ ကယ်မသနားတော်မူခြင်းစိတ်တော်ရှိ၍၊ ငယ်သားကိုလည်းလွှတ်ပေ၏။ တင်ရှိသမျှမြီကိုလည်း၊ အကုန်အစင်ကညာလွှတ်တော်မူ၏။ ထိုငယ်သားသည်၊ အထံတော်မှထွက်သွားရာတွင်၊အဖေါ်ငယ်သား၊မိမိ၌အသပြာတရာဆပ်ရန်ရှိသော တယောက်ကိုတွေ့၍၊ လည်ဘင်းကိုကိုင်ညှစ်လျက်၊ တင်ရှိသောငွေကိုအပူအပြင်းတောင်း၏။ထိုအဖေါ်ချင်းငယ်သားလည်း၊ငွေရှင်ခြေရင်း၌ဦးညွှတ်လျက်၊ အကျွန်ုပ်အမှု၌သည်းခံပါ။တင်လေသမျှမြီကို၊သင်အားဆပ်ပေးပါမည်ဟုတောင်းပန်ဆိုသော်လည်း၊ကျွေးရှင်သည်ငယ်သားကိုနားမခံယူ၍ တင်ရှိသောအဖေါ်ချင်းကို၊ နှောင်အိမ်သွင်း၍၊ တင်သည့်ငွေပြန်ပေးသည့်တိုင်အောင်၊လှောင်ထား၏။ ထိုပြုလေသောအရာတို့ကိုအချားငယ်သားချင်းတို့မြင်လျှင်၊စိတ်ထဲ၌မသာမကြည်လှ၍၊ မင်းကြေရာစ်ရှေ့တော်သို့ရောက်လာသဖြင့်၊ ပြုကျင့်လေသမျှကိုလျှောက်ကြ၏။ ကျွေးရှင်သည်လည်း၊ ငယ်သားကိုခေါ်တော်မူ၍၊ဆိုးညစ်သောငယ်သား၊ သင်တောင်းပန်သောကြောင့်၊ သင်၌မြီတင်လေသမျှကို၊ငါကညာလွှတ်တော်မူသည်။ ငါသင်ကိုသနားသခဲ့သို့၊သင်သည်အဖေါ်ငယ်သား၌သနားခြင်းကိုမပြုသင့်လေသလောဟု မိန့်တော်မူပြီးမှ၊ သခင်သည်အ

A A

ချက်တော်ရှိ၍၊ ထိုငယ်သားနှင့်တင်ရှိသမျှမြို့ဆင့်
ပေးသည့်တိုင်အောင်၊ ညှည်းပန်းတတ်သောသူတို့
ကိုအပ်တော်မူသည်။ ထိုအတူရင်၊ သင်တို့ကိုယ်အ
သီးအသီးအတွင်းစိတ်နှင့်တကွ၊ ညီအစ်ကိုယ်ကို
ကညာလွှတ် ခြင်းအခွင့်ကိုမပြုလျှင်၊ မိုးသီးကောင်း
ကင်း၌ရှိသောငါ၏ခမည်းတော်သည်၊ သင်တို့အမှု
၌စီရင်တော်မူလမည်။

——*00*——

TWENTY-SECOND SUNDAY AFTER PENTECOST.

သပိရိတူးသံတူးပွဲနေ့နောက်ဒွါဝိသတိတနင်္ဂနွေနေ့။

## Epistle. Phil. i. 6—11.

သံပေါက်လူးဖိလိပိမြို့သားတို့အားရေးထားသော
ဆုပ္ပစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့တွင်ကောင်းသောအမှု
ကိုပြုစပြုတော်မူသောသူသည်၊ ယေရှုခရစ်သျှတူး၏
နေ့ရက်တိုင်အောင်ပြီးစီးလျှက်ပြုတော်မူသည်ဟု၊ ငါ
သဘောကျခြင်းရှိ၏။ သင်တို့အမှုအရာ၌သည်း၊ ငါ၏
သို့ငါယူအပ်၏။ အကြောင်းမူကား။ ငါသည်အ
ကျည်းခံရသောအမှုမှာလည်း၊ ဧဝံဂေလိတရားဘက်၌
သက်သေခံ၍၊ ထိုတရားကိုတည်စေသည့်အမှုမှာလည်း၊
ငါခံရသောကျေးဇူးတော်ကိုသင်တို့ခပေါင်းသည်,
သင်တို့ကြသည့်ဖြစ်၍၊ ငါစွဲလန်းစွာရောက်သောသူ

ဖြစ်ကြ၏။ ငါသည်၊ ယေရှုခရိသ္တု၏မေတ္တာကာ
ရုဏာနှင့်၊ သင်တို့အပေါင်းကိုအဘယ်မျှလောက်
လွမ်းသည်ကို၊ ဘုရားသခင်သည် ငါ၏သက်သေဖြစ်
တော်မူ၏။ ငါသည်အဘယ်သို့ဆုတောင်းသနည်း
ဟုမူကား။ သင်တို့သည်ကောင်းမြတ်သောအရာတို့
ကိုပိုင်းခြား၍နှိုင်သက်စေခြင်းငှါ၊ ညာဏ်ပညာအ
မျိုးမျိုးအားဖြင့် မေတ္တာပါရမီတိုးပွား၍ပြည့်စုံမည်
အကြောင်းဘို့၎င်း၊ ယေရှုခရိသ္တုအားဖြင့်ဘုရား
သခင်၏ဘုန်းအသရေတော်ကို ထင်ရှားစေတတ်
သောဖြောင့်မတ်ခြင်းအကျိုးနှင့် သင်တို့သည်ပြည့်
စုံ၍၊ ခရိသ္တုတော်၏နေ့ရက်တိုင်အောင် စိတ်
ကြည်ဖြူလျက်၊ တိမ်းလဲခြင်းအမှု၌ကင်းလွတ်လျက်
ရှိရမည်အကြောင်းကို၎င်း၊ ဆုတောင်းပဌနာပြု၏။

## Gospel. Matt. xxii. 15—21.

သံခါတဲ့ဒ္ဒူးရေးထားသောကျမ်းသုဒ္ဓကားတည်း။

ထိုကာလ၌။ ဖာရိသယ်အနူးတို့သည်ထွက်သွား
၍၊ သခင်ယေရှု၏စကားအလှွဲအမိရ်အချည့်တွေ့၍
အပြစ်တင်အံ့သောငှါ တိုင်ပင်ကြကြ၏။ ဤအကြံ
နှင့်၊ မိမိတပည့်တို့နှင့်ဟေရုဒ်ပင်းကလူတို့ကိုသခင်
ယေရှုအထံသို့စေလွှတ်၍ဤသို့လျှောက်စေသည်။
ဆရာတော်သခင်၊ ဟုတ်မှန်သောအချက်ကိုသာနှစ်
သက်တော်မူကြောင်း၊ ဘုရားသခင်သို့ ပို့ဆောင်
သောလမ်းတည့်မတ်စွာပြတော်မူကြောင်း၊ မည်သည့်

အရာကိုမျှမကြောက်ရွံ့၊ မျက်နှာငြိုးငယ်ထောက် တော်မမူကြောင်း၊အကျွန်ုပ်တို့အသိပင်ဖြစ်ကြသည်။ ထိုကြောင့်၊သခင်၊ထင်မြင်တော်မူရာကိုအမိန့်တော် ရှိတော်မူပါ။ ကဲသာဘုရင်ချုပ်အားအခွန်အထုတ် ဆက်ပေးအပ်သလောဟုလျှောက်သော်၊သခင်ယေ ရှုးလည်း၊ထိုသူတို့လိမ်လစ်ကောက်ကျစ်သောအရာ ကိုသိမြင်တော်မူ၍၊ လျှို့ဝှက်သောအကျင့်တို့၊ အ ဘယ်ကြောင့်ငါ့အား၊ အခနှောင့်အရှက်ရှာဖွေကြ သနည်း။ အခွန်အထုတ်ကိုဆက်အံ့သောငွေတများ ကို၊ ငါ့အားပြကြလောဟုအမိန့်တော်ရှိ၍၊ ထိုသူတို့ ဒေနရိငွေတများကိုပြကြ၏။ ဤပုံဤစာတို့သည်၊အ ဘယ်သူ၏ပုံစာဖြစ်သနည်းဟုမေးတော်မူလျှင်၊ ထို သူတို့ကလည်း၊ ကဲသာဘုရင်ချုပ်၏ ပုံစာတည်းဟု လျှောက်သော်၊သခင်ယေရှုးလည်း၊ဤသို့ဖြစ်လျှင် ကဲသာဘုရင်ချုပ်နှင့်ဆိုင်ရာကို၊ ကဲသာဘုရင်ချုပ် အားဆက်ကြလော။ ဘုရားသခင်နှင့် ဆိုင်ရာကို လည်း၊ဘုရားသခင်အားဆက်သွင်းကြလော၊ဟုအ မိန့်တော်ရှိသည်။

——oo——

TWENTY-THIRD SUNDAY AFTER PENTECOST.

## သပိရိတူးသံတူးပွဲနေ့နေ့ ၃ တေပိသတိတနင်္ဂနွေနေ့။

## Epistle. Phil. iii. 17—21 ; 1—3.

## သံပေါက်သူး ဖိလိပိမြို့သားတို့အားရေးထားသော ဆုပ္ပစာမှနှုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါ၌မြင်ရသည့်နည်းတူ၊ နောက်သို့လိုက်၍ကျင့်ကြလော။ ငါတို့ပေးရသည့်ပုံသက်သေနှင့်အညီ ကျင့်ဆောင်သသူတို့ကို၊ ရှုမှတ်ကြလော။ အကြောင်းမူကား။ အကြိမ်ကြိမ်သင်တို့အား ငါဆိုသည့်နှင့်အညီ၊ ယခုမျက်ရည်ယိုလျက် ဆိုပြန်သည်။ ယေရှူးကရိသ္တုတူးသခင်၊ ကရူသူးကန့်လန့်ကြပ်ကို၊ ရန်သူဖြစ်သောသူအများပင်ရှိသည်။ ထိုသူတို့လည်း၊ အဆုံး၌ဆုံးပါးလမည်။ မိမိဝမ်းမှတခြားဘုရားမရှိ၍၊ ရှက်ဖွယ်ရာအကျင့်၌ ဂုဏ်ပြုလေကြသည်။ ထိုသူတို့လည်း၊ ဤလောကအရာတို့၌သာစိတ်အာရုံရှိ၏။ ငါတို့ဆိုင်ရာမှာ၊ မိုဃ်းကောင်းကင်ရွှေနိုင်ငံတော်သို့၊ ငါတို့စိတ်တန်းနေကြသည်။ ထိုအရပ်မှ၊ လူအပေါင်းတို့ကိုကယ်ချွတ်သောသခင် ငါတို့သခင်ယေရှူးကရိသ္တုတူးကို၊ ငါတို့မျှော်လင့်နေကြသည်။ ဤသခင်သည်ကား၊ အရာရှိသမျှအောက်ချထားနိုင်သောအလွန်ကြီးမြတ်သောတန်ခိုးအားဖြင့်၊ ယုတ်ညံ့သောငါတို့အလောင်းကိုအသစ်တဖန်တည်စေ၍၊ ဘုန်းကြက်သရေနှင့်ပြည့်စုံသောကိုယ်တော်

နည်းတူဖြစ်စေစေသော်မူလည်းကွန်။ ထိုကြောင့်၊ငါအလှန်
နှစ်သက်၊ ငါအလှန်လှမ်းလျက်ရှိသော ငါ၏ဝမ်း
မြောက်နှစ်လိုခြင်း၊ ငါဦးရစ်တံဆာကဲ့သို့ဖြစ်သော
ညီအစ်ကိုယ်တို့။ သခင့်ကိုထောက်၍အခနေအထူး၌
မြဲစွဲနေကြလော။ အလှန်ကြင်နာသောသင်တို့ဘုရား
သခင်၌၊မဆုတ်မယုတ်တမ်းယမ်းကြလော။ ဘုရား
သခင်၌ကြီးစွာခြင်းအာရုံမိတ် တလုံးတဝတည်းရှိ
ရမည့်အကြောင်းကို၊ ဧဝေါဒိအနှင့် သင်တိခေတို့
အား၊ ငါမှာထားနှိုးဆော်သည်။ ငါဆင်းရဲပင်ပန်း
ခြင်း၌၊ မကွာငါအဖက်ဖြစ်သောသင်သည်၊ ဧဝံဂေ
လိတရားတော်ကို ဟောပြောရာတွင်၊ ငါနှင့်အတူ
အားထုတ်ကြသောကလေမင်တေမှစ၍အသက်စာ
ရင်းဝင်သော အခြားသောငါလုပ်ဖော်ဆောင်ဖက်
တို့နှင့်မိန်းမတို့ကိုမစထောက်ပန့်ခြင်းကိုပြုလော။

## Gospel. Matt. ix. 18—26.

သံမာတဲအရူးရေးထားသောကျမ်းစုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှူးသည်လူအများပရိသတ်တို့အားဟောပြောတော်မူစဉ်တွင်၊ အရာရှိတဦးသည်အထံတော်သို့ရောက်လာ၍ ညွှတ်ပြတ်ရှိခိုးလျက်ဤသို့လျှောက်သည်။ အိုသခင်၊ အကျွန်ုပ်သမီးသေလွန်ခဲ့သည်၊ ကြွတော်မူ၍အလောင်းပေါ်၌လက်တော်တင်လျှင်၊ ရှင်ပါလတ္တန့်ဟုလျှောက်၏။ သခင်ယေရှူးထတော်မူ၍တပည့်တော်တို့နှင့်အတူ

ထိုအရာကိုပေါ်းပြန်ပြီးနောက် ထိုက်ကို လိုက်တော်မူ၏။ ထိုအခိုက်တွင်၊ မိန္မတဦးသည်တဆယ်နှစ်နှစ်ပတ်လုံး သွေးသွန်အနာစွဲ၍၊ နောက်မှလာသဖြင့်အင်္ကျီတော် အစွန်းကိုလက်ဖြင့်တို့၏။ ထိုမိန္မအကြံသင်ချင်သည်ကား။ ဤသခင်အင်္ကျီတော်ကို လက်ဖြင့်သာတိရလျှင်၊ ချမ်းသာပါမည်ဟုဆင်ချင်လေ၏။ သခင်ယေရှုးလည်း၊ လှည့်တော်မူ၍ ဤမိန္မကိုမြင်တော်မူလျှင်၊ ငါ၏သမီး၊ စိုးရိမ်ခြင်းမရှိစေနှင့်။ သင်၏ယုံမှတ်ခြင်းသည်၊ သင့်အားချမ်းသာပေးသည်ဟု မိန့်တော်မူလျှင်၊ ထိုအချိန်နာရီတွင်ဤမိန္မသွေး သွန်အနာတင်း ပြောက်လေ၏။ ပင့်လာသောအရာရှိ၏အိမ်သို့သခင် ယေရှုးရောက်တော်မူမှ၊ တီးမှုတ်သော သူတို့နှင့် များစွာသောလူတို့သည် အုပ်အုပ်သဲသဲပြုခြင်းရှိကြသည်ကိုမြင်တော်မူလျှင်၊ ထိုသူတို့အား၊ ဆုတ်ကြလော၊ မိန္မငယ်သေသည်မဟုတ်၊ အိပ်ပျော်နေသည်ဟုမိန့်တော်မူလျှင်၊ ထိုသူတို့သည်သခင်ယေရှုးအား တဲ့ရဲ့ပြက်ရယ်ပြုကြ၏။ ထိုလူများတို့ပြင်သို့ထွက်စေပြီးမှ၊ သခင်ယေရှုးဝင်တော်မူ၍ မိန္မငယ်၏လက်ကိုကိုင်ဆွဲတော်မူသော်၊ သူသည်အသက်ရှင်၍ထလေ၏။ ဤအကြောင်းသိတင်းစကားလည်း၊ ထိုပြည်လုံးနှံ့ပြန့်ကျော်စောလေ၏။

———(၀)———

## TWENTY-FOURTH, OR LAST SUNDAY AFTER PENTECOST.

## သဗိရိတူးသံတူးပွဲနေ့နောက်စတုဝိသတိတနင်္ဂနွေနေ့။

### Epistle. Col. i. 9—14.

### သံပေါလ်လူးတော်လော်သိမြို့သားတို့အားရေး ထားသောဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ သင်တို့အဖို့မပြတ်အစည် ငါ
တို့ဆုတောင်းနေကြလုန်သည်။ ဘေင်းလျှောက်
သောအချက်သည်ကား။ သန့်ရှင်းစင်ကြယ်သော
အတတ်အလိမ္မာသိမြင်ခြင်းကို အပြည့်အစုံဘုရား
သခင်ပေးသနားတော်မူ၍၊ ရွေ့စိတ်တော်အလိုအ
ကုန်အစင်သင်တို့အားပြသမည်အကြောင်း၊ အမှု
အရာရှိသမျှ၌ မျက်နှာတော်ရသဖြင့်၊ အရာရာမျိုး
ကောင်းသောအသီးအနှံပြည့်စုံခြင်း၊ ဘုရားသခင်
အကြောင်းတော်ကိုသိနားလည်ခြင်း၌၊ တနေ့ထက်
တနေ့တိုးပွားခြင်းရှိသဖြင့် ဘုရားသခင်ထိုက်လျော်
အောင်သင်တို့ဆောင်ရွက်နိုင်မည်အကြောင်း၊ အား
လုံးစုံနှင့်ပြည့်စုံတော်မူသော အာနုဘော်တော်ဖြင့်၊
အလိုရှိအပ်သောအားတန်ခိုးအပြည့်အစုံရ၍၊ ဒုက္ခ
တဆင်းရဲရှိသမျှ မရွေ့မလျော့ သိမ်မွေ့ရှင်လမ်း
သောစိတ်ဖြင့်သည်းခံနိုင်မည်အကြောင်း၊ ယုံကြည်
ခြင်းတည်းဟူသောအလင်းတော်အားဖြင့်သံတူးရ
ဟန္တာတို့၏အမွေကို ငါတို့သည် ဆက်ဆန်ဝင်စား
ထိုက်မည်အကြောင်း၊ ကျေးဇူးပြုတော်မူ၍။ မှောင်

မိုးကြတ်တန်ခိုးလက်မှ၊ ငါတို့ကိုနှုတ်ချစ်တော်မူသော သားတော်၏နိုင်ငံတော်ထဲသို့ ပို့ဆောင်တော်မူ၏။ ထိုသားတော်၏အသွေးတော်ဖြင့်၊ငါတို့အပြစ်ရှိသမျှကိုဆေးကြောခြင်းနှင့် လွှတ်ခြင်းချမ်းသာကိုငါတို့ခံရကြသည်။

Gospel. Matt. xxiv. 15—35.

သံခါတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်တပည့်တော်တို့အား၊ဤသို့အမိန့်တော်ရှိသည်။ ဒါနိယေလ်ပရောဖက်တဟောထားသည့်နှင့်အညီ၊ အကျွင်းမဲ့၊မယိုမယွင်း ပျက်စီးလတ္တန့်သောအကြောင်း ရွံရှာမုန်းဖွယ်အမှတ်လက္ခဏာ၊ဘုရားသခင်မြတ်နိုးသောအရပ်မြို့၌ စိုက်နေလျက်ရှိသည်ကိုသင်တို့မြင်ရလျှင်၊ကျမ်းစာဖတ်သသူနားလည်ပါစေ။ ထိုအခါ၊ယုဒေအားနိုင်ငံ၌ရှိသောသူတို့သည်၊တောင်ပေါ်သို့၊ ပြေးသွားကြစေ။အိမ်မိုးပေါ်မှာရှိသောသူ၊အိမ်မှတစုံတခုယူအံ့သောငှါမဆင်းမသွားစေနှင့်။ လယ်ပြင်၌ရှိသောသူလည်း၊ မိမိအဝတ်ကိုယူခြင်းငှါ မပြန်မလာစေလင့်။ ထိုနေ့တို့၌၊ကိုယ်ဝံစွဲမိန်းမ၊နို့စို့သူငယ်ရှိသောမိန်းမတို့၊အလွန်မကောင်းခက်ကြလမည်။ သင်တို့ထွက်ပြေးရမည့်အချိန်၊ဆောင်းကာလတွင်မကျ၊ စနေနေ့၌လည်းမကျမည့်အကြောင်း၊ ဆုတောင်းကြကုန်။ အဘယ်ကြောင့်နည်း။ ကမ္ဘာဦးမှစ၍ယခုတိုင်၊ဆိုး

ညစ်ဆင်းရဲသောဘဝသည်၊ ဤဘဝသို့မရှိဘူး၊ နောက်လည်းထိုကဲ့သို့မရှိရ။ ထိုနေ့တို့၌၊ဆုတ်ယုတ်ခြင်းမရှိရလျှင်၊ တယောက်သောသူမျှ မလွတ်နိုင်ရ။ ရွေးနုတ်သောသူတို့မျက်နှာကြောင့်ထိုနေ့တို့ဆုတ်ယုတ်ခြင်းရှိလမည်။ ထိုကာလ၊သူတပါးသည်၊ ကရိသ္တုတ္တားတော်ဤမှာရှိသည်၊ ထိုမှာရှိသည် ပြောဆိုသော်လည်း၊ သင်တို့မယုံကြလင့်။ ထိုနေ့တို့၌၊ ကရိသ္တုတ္တားတော်၏အယောင်၊ ပရောဖက်တအယောင်ဆောင်သူတို့သည်၊ လူတို့၌ပေါ်ထွက်လာလမည်။ ဘုရားသခင်ရွေးနုတ်သောသူကိုလှည့်ဖြားနိုင်လျှင်၊ လှည့်ဖြားလောက်အောင် ကြီးစွာသောနိမိတ်လက္ခဏာပြကြလမည်။ သင်တို့အားထိုအရာတို့ကိုရှေးဦးငါဟောပြောချက်မှတ်ကြလော။ ထိုကြောင့်၊တောအရပ်၌ရှိ၏ဆိုသော်လည်း၊ မထွက်မသွားကြနှင့်။ ကျောက်ကူလျှိုင်ခေါင်း၌ရှိ၏ဆိုပြန်သော်လည်း၊ မယုံကြလင့်။ လျှပ်စစ်နွယ်သည်အရှေ့မှလာ၍ အနောက်တိုင်၊တာဟုန်ထည်း။ထွန်းလင်းသကဲ့သို့၊သားတော် ကြွလာတော်မူလတ္တံ့။ အသေကောင်ရှိရာတိုင်း၌၊ ရွှေလင်းတတို့စုဝေးကြလမည်။ ထိုနေ့တို့၌ ဆဲယည်းလှသောကပ်၊နောက်ချက်ချင်းနေသည်မိုက်ခြင်းဖြင့်ကျပ်လမည်။ လအရောင်မထွန်းလင်းပြီး။ ကြယ်တို့သည်လည်း၊မိုဃ်းကောင်းကင်နေရာမှရွေ့လျော့ကျကြလမည်။ အထက်မိုဃ်းကောင်းကင်အချုပ်တို့၌ ရုဏ်ဒ္ဓသာဘောကြီးသောအရာတို့သည်၊ တုံ

လျှပ်မြောက်ခြားခြင်းရှိလမည်။ ထိုအခါ၊ လူသား၏အမှတ်လက္ခဏာသည်၊ မိုဃ်းကောင်းကင်မှပေါ်ထွန်းလမည်။ မြေအပြင်၌ရှိသောအမျိုးတကာသူခပ်သိမ်းတို့၊ ငိုကြွေးယူတခြင်းရှိလမည်။ လူသားတော်သည်မိုဃ်းတိမ်ရံလျက်ကြီးစွာသောဘုန်းတန်ခိုးအာနုဘော်နှင့်တကွ၊ ကြွလာသည်ကိုမြင်ရတော့မည်။ ကိုယ်တော်သည်မိမိသိကြားတို့ကိုစေလွှတ်၍၊ ပြင်းစွာသောတံပိုးခရာအသံဖြင့်ကြွေးကျော်လျက်၊ အရပ်လေးမျက်နှာမိုဃ်းကောင်းကင်ထက်ဝန်းချင်၌၊ ရွေးနှုတ်သောသူတို့ကို စုရုမ်းတားကြလမည်။ သင်္ဘောသမဖန်းပင်မှပုံသက်သေကိုယူကြလော။ အဖူးအညွန့်အရွက်ပေါ်ထွက်ရှိလျှင်၊ မိုးပြင်းသောနွေဥတုအချိန်နီးပြီးဟုသင်တို့သိရကြသည်။ ထိုအတူ၊ ယနေ့ဟောပြောချက်လက္ခဏာတို့ကို သင်တို့မြင်ရလျှင်၊ တံခါးဝအနီးသို့ရောက်သည်ကို မှတ်ကြကုန်လော။ ငါအမှန်ဆိုသည်ကား။ ယခုရှိသော၍လူအဆက်သည်မပြောင်းမကွယ်မှီ၊ ထိုအကြောင်းအရာအလုံးတို့သည်ဖြစ်ကြလိမ့်မည်။ မိုဃ်းမြေတို့ ပြောင်းလဲကွယ်ပျောက်လမည်။ ငါ၏စကားမူကား၊ မဖေါက်မပြန်တည်မြဲလမည်ချစ်သားတို့။

———

*February* 2.

## PURIFICATION OF THE B. V. MARY.

## မယ်တော်သခင်မမီးဖွားသည်နောက်ကျောင်းတော် သို့ဝင်သည်ပွဲနေ့။

### Lesson. Malach. iii. 1—4.

### မာလာကျိယပရောဖက်တကျမ်းမှ နှုတ်သောစကား တည်း။

ဘုရားမဟာသခင်၏သို့မိန့်တော်မူသည်ကား။ ကြည့်ရှုကြကုန်၊ ငါသည်ငါ့သိကြွားကိုစေလွှတ်တော်မူအံ့။ ထိုသူသည်လည်း၊ ငါသွားရမည့်လမ်းကိုပြင်ဆင်မည်။ ယခုမူကား၊ သင်တို့တောင့်တသောသခင်၊ သင်တို့မြှော်လင့်သောအသစ်သဟာယဖွဲ့အံ့သိကြွား၊ မိမိကြီးမြတ်သောကျောင်းတော်သို့အဆောတလျင်ရောက်လတ္တံ့။ ယခုကြွလာတော်မူသည်ကိုကြည့်ရှုကြတော့၊ ဟုတပ်ပေါင်းအရှင်တော်၏အမိန့်တော်ရှိသည်။ လာမည့်နေ့၏တင့်တယ်ကျော်စောရခြင်းကို၊ မည်သူအောင်းမေ့၍ကြိမ်တွေ့နိုင်အံ့နည်း။ မျက်နှာတော်၏အာနုဘော်ကိုလည်း၊ မည်သူခံနိုင်အံ့နည်း။ ကျေးသံတို့ကိုအရည်ဖြစ်စိမ့်ငှါ၊ တတ်စွမ်းနိုင်သောမီးကဲ့သို့၎င်၊ အညစ်အကြေးငင်ကျယ်စိမ့်ငှါ၊ သုံးဆောင်သောမျက်ပင်ကဲ့သို့ ဖြစ်တော်မူလမည်။ ငွေအရည်ကဲ့သို့သန့်စင်အောင်၊ မှုတ်၍ထိုင်နေတော်မူလမည်။ လေဝိသားတို့၌ရှိသောအကြေး

အညွှာရှိသမျှဖြစ်ပယ်သန့်ရှင်း၍၊ ရွှေပင်ငွေစင်ကဲ့သို့ စင်ကျယ်စေလမည်။ ဘုရားသခင်နှင့်ထိုက်လျော်အောင်၊ ပူဇော်နိုင်မည်အကြောင်း၊ အလွန်ကောင်းမြတ်သောသီလအကျင့်ကို အပြည့်အစုံရကြလမည်။ ရှေးဦးစွာအထက်ကာလ၌ကဲ့သို့၊ ဇူဒါးနှင့်ယေရုသလင်၏ပူဇော်သကာများကို၊ ဘုရားသခင်သဒ္ဒါနှစ်သက်တော်မူလမည်ဟု၊ မဟာသခင်၏ဗျာဒိတ်တော်ရှိသည်။

## Gospel. Luke ii. 22—23.

သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ မာရိယားသခင်မသည်၊ မောဇယ်စီရင်ထားသောတရားနှင့်အညီ၊ ဆေးကြောခြင်းမှိုနေ့ကုန်ဝင်ပြီးမှ၊ အဦးမွေးမြင်သောသားယောက်ျားကို၊ ဘုရားသခင်အားပူဇော်ရမည်ကျမ်း၌ရေးမှတ်လျက်ရှိသည်နှင့်လျော်စွာ၊ သားတော်ကိုဘုရားသခင်အားဆက်ကပ်အံ့ငှါမှိုဆောင်ကြ၏။ ထိုကျမ်း၌လည်းရေးမှတ်လျက်ရှိသည်အချက်အတိုင်း၊ သားဦးယောက်ျားအပေါင်းတို့သည်၊ ဘုရားသခင်အမှိုသန့်ရှင်း၍ရှိသော်၊ သူတို့ဘို့ကျိုးနှစ်ကောင်ဖြစ်စေ၊ ခိုနှစ်ကောင်ဖြစ်စေ၊ တခုခုကိုပူဇော်ရမည်။ ထိုနေ့တို့၌၊ ယေရုသလင်မြို့တွင်၊ သိမေအုန်အမည်ရှိသောသူတော်ရှိ၏။ ထိုသိမေအုန်သည်ကား၊ ဖြောင့်မတ်ခြင်းနှင့် ဘုရားအားရိုသေကြောက်ရွံ့သသူဖြစ်၍၊

ဣာသရေလအမျိုး၏ချမ်းသာကိုစောင့်ငံ့နေသည်။ သူ့ ၌လည်း၊ သမိရိတူးသံတူးကျွန်းငါ်တော်မူသည်။ ထိုသူမြတ်လည်း၊ဘုရားသခင်စေလွှတ်မည်ခရိသ္ဘူတူးသခင်ကိုမတွေ့မမြင်မှီ၊ မသေရကြောင်း၊ သမိရိတူးသံတူးဗျာဒိတ်တော်ကိုခံရသည်။ ထိုကြောင့်၊သမိရိတူးသံတူးတိုက်တွန်းခြင်းဖြင့်၊ ကျောင်းတော်သို့ရောက်လာသည်။ သခင်ယေရှုးမိဘတို့သည်၊ကျမ်းတရားတော်နှင့်အညီ ဆောင်ရွက်ရမည်ထုံးစံအတိုင်းကုန်ငါ်အောင်၊ သားတော်ကို ကျောင်းသို့ဆောင်သွင်းသည့်အခိုက်တွင်၊သိမေအုန်သည်၊သခင်ယေရှုးလက်ဖြင့်ကိုင်ယူ၍၊ဝမ်းမြောက်ခြင်းဖြင့်ဘုရားသခင်ကျေးဇူးတော်ကို ချီးမြှောက်လျက်၊ဤသို့မြွက်ဆိုသည်။ အိုဘုရားသခင်၊ယခုပင်၊ဗျာဒိတ်တော်နှင့်အညီ၊ကျွန်တော်ကိုငြိမ်ငြိမ်စွာသေရအခွင့်ကိုပေးသနားတော်မူပါ။ အကြောင်းမူကား၊အကျွန်ုပ်တို့အားပေးသနားတော်မူသော၊ လူအပေါင်းတို့အားကယ်ချွတ်ရအံ့သောသခင်ကိုအကျွန်ုပ်မျက်စိဖြင့်မြင်ရပါသည်။ ဤသခင်သည်၊ခပ်သိမ်းသောလူအပေါင်းတို့အား အလင်းဖြစ်တော်မူလမည်ဖြစ်၍၊မြတ်နိုးသောဣာသရေလလူမျိုးတို့အားဂုဏ်အသရေတင့်တယ်စေတော်မူလမည်။

——၀၀——

*June* 24.

ST. JOHN'S DAY.

သံဖွင့်ပတ္တိသျှတပွဲနေ့။

Lesson. Isa. xlix. 1—3, 5—7.

ဧသိသျှအဲသပရောဖက်တကျမ်းမှနုတ်သောစကား
တည်း။

တကျွန်းတနိုင်ငံအရပ်တို့၊ ငါ့စကားကိုကြားကြ
လော့။ ဝေးစွာသောလူမျိုးတို့၊စေ့စေ့နားထောင်ကြ
လော့။ ငါဖွားစကပင်၊ ဘုရားသခင်သည်ငါ့ကိုခေါ်
တော်မူ၏။ အမိဝမ်းထဲမှစ၍၊ငါ၏နာမကိုမှတ်တော်
မူ၏။ ငါ့နှုတ်ကိုထက်သောဓားကဲ့သို့ဖြစ်စေ၍၊လက်
တော်အရိပ်၌ဖုံးထားတော်မူ၏။ ငါ့ကိုလည်းဦးသစ်
သောမြားသွားဖြစ်စေ၍၊ မိမိမြားတောင့်ထဲမှာဝှက်
ထားတော်မူ၏။ ဣသရေလ၊ သင်သည်ငါ၏ကျွန်
ဖြစ်၏။ သင်အားဖြင့်ငါဘုန်းသည်ထင်ရှားလိမ့်မည်
ဟုငါ့အားမိန့်တော်မူပြီ။ မိမိကျွန်ဖြစ်အလို့ငှါ၊ ငါ့ကို
အမိဝမ်းထဲမှစ၍ ဖန်ဆင်းတော်မူသောဘုရားသခင်
သည်မိန့်တော်မူသည်ကား၊ကြည့်ရှုလော့။ သင်သည်
မြေကြီးစွန်းတိုင်အောင်၊ ငါ၏ကယ်တင်ခြင်းကိုပြု
စိမ့်သောငှါ၊ သင့်ကိုတပါးအမျိုးသားတို့လင်းစရာ
ဘို့ ငါခန့်ထားသည်ဟုမိန့်တော်မူ၏။ သင့်ကိုရွေး
ကောက်တော်မူသော၊ ဣသရေလအမျိုး၏သန့်ရှင်း
သောဘုရား၏ကျေးဇူးတော်ကြောင့်၊ ရှင်ဘုရင်တို့

သည်မြင်၍ထကြွလိမ့်မည်။ မင်းသားတို့သည်လည်း၊ ကိုးကွယ်ကြလိမ့်မည်။

## Gospel. Luke i. 57—68.

### သံလုကားရေးထားသောကျမ်းထုပ်စကားတည်း။

ဧလိသဗက်သည် ဖွားအံ့သည်နေ့လစေ့သော်၊ သောကျားတယောက်ကိုဖွားမြင်သည်။ ထိုဧလိသဗက်၌၊ ဘုရားသခင်သည်ကယ်မသနားတော်မူသောကျေးဇူးတော်တန်ခိုးကိုပြတော်မူကြောင်းကို၊ အိမ်နီးချင်းပေါက်ဖော်တို့ ကြားသိလျှင်၊ သူနှင့်အတူဝမ်းမြောက်ဝမ်းသာခြင်းရှိ၍ကောင်းကြီးကျော်ညာကြကုန်၏။ နောက်ရှစ်ရက်မြောက်သောနေ့၌၊ သူငယ်ကိုဘာသာအလျောက်ကွပ်ညှပ်အံ့ငှါ၊ လာကြ၍၊ ဇာကရိခေါ်ဝေါ်သောအဖ၏အမည်ဖြင့် မှည့်မှန်အံ့တိုင်ပင်ကြစဉ်၊ အမိကစိတ်အလိုမတူ၊ ငြင်းဆန်၍၊ ဇာကရိအမည်ဖြင့်သူငယ်ကိုမဆောင်သင့်၊ ယွှင်ဟူသောအမည်သူ၏နာမဖြစ်ရသည်ဟုဧလိသဗက်ဆို၏။ လာကြကုန်သောသူတို့က၊ ရှင်မ၏ဆွေမျိုး၌ဤကဲ့သို့ခေါ်ဝေါ်ရသောသူ တယောက်မျှမရှိဟုပြန်ပြောကြ၏။ ထိုတချိန်တည်း၊ အဖအားအဘယ်အမည်ဖြင့်မှည့်မှန်စေလိုသနည်းဟုလက်ညှိုးပြ၍မေးကြကုန်သော်၊ အဖလည်း၊ သင်ပုန်းကိုတောင်း၍သူငယ်ကိုဆောင်ရွက်ရအံ့နာမကား၊ ယွှင်ပင်ဖြစ်သည်ဟုရေး၏။ သူအပေါင်းတို့လည်း၊ အံ့အားသင့်တွေ

ဝေလျှော်ရှိကြကုန်သည်။ ထိုခဏခြင်း၌လည်း၊ဇာကရိနှင်ဖွင့်လှစ်လျှော်လျှာလည်းအချည်အနှောင်မှလွတ်၊ စကားဖြင့်၊ ဘုရားကျေးဇူးတော်ကိုချီးမြှောက်လေ၏။ နီးစပ်သသူအပေါင်းတို့ ရှိသောကြောက်ရွံ့ထိပ်လန့်ခြင်းနှင့်နေကြလေသည်။ ဤအံ့ဖွယ်ရာသိတင်းစကားများလည်း၊ဂျူဒေအဆောင်ရှိရာအရပ်တိုင်ပြန့်လွင့်လေသည်။ ထိုအကြောင်းစကားကိုကြားသသူရှိသမျှတို့၊ စိတ်နှစ်လုံးထဲ၌မှတ်သား၍၊ တနေ့သ၌၊ ဤသူငယ်အဘယ်သို့ဖြစ်ရအံ့သည်။ဘုရားသခင်၏လက်တော်သည် သူငယ်နှင့်အတူရှိတော်မူ၏ဟုအချင်းချင်းပြောဆိုကြ၏။ အဖဇာကရိလည်း၊ သဗိရိတူးသံတူးကျေးဇူးတော်ကိုအပြည့်အစုံရ၍၊ မြတ်နိုးတော်မူသောလူမျိုး၊ ငါတို့၌ကြည့်ရှုကယ်ချွတ်ရအောင်ကြွလာတော်မူသောဣသရေလဘုရားသခင်ကိုရှိသေလေးမြတ်ချီးမွမ်းခြင်းရှိစေသတည်းဟု ပရောဖက်တညာဏ်ဖြင့်ပြောဆိုလေ၏။

——00——

*June* 29.

SS. PETER AND PAUL.

တပည့်တော်တို့သံပေတရုသံပေါက်လူပွဲနေ့။

Lesson. Acts xii. 1—11.

တပည့်ကြီးတို့ဝတ္တုကျမ်းမှနုတ်သောစကားတည်း။

ထိုအခါ။ဟေရုဒ်မင်းကြီးသည်သင်းတော်ဝင်သူအချို့တို့ကိုညှဉ်းဆဲခြင်းငှါပြု၏။ ယောဟန်၏အစ်ကိုယ်ဖြစ်

၎သောသောကုပ်ကို၊ ဓားနှင့်ကွပ်ချက်လေ၏။ ယုဒလူတို့သည့်အားရဝမ်းမြောက်ခြင်းရှိသည်ကိုမြင်လျှင်၊ အဇုမပွဲနေ့ရက်တို့၌တဖန်ထပ်၍၊ ပေတရုကိုလည်းဖမ်းဆီးပြီးမှ၊ ပသခါပွဲနောက်မှလူများတို့အားထုတ်မည်အကြံနှင့် အစောင့်အရှောက်စစ်သူရဲတကျိပ်ခြောက်ယောက်တို့၌အပ်၍ ထောင်ထဲမှာလှောင်ထားလေ၏။ ပေတရုသည်ထောင်ထဲ၌အကျဉ်းနေရစဉ်၊ သင်းတော်ဝင်သူတို့သည် သူ့အဖို့ကျိုးစား၍ဘုရားသခင်ကိုဆုတောင်းပဌနာပြုကြ၏။ဟေရုဒ်မင်းသည်ထုတ်ခါနီး၊ညည့်အချိန်တွင်ပေတရုသည်သံကြိုးနှစ်စင်းနှင့်ချည်နှောင်ခြင်းကိုခံရလျက်၊ စစ်သူရဲတို့နှစ်ယောက်တို့အလယ်၌အိပ်ပျော်၍ အစောင့်များတို့သည်ထောင်တံခါးရှေ့မှာစောင့်နေကြ၏။ ထိုအခါ၊ ဘုရားသခင်၏သိကြားတပါးသည်ပေါ်လာသဖြင့်၊ ထောင်အိမ်၌အလင်းထွန်းတော်လေ၏။သိကြားသည်ပေတရု၏နံပါးကိုမှတ်ခတ်၍ အလျင်အမြန်ထလောဟုဆိုလျက်ထစေ၏။ သံကြိုးသည်လည်း၊ ပေတရုလက်မှကျွတ်လေ၏။ သိကြားကလည်း၊သင်၏ခါးပန်းကိုစည်းလော့။ ခြေနင်းကိုလည်းစွပ်လော့ဟုဆိုလျှင်၊ ဆိုသည့်အတိုင်း ပေတရုပြု၏။ ဝတ်လုံကိုခြုံ၍ငါနောက်သို့လိုက်လော့ဟု ဆိုပြန်၏။ ပေတရုသည်ထွက်၍လိုက်သဖြင့်၊ သိကြားပြုသမျှတို့သည် မှန်သောအမှုအရာဖြစ်သည်ကိုမသိ။ မိမိသည်ဗျာဒိတ်ရူပါရုံကိုမြင်သည်ဟုမှတ်ထင်လေ၏။ လူစောင့်နှစ်တန်

ကိုကျော်သွား၍ မြို့ထဲသို့ဝင်သောသံတံခါးသို့ရောက်လျှင်၊ ထိုတံခါးသည်အလိုလိုပွင့်သဖြင့်သူတို့သည်ထွက်၍ လမ်းတချောင်းနှဳရှောက်သွားပြီးမှ၊ ချက်ချင်းအဲ့ကြွားသည်ပေတရုနှင့်ခွာ၍သွားလေ၏။ပေတရုသည်သတိရလျှင်၊ယခုပင်ဘုရားသခင်သည်မိမိသိကြွားကိုစေလွှတ်၍ဟေရုဒ်မင်းလက်မှရင်၊ယုဒလူတို့၏မျှော်လင့်ခြင်းမှရင်၊ငါ့ကိုကယ်နှုတ်တော်မူသည်ကိုငါအမှန်အဲ့၏ဟုဆို၏။

## Gospel. Matt. xvi. 13—19.

သံမာဿဲအနူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ အခင်ယေရှုသည် ဖိလိပ်ပုကေသာရေမြို့၏ကျေးလက်သို့ရောက်တော်မူသော်၊ တပည့်တော်တို့အားဤသို့အမေးတော်ရှိသည်။ သူခပ်သိမ်းတို့သည်လူ၏သားတော်ကိုအဘယ်သူဖြစ်သည်ကိုပြောကြသနည်း။တပည့်တော်တို့လည်း၊ပြန်လျှောက်ကြလေ၏။လူအချို့က၊ကိုယ်တော်သည်ဗတ္တိဇံ့သျှတဖြစ်ကြောင်း။ အချို့က၊ ဧလိယ။ အချို့က၊ယေရမိယ။ အချို့က၊ရှေးပရောဖက်တပါးပါး၊ကိုယ်တော်ဖြစ်ကြောင်းကို ထင်ကြလေသည်ဟုလျှောက်ကြလျှင်၊သခင်ယေရှုလည်း၊သင်တို့ငါ့ကိုအဘယ်သူဖြစ်သည်ထင်ကြသနည်းဟုအသစ်မေးတော်မူပြန်သော်၊သိမောင်ပေတရုက၊သခင်ဘုရား၊ကရိသျှတူးအရှင်ဖြစ်တော်မူသော ဘုရားသခင်

သားတော်အမှန်ဖြစ်တော်မူသည့်ဟုနားတော်လျှော်ခံ၏။ သခင်ယေရှုလည်း၊ဤသို့မိန့်တော်မူပြန်သည်။ ယေနာသားဖြစ်သောသင်သီမောင်၊ အထူးသဖြင့်မွန်မြတ်ဖြစ်သည်။ အကြောင်းမူကား၊ကိုယ်အသွေးကိုယ်အသားသွန်သင်သည်မဟုတ်၊ မိုဃ်းကောင်းကင်၌ရှိတော်မူသောငါ၏ခမည်းတော်၊ ဤအချက်ကိုသင်အားဖေါ်ပြတော်မူ၏။ ငါလည်း၊ သင်အားဗျာဒိတ်တော်ရှိသည်။ သင်သည်ကျောက်ဖျာဆိုလိုသောပေတရုဖြစ်သည်။ ငါလည်း၊ ဤကျောက်ဖျာပေါ်၌၊ငါ့အသင်းကိုဆောက်တည်ပါမည်။ ငရဲဘုံမှာအာဏာရှိသောသူအပေါင်းတို့လည်း၊ဤကျောင်းတော်ကိုမဖြိုမဖြက်၊အလျှင်မအောင်နိုင်ရာ။ ဤမှတပါး၊မိုဃ်းကောင်းကင်နိုင်ငံတော်၏သော့တို့ကိုသင်အားငါအပ်ပေးမည်။ မြေအပြင်၌သင်ချည်နှောင်လမည်။ အရာရှိလေသမျှကို၊ မိုဃ်းကောင်းကင်၌လည်းချည်နှောင်လျက်ရှိလမည်။ မြေအပြင်၌သင်သည့်ဖြေလွှတ်သမျှလည်း၊ ကောင်းကင်ဘုံ၌ဖြေလွှတ်လျက်ရှိလတ္တန့်သည်။

—— ၀၀ ——

*August* 15.

ASSUMPTION OF B. V. MARY.

## မယ်တော်မာရိယားမိုဃ်းကောင်းကင်တက်သည့်ပွဲနေ့။

Lesson. Eccles. xxiv. 11—20.

### သာဗိအင်စီယညာဏ်တော်အကြောင်းဆိုလိုသောကျမ်းမှနုတ်သောစကားတည်း။

ခပ်သိမ်းသောအရာ၌ရှိလေသမျှ၌၊ငြိမ်ဝပ်ခြင်းကိုငါရှာဖွေ၍၊ဘုရားသခင်နှင့်ဆိုင်ရာအမွေတော်၌ငါကျိန်းဝပ်ပါမည်။ ထိုအခါ၌ရှိသမျှတို့ကိုဖန်ဆင်းသောသခင်၊ ငါ့ကိုအမိန့်တော်ရှိ၏။ ငါ့ကိုဖန်ဆင်းတော်မူသောသူသည်၊ငါ့တဲအိမ်၌ကျိန်းဝပ်တော်မူ၍ဤသို့မျာဒိတ်တော်ရှိသည်။ ယာကုပ်၌တည်နေ၍၊ ဣသရေလမိုင်ထိုက်သောအမွေစုကိုခံသဖြင့်၊ ရွေးနုတ်သောသူတို့တွင်အမြစ်ကျလော့။ မြွက်၍ဤမျာဒိတ်တော်အချက်နှင့်အညီ၊ငါသည်ဇိအုန်၌အမြဲတည်နေ၍ချီးမြှောက်တော်မူသောမြို့၌လည်း၊ငြိမ်ဝပ်၍နေလျက်၊ယေရုသလင်ကိုငါသည်အစိုးရလေသည်။ ချီးမြင့်တော်မူသောလူမျိုးတို့၌အမြစ်ကျစွဲ၍၊ဘုရားသခင်နှင့်ဆိုင်ရာငါ့အမွေအစု၊သံတူးသူမြတ်တို့နှင့်တကွ ငါ၏ဌာနနေရာအမြဲတည်၏။ လိဗာနေ့တောင်ပေါ်၌၊သေဒရ်ကဲ့သို့။ ဇိအုန်တောင်၌၊စိဘရဲသုကဲ့သို့၊ငါမြှောက်လျက်ရှိ၏။ကတဲ၌၊စွံပလွံပင်။

ယေရိကိုးမြို့၌၊ နှင်းပန်းပင်အညွန့်တို့ကဲ့သို့ငါသည် စိုက်ပျိုးချီးမြှောက်လျက်ရှိ၏။ လယ်ပြင်တွင်လှမှုနှ့ သောသံလွင်ပင်၊ ရေအလယ်ရေပြွန်အနီးစိုက်ထား သောပလတ်နူအပင်ကဲ့သို့တင့်တယ်ခြင်းဖြင့် ငါ့ကို ဘုရားသခင်သည်မြှောက်စားလေသည်။ မွှေးကြိုင် ပျံ့လွင့်လှသောဘာသစ်ကြီးပိုးနှင့်၊ ဘာလ်ဆာမူကဲ့သို့ ၎င်၊ ကောင်းမွန်လှသောမိရာကဲ့သို့၎င်၊ ငါသည်ကြိုင် မွှေးလေသည်။

## Gospel. Luke x. 38—42.

### သံလူကားရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုသည်နိဂုဏ်းရွာတရွာ သို့ဝင်တော်မူ၍၊ မာရ်တားအမည်ရှိသောမိန္မမြတ် တဦး၊ မိမိအိမ်၌ကိုယ်တော်မြတ်ကိုသိမ်းလေသည်။ ထိုမာရ်တား၌၊မာရိယားအမည်တွင်သောညီမရှိ၍။ ထိုမာရိယားသည် သခင်ယေရှုခြေတော်ရင်း၌ထိုင် နေသဖြင့်၊နှုတ်တော်ထွက်ကိုနားခံယူလေ၏။ မာရ် တားသည်ကား၊ ကိုယ်တော်ကိုလုပ်ကြွေးရုံစီမံအား ထုတ်ပြုရာတွင်၊ ကိုယ်တော်ရှေ့ရောက်၍အကျွန်ုပ် ညီမသည်လုပ်ဆောင်ရုံရှိသမျှကို၊အကျွန်ုပ်အားသာ ပြစ်ထားနေသည့်အရာ၊ သခင်သတိတော်မရှိပါ လော။ အကျွန်ုပ်နှင့်ကူညီရွက်ဆောင်ကြောင်းကို၊ ညီမအားအမိန့်တော်မြတ်ရှိတော်မူပါဟု လျှောက် ၏။ သခင်ယေရှုလည်း၊မာရ်တားမာရ်တား၊စိတ်၏

ချော်ကျချောခြင်းနှင့်အမှုများစွာ၌မငြိမ်မသက်ရှိလှ
သည်။ အမှုတခုသာ၌လွှကြီးမားသောအကြောင်း
ဖြစ်သည်။ မာရိယားသည်ကား၊အလွန်ကောင်းမြတ်
သောအမှုအရာကိုရွေးလေသည်။ ထိုအရေးအမှုကို
လည်း၊သူ့၌ရှိသည်သူမျာနှုတ်မယူရရှိလမည်။

—— ၀၀ ——

*November* 1.

FEAST OF ALL SAINTS.

သံတူးအပေါင်းတို့နေ့။

Lesson. Rev. vii. 2—12.

ဗျာဒိတ်တော်ကျမ်းမှနှုတ်သောစကားတည်း။

ထိုနေ့တို့၌။ အာဂျုနိုဝ်ဓွာင်သည်၊နေထွက်ရာအရပ်
မှတက်၍ အရှင်ဖြစ်တော်မူသော ဘုရားသခင်တ
မိတ်တော်ဆောင်ရွက်သော၊အခြားသိကြားတပါး
ကိုမြင်ရသည်။ ထိုသိကြားသည်ကား၊မြေပင်လယ်
နာကြင်စွာဆုပ္ပအခံ၄ါ၊ အမိန့်တော်နှင့်သိကြားလေး
ပါးကိုကြီးစွာသောအသံပြု၍ဤသို့ဆိုလေ၏။ ငါတို့
ဘုရားသခင်ရွေးနှုတ်သောအစေတို့ကို နဖူး၌မှတ်
သားမ၊ မြေပင်လယ်သစ်ပင်တို့ကို၊ ခင်နာကြင်စွာမ
ပြုကြနှင့်ဟုဟစ်ကျော်လေ၏။ ထိုအခါ၌၊ ဣသရေ
လလူမျိုးတဆယ်နှစ်စုဟူ၍၊ တသိန်းလေးသောင်း
လေးထောင်တို့မှတ်သားရမြဲသည်ကို ငါကြားရ

သည်။ ယုဒအစုက၊ တသောင်းနှစ်ထောင်။ ရုဗင်အစုက၊ တသောင်းနှစ်ထောင်။ ဂါဒ်အစုက၊ တသောင်းနှစ်ထောင်။ အာရှေရ်အစုက၊ တသောင်းနှစ်ထောင်။ နဿလိအစုမှ၊ တသောင်းနှစ်ထောင်။ မနာသေအစုမှ၊ တသောင်းနှစ်ထောင်။ သိမောင်အစုမှ၊ တသောင်းနှစ်ထောင်။ လေဝိအစုမှ၊ တသောင်းနှစ်ထောင်။ ဣသခါရ်အစုမှ၊ တသောင်းနှစ်ထောင်။ ဇာဗုလုန်အစုက၊ တသောင်းနှစ်ထောင်။ ယောသပ်အစုက၊ တသောင်းနှစ်ထောင်။ ဗင်ယာမိန်အစုက၊ တသောင်းနှစ်ထောင်။ ထိုနောက်မှငါကြည့်လျှင်၊ လူအမျိုးအနွယ်၊ အစုဒေသဘာသာတကာတို့မှထွက်၍ မည်သူမျှမရေမတွက်နိုင်သော၊ ဖြူသောအဝတ်ကိုဝတ်ဆင်၍ အဖူးအညွန့်ကိုကိုင်စွဲလျက်၊ ပလ္လင်တော်ရှေ့၊ သိုးငယ်တော်ရှေ့၊ ရပ်နေကြသည့်လူအတွေကိုငါမြင်ပါပြီး။ ထိုလူအပေါင်းတို့သည်၊ ကြီးစွာအသံဖြင့်၊ ရှေ့ပလ္လင်တော်၌ထိုင်နေတော်မူသောဘုရားသခင်နှင့်သိုးငယ်တော်အား ကယ်တင်ခြင်းချမ်းသာရှိစေသတည်းဟု ဩးမြွက်ကျော်ညာကြကုန်၏။ သိကြွားအပေါင်းတို့လည်း၊ ရှေ့ပလ္လင်တော်ရှေ့၊ အသက်ကြီးသောသူတို့ရှေ့၊ သတ္တဝါလေးပါးတို့ရှေ့ရပ်နေမှ၊ ပလ္လင်ရှေ့တဖန်ညွှတ်ပျပ်လျက်အာမင်စကားကိုဆို၍ဘုရားသခင်ကိုရှိခိုးကြ၏။ ချီးမွမ်းခြင်း၊ ကျော်စောတင့်တယ်ခြင်း၊ ကျေးဇူးတော်ကိုအောက်မေ့ခြင်း၊ ရိုသေလေးမြတ်ခြင်း၊ အစိုးရ

တော်မူခြင်းအစဉ်အဆက်အတိုင်း၊ ငါတို့ဘုရားသခင်အားအစည့်မပြတ်ဖြစ်စေသတည်း။

Gospel. Matt. v. 1—12.

သံခါတဲအရူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ များစွာသောလူအပေါင်းတို့ကို သခင်ယေရှုးသည်ကြည့်ရှုတော်မူလျှင်၊ တောင်ရှိရာသို့တက်ကြွတော်မူ၍၊ ထိုအရပ်၌ထိုင်နေတော်မူပြီးမှ၊ တပည့်တော်တို့သည် ကိုယ်တော်ရင်းသို့ချဉ်းရောက်ကြကုန်၏။ သခင်ယေရှုးသည်လည်း၊နှုတ်တော်လှစ်၍တပည့်တော်တို့အား ဆုံးမသွန်သင်တော်မူလျက်၊ ဤသို့မြွက်ဆိုတော်မူ၏။ အတွင်းစိတ်ဖြင့်ဆင်းရဲသောသူတို့မင်္ဂလာရှိကြ၏။ ရွှေပြည်နိုင်ငံတော်သည်သူတို့၏နိုင်ငံဖြစ်၏အကြောင်းတည်း။ သိမ်မွေ့နူးညံ့သောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည်မြေကြီးကိုအစိုးရအံ့အကြောင်းတည်း။ ငိုကြွေးသောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည် စိတ်ပြေခြင်းသို့ရောက်ရအံ့အကြောင်းတည်း။ တရားသစ္စာကိုငတ်မွတ်ရှိသောသူတို့ မင်္ဂလာရှိကြ၏။ ထိုသူတို့သည်ပြည့်ဝကြအံ့အကြောင်းတည်း။သနားခြင်းရှိသောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည်အသနားကိုခံကြအံ့အကြောင်းတည်း။ စိတ်ဖြင့်ဖြူစင်သောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည်ဘုရားသခင်ကိုဖူးမြင်ရကြအံ့အကြောင်းတည်း။ ရန်ငြိမ်း၍ငြိမ်သက်စွာ

နေသောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည်ဘုရားသခင်၏သားခေါ်ဝေါ်ခြင်းကိုခံရကြအံ့အကြောင်းတည်း။တရားသစ္စာကြောင့်ညှဉ်းဆဲခြင်းကိုခံသောသူတို့မင်္ဂလာရှိကြ၏။ ထိုသူတို့သည်နိုင်ငံတော်ကိုပိုင်ထိုက်ကြ၏အကြောင်းတည်း။ ငါ၏အမှုတော်ကြောင့်၊ သင်တို့အားလူတို့သည် ကျိန်ဆဲလိုက်လံညှဉ်းပန်း မမှန်ဘဲလျက်ကတိုက်၍ အပြစ်တကာသင်တို့အပေါ်၌တင်သည့်ကာလ၊ သင်တို့အလွန်ကောင်းမြတ်ကြ၏။ဝမ်းသာအားရရွှင်ပမြူးထူးခြင်းနှင့်ရှိကြကုန်။ အကြောင်းမူကား၊ သင်တို့မိုဃ်းကောင်းကင်၌ ခံစံရမည်အကျိုး များလှသည်အကြောင်းတည်း။

——00——

*November 2.*

COMMEMORATION OF THE FAITHFUL DEPARTED.

သေလွန်သောဘာသာတူလူအပေါင်းတို့ကို မေတ္တာပြုရသည့်နေ့။

Epistle. 1 Cor. xv. 51—57.

သံပေါလ်လူး ကော်ရင်တိမြို့သားတို့အား ရေးထားသောပဌမဆုံးမစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ ငါသည်သင်တို့အားထုပ်ဖေါ်သောနက်နဲဖုံးဖိတ်လျက်ဘာသာစကားသည်ရှိ၏။ တံနေ့သည်၌၊ ငါတို့ရှိလေသမျှသည့်ရှင်ပြန်ကြရ

မည်။ဧကံဖြစ်သည်။ သို့ရှိညားသော်လည်း၊ ဝိသိဒ်း
သောသူတို့ကိုယ်၏ပြောင်းလဲခြင်းဟုမရှိရ။ နောက်
ဆုံးသော တံပိုးမှုတ်သောအခါ တခဏမျက်စိတ
မှိတ်တွင်တံပိုးခရာမှုတ်လျှင်သေသောသူအပေါင်း
တို့သည်မပုတ်မဆွေးကိုယ်ဖြင့်ရှင်ပြန်ကြ၍၊ ထိုအ
ခိုက်တွင်ငါတို့ရှိသမျှသည်ပြောင်းလဲခြင်းသို့ရောက်
ကြရမည်။ ဆွေးမြေ့ပုတ်တတ်သော၍ကိုယ်သည်၊
မပုတ်နိုင်သောအဖြစ်သို့။ သေခြင်းမကင်းသော၍
ကိုယ်သည်၊မသေနိုင်သောအဖြစ်သို့ဝင်စားရမည်။
သေတတ်သော၍ကိုယ်သည်၊မသေနိုင်သောအဖြစ်
သို့ဝင်စားသောအခါ၊ သေခြင်းသည်အောင်ခြင်း၌
မျိုဖျက်လေပြီး။ သေမင်းကိုအောင်မြင်ခြင်းအရာ
အဘယ်မှာရှိသနည်း။ သေမင်းလှံကန်အဘယ်မှာ
ရှိသနည်း။ ဤကျမ်းစကားသည်ထိုအချိန်၌ပြည့်စုံ
လမည်။ ယခုမှာ၊ ငါတို့ကိုသေးမင်းသည်ထိုးသည်
လှံကန်အခြားမဟုတ်၊အပြစ်ဒုစရိုက်ပေတည်း။ တ
ရားတော်လည်း၊အပြစ်ငရဲတို့၏ခွန်အား ပင်ဖြစ်သည်။
ထိုကြောင့်၊ ငါတို့သခင်ယေရှုးကရိသ္တုတူးစောင်မ
ခြင်းဖြင့် ဘုရားသခင်ပေးသနားတော်မူသောငါတို့
အားအောင်မြင်ခြင်းကို၊ ကျေးဇူးတော်သည်ကြီးလှ
စွတကား။

## Gospel. John v. 25—29.

## သံဖွင့်ရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ သခင်ယေရှုးသည်ဇုဒေအရူးတို့ကို ဤသို့အမိန့်တော်ရှိသည်။ ငါသည်သင်တို့အားအမှန်အကန်ဆိုသည်ကား၊ သေသောသူတို့သည်ဘုရားရှင်သားတော်အသံကိုကြားရလမည်။ ထိုကြားသောသူတို့သည်လည်း၊ အသက်ရှင်ရမည့်အချိန်နာရီနီးသည်မျှမက၊ လာရောက်စပြေပြီး။ မိမိအလျှောက်ခမည်းတော်သည် အသက်ရှင်ခြင်းပြည့်စုံသည်အတိုင်း၊ သားတော်၌လည်းအသက်ရှင်ခြင်းပြည့်စုံပါအောင်သနားတော်မူ၍၊ ထိုသားတော်သည်လူသားဖြစ်သောကြောင့် လူအပေါင်းတို့ကိုစီရင်စစ်ကြောရမည့်အခွင့်ကိုအပ်နှင်းတော်မူသည်။ ဤအကြောင်းကိုဖွယ်ရာဟူ၍ သင်တို့သည်မမှတ်ကြနှင့်။ သင်းဂျိုဟ်သောတွင်းထဲ၌ရှိသော လူအပေါင်းတို့သည်၊ ဘုရားရှင်သားတော်၏အသံတော်ကို ကြားရမည့်အချိန်နာရီရောက်လာလမည်။ ကောင်းမြတ်သောအကျင့်ကိုကျင့်သည့်သူတို့လည်း၊ တွင်းမှထွက်၍အသက်ရှင်ခြင်းချမ်းသာပြည့်စုံအောင် ရှင်ပြန်ကြလမည်။ ယုတ်မာဆိုးသောအကျင့်ကိုကျင့်သူတို့သည်မူကား၊ အပြစ်ဆိုးရှုံးခြင်းခံရအောင် ရှင်ပြန်လမည်။

——00——

## MASS FOR BRIDEGROOM AND BRIDE.

## မင်္ဂလာဆောင်ဦးသူတို့တို့။

### Epistle. Ephes. v. 22—33.

### သံပေါက်လူးအဲခဲဖဲသူမြို့သားတို့အားရေးထားသော ဆုမ္မစာမှနုတ်သောစကားတည်း။

ညီအစ်ကိုယ်တို့။ မိမ္မတို့သည်ဘုရားသခင်အောက်မှ နှိမ့်ချစွာနေသကဲ့သို့၊ မိမိတို့ခင်ပွန်းအောက်မှနှိမ့်ချ ခြင်းနှင့်နေစေ။ ယေရှုးကရိသ္သုတူးသခင်သည်၊ အ သင်းတော်၏အပေါ်မှာ ခေါင်းအကြီးဖြစ်တော်မူ သကဲ့သို့၊ ယောကျ်ားသည်လည်း၊ မိမိခင်ပွန်း၏ခေါင်း ဖြစ်တော့သည်။ ထိုကြောင့်၊ အသင်းတော်သည်က ရိသ္သုတူးသခင်၏အုပ်စိုးတော်မူခြင်းကို ဝန်ခံသကဲ့ သို့၊ မိမ္မတို့လည်း၊ ကိုယ်ခင်ပွန်း၏အုပ်စိုးခြင်းကိုအ ရာရာ၌ဝန်ခံကြရမည်။ အချင်းယောကျ်ားတို့၊ ကရိသ္သု တူးသခင်သည် အသင်းတော်ကိုချစ်တော်မူသကဲ့ သို့၊ သင်တို့လည်း၊ ကိုယ်ခင်ပွန်းကိုချစ်ကြလော့။ ထို အသင်းတော် အညစ်အကြေးအပြစ်ရှိသမျှ ကင်း လွတ်မည်မျှမက လွန်မြတ်သောသန့်စင်စွာဖြစ်လျက် ကိုယ်တော်ရှေ့ တင့်တယ်စွာရှိရအံ့သောငှါ၊ အ သက်ရှင်ခြင်းပေးတတ်သော နုတ်ကပတ်တော်နှင့် ရေဖြင့်ဆေးကြောခြင်းအားဖြင့် သန့်ရှင်းစေမည်အ ကြောင်း၊ ထိုသခင်သည်အသင်းတော်အမှိုအလို့ငှါ အသေခံတော်မူသည်။ ဤလောက်မျှယောကျ်ားတို့

လည်း၊ မိမိခင်ပွန်းကိုချစ်ခင်မြတ်နိုးရမည်။ မိမိခင်ပွန်းကိုလေးမြတ်သသူသည်၊ ကိုယ်ကိုချစ်သည်။ မိမိကိုယ်သားကိုမုန်းတားအံ့ တယောက်မျှမရှိနိုင်။ ယေရှုးကရိသျှတူးသခင်သည်အသင်းတော်ကိုမွေးကျွေးကြည့်ရှုသကဲ့သို့၊ အသီးအသီးမိမိတို့အသားကိုကျွေးမွေးလေသည်။ အကယ်၍သခင်ယေရှုးကရိသျှတူးကိုယ်တော်၌ အင်္ဂါအသားတော် အရိုးတော်တို့အပင် ငါတို့ဖြစ်ကြ၍၊ ဤအကြောင်းဖြင့်ယောကျ်ားသည်၊မိဘတို့ကိုစွန့်၍မိမိခင်ပွန်းဖြင့်ချည်းကပ်နေသဖြင့်၊ ထိုသူနှစ်ယောက်တို့သည်တသားတကိုယ်တည်းဖြစ်ရလိမ့်မည်။ဤအရာသည်အလွန်နက်နဲသောသတ္တရမင်တူးဖြစ်ပေ၏။ ထိုသို့ငါဆိုသော်၊ ကရိသျှတူးသခင်နှင့်အသင်းတော်ကိုရည်မှတ်၍ဆိုသတည်း။သို့ရာတွင်၊သင်တို့သည်အသီးအသီးကိုယ်ကိုကိုယ်ချစ်သကဲ့သို့၊ ကိုယ်ခင်ပွန်းကိုချစ်ကြလော့။ မိမ္မတို့သည်လည်း၊ ကိုယ်ခင်ပွန်းကိုရိုသေခြင်းရှိစေကြလော့။

Gospel. Matt. xix. 3—6.

သံမာတဲအုူးရေးထားသောကျမ်းထုပ်စကားတည်း။

ထိုကာလ၌။ ဖာရိသယ်အုတို့သည်သခင်ယေရှုးအထံတော်သို့လာ၍၊ ခပ်သိမ်းသောအပြစ်ကြောင့်လူသည် မိမိမယားနှင့်ကွာအပ်သလောဟု စုံစမ်းနှောင့်ရှက်ခြင်းငါမေးလျှောက်ကြသော်၊ ကိုယ်တော်

၈၁၊ အစအဦး ၌ ဖန်ဆင်းတော်မူသောဘုရားသခင်
သည်၊ ယောက်ျားနှင့်မိန္မနှစ်ယောက်တည်းကိုဖန်
ဆင်းတော်မူ၏။ ထိုအကြောင်းကြောင့်၊ ယောက်ျား
သည်ကိုယ်မိဘကိုစွန့်၍ကိုယ်ခင်ပွန်း၌မှီဝဲသဖြင့်၊ ထို
သူနှစ်ယောက်တို့သည် တသားတကိုယ်တည်းဖြစ်
ရလိမ့်မည်ဟု ကျမ်းဆိုသည်ကိုသင်တို့မဖတ်ဘူးသ
လော။ ထိုကြောင့်၊လင်မယားတို့သည်နှစ်ဦးမဟုတ်၊
တဦးတည်းဖြစ်၏။ဘုရားသခင်စုံဖက်တော်မူသော
အရာကို၊လူမခွဲမခွာစေနှင့်ဟုမိန့်တော်မူ၏။

THE END.

